အမရပူရမြို့ • မင်္ဂလာတိုက်ဟောင်း

ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ

# မိုးကုတ်ဆရာတော်ဘုရားကြီး




# ထေရုပ္ပတ္တိနှင့်ကျင့်စဉ်

အမရပူရမြို့ မင်္ဂလာတိုက်ကျောင်း

ကျေးဇူးတော်ရှင်

အဂ္ဂမဟာပဏ္ဍိတ

မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဓမ္မုပ္ပတ္တိ နှင့် ကျင့်စဉ်

စာရေးသူ

မိုးကုတ် ဆရာတော်ဘုရားကြီး၏
မင်္ဂလာရိပ်သာကျောင်းတိုက်
ကျောင်းဒါယကာ – ဦးကျော်သိန်း

ဘာသာရေးဆိုင်ရာ စာမူခွင့်ပြုချက် အမှတ် (၁၈၁/၉၃) (၆)

မျက်နှာဖုံးခွင့်ပြုချက်အမှတ်(၁၅၉/၉၃) (၁၂)

ပဋ္ဌမအကြိမ် စာအုပ်ရေ (၁၀၀၀)

၁၉၉၄-ခုနှစ်၊ ဇန်နဝါရီလ။

ဖြန့်ချိရေးဌာန.... ဦးကျော်စိန် (အောင်မြန်မာ)
အမှတ် (၈၅)ဈေးချို-အောက်လိုင်း၊
မန္တလေး။ ဖုံး—၂၅၁၃၄။
အမှတ် ၁၁၃-လမ်း၃၀၊ ၈၀/၈၁လမ်းကြား
မန္တလေး၊ ဖုံး -၂၅၁၃၅။

ထုတ်ဝေသူ.... ဦးမိုးကြည် (မြဲ ၀၉၅၈)
မိုးကြည် စာပေ၊ ၃၈၇/က၊ ၇-ရပ်ကွက်၊
ဖျာပုံလမ်း၊ မြောက်ဒဂုံ။

ပုံနှိပ်သူ.... ဦးနန္ဒ (၀၃၅၉၇)၊ သီရိနန္ဒာ စာပုံနှိပ်တိုက်၊
အမှတ်—၂၁၅၊ ၃၂လမ်း၊ ရန်ကုန်မြို့။

အဖုံးရိုက်.... သီရိနန္ဒာ ပုံနှိပ်တိုက်
ဦးနန္ဒ (၀၃၅၉၇)၊ အမှတ်—၂၁၅၊
၃၂ လမ်း၊ ရန်ကုန်မြို့။

# ကျေးဇူးရှင်မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်းဒေသနာ





ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီးပုံတော်

# မာတိကာ

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |

| ဦးရေ | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

*



ဆရာတော်ဘုရာကြီ၏ အရို အသွေ၊ အသာတော်တို့မှ
ဖြစ်ပေါ်လာသော ဓာတ်တော်များ ။



ဆရာတော်ဘုရာ ကြီ ၏ အမရပူရမြို့တွင် ကျန်ရှိနေသည့်
မီးမခသော အံပွားတော်



ဆရာတော်ဘုရားကြီး၏ မီးမခသောမျက်လုံးတော်တစ်စုံအနက်မှ
မိုးကုတ်မြို့တွင် ကျန်ရှိနေသော မျက်လုံးတော်ပုံ



မိုးကုတ်ဆရာတော်ဘုရားကြီးငယ်ရွယ်စဉ်
ရဟန်းဘဝပုံတော်

# နိဒါန်း—မှာကြားလွှာ



အမရပူရမြို့ မဂ်လာတိုက်ဟောင်း ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီးသည် မိမိထံမှောက်သို့ ရောက်လာကြသော ယောဂီများအား ရောက်လျှင်ရောက်ခြင်း တရားအားထုတ်ရန် အလုပ်ကိုအလျင်မပေးသေးဘဲ ခရီးရောက်မဆိုက် ဝိပဿနာအလုပ်ခွင်သို့ ဝင်ရန် ခိုင်းစေခြင်းမပြုပါ။ ပထမဆင့်အနေဖြင့် ရုပ်-နာမ်ကွဲအောင် နည်းပရိယာယ် အမျိုးမျိုးဖြင့် ဟောကြားတော်မူပါသည်။ ၎င်းနောက် ဒိဋ္ဌိစွဲမှုကို ကွာအောင် ဟောကြားတော်မူပါသည်။ ဒိဋ္ဌိခွာမှုတွင်လည်း ပဋိစ္စသမုပ္ပါဒ် အကြောင်း အကျိုး ဆက်သွယ်ပုံကို အလျင်ပြ၍ဟောတော်မူပါသည်။ ဆရာတော်ဘုရားသည် ဒိဋ္ဌိပြုတ်မှုကို ရှေ့ထားပြီး ဝိပဿနာပွားမှုကို နောက်ထားရန် အမြဲ သတိပေး ဟောပြောလေ့ရှိပါသည်။ သို့မှု တည်းဟူသော ဉာတပရိညာကို ရှေးဦးစွာ ပေး၍ တီရဏပရိညာ အလုပ်ကို နောက်မှ ပေးပါသည်။

၁။ ညဏ်နုသော ယောဂီများပင် ခန္ဓာဉာဏ်ရောက် သိမြင်လာအောင် စိတ်ရှည်စွာ ကရုဏာထားလျက် အမျိုးမျိုးအဖုံဖုံ ဩဝါဒကို ရှေးဦးစွာ ပေးပါသည်။

၂။ ပဋိစ္စသမုပ္ပါဒ် နည်းဖြင့် အကြောင်း အကျိုး ခွဲလျက် သက္ကာယ, သဿတ, ဥစ္ဆေဒစသော ဒိဋ္ဌိခွာမှုကို ဒုတိယ ဩဝါဒအနေဖြင့် ပေးပါသည်။

၃။ ယောဂီတို့၏ စရိုက်အားလျော်စွာ (က)ကာယာနုပဿနာ၊ (ခ) ဝေဒနာနုပဿနာ၊ (ဂ) စိတ္တာနုပဿနာ၊ (ဃ) ဓမ္မာနုပဿနာစသော အလုပ်ပေး တရားတော်များကို တတိယ အနေဖြင့် ပေးပါသည်။

၄။ ဆရာတော်ဘုရားကြီး ကိုယ်တိုင် အချိန်ကို အလွန် တိကျ မှန်ကန်စွာ ကျင့်သုံးတော်မူသည့်ပြင် တပည့် ယောဂီများ ကိုလည်း အချိန်ကို လေးစား တိကျစွာ လိုက်နာစေပါ သည်။

၅။ ဆရာတော်ဘုရားကြီးကိုယ်တိုင် တရားအားထုတ်လာသော ယောဂီပုဂ္ဂိုလ်များကို ဘုရားဟော ဒေသနာတော်များနှင့် အညီ တရားပေးခြင်း၊ တရားစစ်ဆေးခြင်းကို ကြပ်မတ်ကာ နည်းပေး ဆုံးမတော်မူလေ့ ရှိပါသည်။

ဤမျှ တိကျပြတ်သားစွာ တရားဓမ္မအရာနှင့် စာပေပို့ချရာတွင် သူမတူအောင် ထူးကဲ လွန်မြောက်သော ပုဂ္ဂိုလ်ဖြစ်ကြောင်း၊ သိရှိရ အောင် ဤထေရုပ္ပတ္တိကို သေချာ ကျနစွာ ဖတ်ရှုတော်မူကြပါရန် ပန်ကြားအပ်ပါသည်။

ဦးဇောတိက

မင်္ဂလာရိပ်သာ ကျောင်းတိုက်

အမရပူရမြို့။

....ဝ....

# နိဒါန်း — ပန်ကြားလွှာ



**ခဏလေး ဖတ်ရှုလေ့လာစမ်းပါ—**

၁။ ခန္ဓာကိုယ်ကြီး ရနေတာလဲ ခဏတစ်ပါး။
၂။ သာသနာတော်ကြီးနဲ့ ကြုံတွေ့နေရတာလဲ ခဏတစ်ပါး။
၃။ အာယတန (၆)ပါး မချို့တဲ့ခြင်းဟာလဲ ခဏတစ်ပါး။
၄။ တရားတော်ကို အားထုတ်ရခြင်းဟာလဲ ခဏတစ်ပါး။

ဒီ ခဏလေးပါးနဲ့ ကျွန်တော်တို့ ခင်ဗျားတို့ဟာ ကံကောင်းလွန်းလို့ တွေ့ရတုန်း ကြုံရတုန်း ဆရာတော်ဘုရားကြီးရဲ့ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်ကို ခဏလေး ဖတ်ကြည့်မယ်ဆိုရင် ဒိဋ္ဌိခွာပုံ, တရားအားထုတ်ပုံ, အားထုတ်နည်း, ရှင်းရှင်းလင်းလင်း ပြတ်ပြတ်သားသား တိတိကျကျ ခဏလေးလောက် အချိန်အတွင်း နားလည် သဘောပေါက်မယ်ဆိုတာ သေချာပါတယ်။

ဒီ ခဏလေးကြုံကြိုက်တုန်း တရားတော်ကို ကြိုးကြိုးစားစားအားထုတ်ရှုပွားမယ်ဆိုရင် မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို ရနိုင်သောကြောင့်အပါယ်လေးပါးမှ ကင်းလွတ်နိုင်ပါတယ်။ ဒီ ခဏလေးပါးနဲ့ ကြုံကြိုက်တုန်း သူတော်ကောင်းတရားကို မကြိုးစား အားမထုတ်ဘဲနေခဲ့ရင် အပါယ်လေးပါးနဲ့ တွေ့ကြုံရမယ်ဆိုတာ သေချာပါတယ်။ ဒီ ခဏလေးပါးနဲ့ တွေ့ရတဲ့ အချိန်အတွင်းမှာပင် အာယတန ၆ ပါး တစ်ပါးပါး မပျက်စီးနိုင်ဘူးလို့ စိတ်ချမနေနိုင်တဲ့ပြင် ခန္ဓာကိုယ်ကြီးရဲ့ သက်တမ်းဟာ ဘာမှရှည်တာမဟုတ်ဘူး။စိတ္တက္ခဏတစ်ချက်သာ အသက်ရှည်နေတော့ အချိန်ကောင်း အခါကောင်းကို မီသော်လဲ ကြိုးစားပြီး တရားအလုပ် အားမထုတ် မလုပ်ခဲ့လို့ရှိရင် ကိုယ်ပိုင်ပစ္စည်းဥစ္စာ အစစ်ဖြစ်တဲ့ မဂ်ဉာဏ် ဖိုလ်ဉာဏ်ဟာမရနိုင်တော့ပါဘူး။အပါယ်လေးပါးမှာဆင်းရဲဒုက္ခခံစား

ကြရမယ်။ ဒီခဏ အချိန်ကောင်း အခါကောင်းလေးဟာ အလွန်အရေးကြီးပါတယ်။ ဒီခဏ လွန်သွားလို့ရှိရင် အဲဒီ ခဏလေးကို ပြန်လိုချင်လို့ မရတော့ပါ။ ဒါကြောင့် ဒီခဏလေးကို မလွန်စေရန် အမြန်ဆုံး တစ်မဂ်တစ်ဖိုလ်ရနိုင်အောင် တရားအားထုတ်နိုင်ကြစေရန် လေးစားစွာဖြင့် တိုက်တွန်းလိုက်ရပါတော့သည်။

ယခု စတုတ္ထအကြိမ်အနေဖြင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်စာအုပ်ကို ပြန်လည်တင်ဆက်ရခြင်းမှာ အမြို့မြို့အနယ်နယ်ရှိ ဆရာတော်ဘုရားကြီး၏ တပည့်အပေါင်းနှင့် ထုတ်ဝေခဲ့ပြီးသော စာအုပ်အရေအတွက်မှာ အလွန်တရာနည်းပြီး မမျှတပါသောကြောင့် မြို့နယ်အချို့မှ မဖတ်ရသေးသော စာဖတ်ရှုသူအပေါင်း၏ တောင်းဆိုချက်အရ စတုတ္ထအကြိမ် ရိုက်နှိပ်ထုတ်ဝေရခြင်းဖြစ်ပါသည်။ ထို့ပြင် ပထမအကြိမ် ထုတ်ဝေရာတွင် စာမျက်နှာရှက်ရေများပြီး စာအုပ်တန်ဖိုး ကြီးလေးမည်စိုးပါသဖြင့် ဆရာတော်ဘုရားကြီး ဟောကြားဆုံးမထားသော တရားအချို့ကို အနည်းငယ်အကျဉ်းချုံး၍ ထုတ်ဝေခဲ့ပါသည်။ ယခု စတုတ္ထအကြိမ် ထုတ်ဝေရာ၌ အဆိုပါ အကျဉ်းချုံးခဲ့သော တရားစာပိုဒ်အချို့ နှင့် ခုတ်ပုံဘလောက်များကို ပြန်လည်ဖြည့်စွက် ထုတ်ဝေလိုက်ရပါကြောင်း။

ကျော်သိန်း
စာရေးသူ။

# ထပ်ဆင့်နိဒါန်း

အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိစာတမ်းကိုဆရာတော်ဘုရားကြီး၏တပည့်ဖြစ်သူ "ရှင်ကုဏ္ဍလ သာသနဓဇ သိရီပဝရ မဟာဝရိယ" က ခန္ဓာဝန်ချတော်မူခါစ မြန်မာသက္ကရာဇ် ၁၃၂၄ ခု၊ သီတင်းကျွတ် လပြည့်ကျော် (၄) ရက်နေ့ နောက်ပိုင်း ရက်သတ္တ (၂) ပတ်လောက်အတွင်း ထက်မြက်လှစွာသော ဉာဏ်၊ ကြီးမားလှစွာသော ဝီရိယတို့ဖြင့် စီစဉ်ရေးသား ထုတ်ဝေပြီး ဖြစ်ပါသည်။ သို့ဖြစ်ပါလျက် အဘယ့်ကြောင့် ဤထေရုပ္ပတ္တိ စာတမ်းနှင့် ပဋ္ဌာနစဉ် ကျင့်စဉ်များကို ယခုတစ်ဖန် ထုတ်ဝေရပြန်သလဲလို့ မေးစရာ ဖြစ်နေပါသည်။ မေးသင့် မေးထိုက်သော မေးခွန်း ဖြစ်နေပါသည်။ အမေးရှိက အဖြေရှိရပေမည်။

ပထမအဖြေမှာ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ရှစ်တရက် နာရီပိုင်းလောက်သာ ဝေဒနာခံစားလိုက်ရပြီး ခန္ဓာဝန်ချတော်မူသဖြင့်ကြားရ မြင်ရသူတိုင်း ကြေကွဲဝမ်းနည်းနေကြောတမ်းတသောက ပရိဒေဝမီးတွေ လောင်မြိုက်ခိုက်, ဆရာတော်ဘုရားကြီး၏ ဈာပနကိစ္စ ၁၀၀ ကိုလည်း တင့်တယ် သိုက်မြိုက်စွာ သဂြိုဟ်ရန်ကိစ္စ ဆောင်ရွက်ရေးကို ဦးစားပေး လုပ်ဆောင်ရခိုက် ဖြစ်သဖြင့် မအားမလပ်ရကားဘေးမှအကူညီကို အပြည့်အဝ မရရှာဘဲ ဈာပနကိစ္စအတွင်း အလျင်စလို ထုတ်ဝေလိုက်ရသော ထေရုပ္ပတ္တိစာတမ်းဖြစ်ပါသည်။

ယခုသော်-ယနေ့တိုင် အသက်ရှင်လျက်ရှိကြသော ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဆွေမျိုးသားချင်းနှင့်, ရဟန်းရှင်လူ မိတ်သင်္ဂဟများထံ လိုက်လံစုံစမ်း မေးမြန်း၍ စာရေးသူ သိရှိထားသော ဖြစ်ရပ်မှန် အချက်အလက်များကိုလည်း စာဖတ်သူများအား မကွယ်မဝှက် မထိန်မချန်ဘဲ တင်ပြလိုသောဆန္ဒ ပြင်းပျ၍ဖြစ်ပါသည်။

ဒုတိယအဖြေမှာ–ယခင်က ထုတ်ဝေခဲ့သောစာအုပ်သည် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိစာတမ်းသက်သက်မျှသာ ဖြစ်ပါသည်။ ယခု ထုတ်ဝေသော စာအုပ်တွင်မူ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိစာတမ်းသာမက, ခန္ဓာဉာဏ်ရောက် ဟောစဉ်များ ကျင့်စဉ်များကိုပါ ထည့်သွင်းဖော်ပြထားခြင်း ဖြစ်ပါသည်။

၁။ ဤ ထေရုပ္ပတ္တိစာအုပ်ကို ဖတ်ရှုသူတိုင်း ဘာ့ကြောင့်ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည် များလှစွာသော သောတုဇန စာသင်သားတို့အား ညဝါစာပို့ချရာတွင် ကျော်ကြားရပါသလဲ။

၂။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်တစ်လွှား ထင်ပေါ်ကျော်စောပြီး ရဟန်းရှင်လူများ၏ ကြည်ညိုလေးစားခြင်းကို ခံယူရပါသလဲ။

၃။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးအား ပစ္စည်းလေးပါးဖြင့် လှူဒါန်းလိုကြသော ဒါယကာ-ဒါယိကာမများ ပေါများရပါသလဲ။

၄။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည် ကျိန်းစက်ခြင်း နည်းပါးရပါသလဲ။

၅။ ဘာကြောင့် ကျေးဇူးရှင်ဆရာတော်ဘုရားကြီး ဟောကြားတော်မူသော တရားတော်များကို နာကြားလို့ မရောင့်ရဲ မတင်းတိမ်နိုင်ကြပါသလဲ။

၆။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးကို အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်လှန်ရေးအစိုးရက ချီးမြှင့်ဆက်ကပ်ရပါသလဲ။

၇။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည် "ငါသေရင် သပိတ်မသွတ်နဲ့ဟေ့"လို့ သီတင်းကျွတ်လပြည့်နေ့က များလှစွာသော တရားနာ ပရိသတ်တို့အား ဟောပြောဆုံးမခဲ့ရပါသလဲ။

၈။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည် "သာသနာကြီး ကွယ်တော့မယ်ဟေ့၊ ဘုန်းကြီးလဲ အသက်ကြီးပြီ၊ ဦးအောင်ဇံဝေတို့၊ ဦးသန်းမောင်တို့၊ ဦးတင်တို့လဲ အသက်ကြီးပြီ။ သာသနာမကွယ်ခင် မိရုံကလေး ရှိတော့တယ်၊ မြန်မြန် တရားကို အားထုတ်လိုက်ကြ၊ ရထားကထွက်ခါနီးပြီ၊ တက်မိရုံလေး ရှိတယ်။ ရထား ထွက်လုပြီဆိုတာ ရိပ်မိကြရဲ့လား"ဟု ဘာကြောင့် ဟောခဲ့ရပါသလဲ။

၉။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်ကို မီးသင်္ဂြိုဟ်စဉ်က အနံ့အသက် မထွက်ရပါသလဲ။

၁၀။ ဘာကြောင့် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်စဉ်က ဓာတ်တော်များ ကျရပါသလဲ။

စသည်တို့ကို သိလိုသောဆန္ဒရှိကြပေလိမ့်မည်။ အထက်ပါသိလိုသော အချက်များကို ဤထေရုပ္ပတ္တိ စာတမ်းနှင့် ဟောစဉ် ကျင့်စဉ်တို့က ထင်ရှားပေါ်လွင်အောင် အဖြေပေးပါလိမ့်မည်၊ သို့ပါ၍ ဤစာအုပ်ကို မိမိတို့လက်ဝယ် ကိုယ်ပိုင်အဖြစ် ထားရှိလျက် ကျေကျေညက်ညက် ဖတ်ရှု၍ စွဲစွဲမြဲမြဲ မှတ်သားပြီး ကိလေသာ ကြားမညှပ်ဘဲ ကျင့်ကြံ ပွားများခဲ့ပါမူ မိမိတို့ အလိုရှိအပ် တောင့်တအပ်သော တစ်မင်္ဂတစ်ဖိုလ်ကို ရက်တိုတိုနှင့် ရောက်လွယ် ရလွယ်ကြမည်ဖြစ်ကြောင်း စေတနာကောင်းနှင့် တိုက်တွန်းဆော်ဩလိုက်ရပေသတည်း။

ဦးထွန်းအောင်
မိုးကုတ်ဝိပဿနာအဖွဲ့
မန္တလေးမြို့။

## မိုးကုတ်ဆရာတော်ဘုရားကို
## စာရေးသူ စတင်ဖူးတွေ့ ကြုံကြိုက်ရပုံ
### (ပဌာမ)

တစ်နေ့တွင် ဤစာရေးသူ ကျွန်တော်သည် အရောင်းအဝယ် အား လပ်ပါသဖြင့် အပေါင်းအသင်းများနှင့်အတူ အမရပူရမြို့ တောင်သမန်အင်း, မယ်ဇယ်တန်းသို့ ပျော်ပွဲစားထွက်လာခဲ့ကြပါသည်။

ထိုနေရာမှအပြန်တွင် ရွှေညောင်ပန်လမ်း မင်္ဂလာတိုက်ရှေ့သို့ ရောက်လာခဲ့ရာ များပြားလှစွာသော ရဟန်းရှင်လူ ပရိသတ်တို့ကို ထူးထူးခြားခြား ပက်ပင်း တွေ့မြင်ရပါတော့သည်၊

ထိုပရိသတ်အပေါင်းတို့ကား မင်္ဂလာတိုက် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ တရားနာပရိသတ်ကြီးပင် ဖြစ်ပါပေသည်။

ပရိသတ်ကြီးကား များပြားလှသည်နှင့်အမျှ အထူးပင် ငြိမ်သက်တိတ်ဆိတ်လှပေသည်။ တရားတော်ကိုသာ အာရုံသက်ဝင် ရှုးစိုက်နေကြဟန် ရှိကြပါသည်၊

ထိုအချိန် ကျွန်တော်၏ စိတ်ထဲတွင် တီးတိုး မေးခွန်းတစ်ခု ပေါ်ပေါက်လာပါသည်၊ ထို မေးခွန်းကား "ဘာကြောင့် ဒါလောက်တောင် တရားအာရုံတွင် စူးစိုက်နေကြရပါသလဲ၊ ဘယ်လိုများ ထူးခြားနေလို့ပါလဲ...."။

ဤမေးခွန်းနှင့် တစ်ပါတည်းပင် စူးစမ်းလိုသည့်စိတ်က ကပ်လျက်ပါလာသည်နှင့် ပရိသတ်ကြီး၏ နောက်ဆွယ်မှ ဝင်ရောက်ထိုင်လိုက်ပြီး တရားတော် အစဉ်ကို အမျှင်မပြတ်အောင် နာယူ မှတ်သားကာ ကောင်းစွာ လေ့လာမိပါသည်။

ထိုနေ့ ထိုအချိန်တွင် ဤစာရေးသူ ကျွန်တော်ကား အလွန်ထူးခြား ဆန်းကြယ်သောတရား၊ အင်မတန် မှန်မြတ်၍ အရသာရှိသောတရား

တစ်ခါဖူးမျှ မကြားရ မနာရဘူးသေးသော တရားအထူးကို ကြားနာမှတ်သားခြင်း ပြုရပေသဖြင့် ပြောမပြနိုင်လောက်အောင်ပင် ကြည်နူးဝမ်းမြောက်ခြင်း ဖြစ်ရပေသည်။

ထိုနေ့ထိုအချိန်ကား ၁၉၅၆-ခု၊ စက်တင်ဘာလ(၄)ရက်၊ ၁၃၁၈-ခု၊ ဝါခေါင်လဆုတ်(၁၄)ရက်၊ အင်္ဂါနေ့ပင် ဖြစ်ပါသည်။ ထိုနေ့ကို ကျွန်တော့် တစ်သက်တာအဖို့ မင်္ဂလာကျက်သရေ အရှိဆုံး၊ အမွန်မြတ်ဆုံး ဖြစ်သော နေ့ထူးနေ့မြတ်ကြီး အဖြစ် အမှတ်တရပင် မှတ်တမ်းတင်ထားခဲ့ပါသည်။

ထိုသို့ မှတ်တမ်းတင်ပြီး ဝမ်းမြောက်နေစဉ် မကြာမီပင် တရားပွဲကြီးကား၊ ပြီးဆုံးသွားပါတော့သည်၊ တရားဟောချိန်ကိုပင်` တိုတောင်းလှသည်ဟု ထင်မိပါသည်။ အမှန်မှာတော့ တရားဟောချိန်မှာ တစ်နာရီတိတိပင်။ ထို့နောက် မန္တလေးသို့ပြန်သာ ပြန်ခဲ့ရသော်လည်း နားထဲမှာတော့ ဆရာတော် ဟောကြားတော်မူသော တရားသံကိုပဲ ကြားမိ နေပါတော့သည်။

နံနက်လင်းသည်နှင့် တစ်ပြိုင်နက် အရောင်းအဝယ် အလုပ်အကိုင်များကို အလုပ်သမားများနှင့်လွှဲပြီး နံနက်ပိုင်း (၈) နာရီလောက် တောင်မြို့ရှိ မင်္ဂလာတိုက်သို့ သွားရ အသိမိတ်ဆွေကလည်း မရှိသေး၊ ကျောင်းဝင်းထဲဝင်ရန်လည်း ခက်ခဲနေသောကြောင့် တောင်သမန်အင်းသို့ထွက်လာခဲ့မိတော့ရာမယ်ဇယ်ပင်တန်းတွင်ပင်ထားရပ်ပြီး ယခင် အချိန်အခါက အလွန် ပျော်စရာ ကောင်းသော နေရာတွေဟာ ယခုတော့ ထိုင်ချင်စိတ်ပင်မရှိ၊ ပျင်းစရာဖြစ်၍ ထိုင်လို့ပင် မနေချင်တော့တဲ့ သုသာန် တစပြင်ကဲ့သို့ပင် ထင်မြင်မိတော့သည်။ လူတွေမြင်မှာကိုပင် ရှက်သလိုလို။ ပေပြီး ထိုင်နေသော်လည်း ဆရာတော်၏ တရားသံကိုပဲ ကြားယောင်နေမိပါတော့သည်။ သို့ဖြင့် တောင်သမန်အင်းစောင်းမှ ပြန်လာရာ ဆရာတော်ဘုရားကြီး တရားဟောကြားသော ဓမ္မာရုံပေါ်သို့ သွားရောက်ပြီး တရားဟောချိန်ကိုသာ စောင့်စားနေပါတော့သည်။ ဤနေ့မှစပြီး နေ့စဉ် တရားနာခဲ့ရာ ၁၃၁၈-ခု၊တော်သလင်းလဆန်း(၄)ရက် နေ့ တရားဟောအပြီး ဆရာတော်ဘုရားကြီးအား ကန်တော့ကြသော အချိန်တွင် ဆရာတော်

ဘုရားကြီးက ကျွန်တော့်ကို ပရိသတ် အများထဲမှရွေး၍ ခေါ်တော်မူရာ ကျွန်တော့်မှာ အံ့အားသင့်နေမိပါတော့သည်။

ဆရာတော်ဘုရားကြီးထံ ကျွန်တော်တစ်ခါမှ နီးနီးကပ်ကပ်အဟောအပြော အဆုံးအမ မခံခဲ့ရဘူးသဖြင့် ရှေ့သို့ တိုးသွားရမည့်အရေးကို ကြောက်ရွံ့နေစဉ်တွင်, ဆရာတော်ဘုရားကြီးက ထပ်မံ၍ ခေါ်တော်မူပြန်သဖြင့် ဆရာတော်ဘုရားကြီး ရှေ့သို့ သွားရောက် ရှိခိုးကန်တော့ရာ ဆရာတော်ဘုရားကြီးက....

ဒကာ ဘယ်အရပ်က တရားလာနာပါသလဲ၊
တပည့်တော် မန္တလေး တရုတ်တန်းဆပါဘုရား။

အလုပ်အကိုင်နဲ့ နာမည်ကတော့၊
ကုန်သည်ပါဘုရား, .... မောင်ကျော်သိန်းလို့ ခေါ်ပါတယ်ဘုရား။

အသက် ဘယ်လောက်ရှိပြီလဲ၊
အသက် လေးဆယ်ရှိပါပြီဘုရား။

အေး........တရားနာရုံနဲ့တော့ အကျိုးမများသေးဘူး၊ သညာအသိပဲ ရှိသေးတယ်။ ပထမ ရုပ်နာမ်ကို သိအောင်လုပ်၊ ပဋိစ္စသမုပ္ပါဒ်ကိုလည်း နားလည်အောင်လုပ်ပြီးမှ ဝိပဿနာရှုရမယ်၊ (မှန်လှပါဘုရား)။

မင်းမှာ တကျာလောဘဘက် လိုက်နေတော့ အကုသိုလ်ကံက ဖိစီးနေတာကိုး၊ မင်းကြည့်ရတာ အမှားအယွင်းတွေက သိပ်များနေပြီး တကျာခိုင်းစေရာ လုပ်နေရတဲ့သူပဲ။

တပည့်တော် ကောင်းရောင်း ကောင်းဝယ် အလုပ်ပါပဲဘုရား၊ တခြားဘာမှ မကောင်းတဲ့အလုပ်ကို မလုပ်ပါဘုရား။

မင်းက မြို့သုံးစကားတွေ သုံးနေတာကိုး၊ မင်းက ဘယ်လိုပဲ ယဉ်ကျေးအောင် သုံးသုံး, အရောင်းအဝယ် လုပ်တယ်ဆိုတာ တကျာလောဘဘက်လိုက်နေတဲ့အလုပ်ပဲ၊ မင်းဟာ လောကပရိဒေဝမီး တောက်လောင်နေတယ်ဆိုတာ မောင်ကျော်သိန်း မင်းရဲ့အင်္ဂါရုပ်က ပြနေတယ်။ မောင်ကျော်သိန်းရဲ့စိတ်ဟာ

နည်းနည်းမှ မတည်ငြိမ်ဘူးဆိုတာကိုလဲ့ မင်းရှုပ်ကပဲ ပြနေတယ်။

မှန်လှပါဘုရား၊

လူ့စိတ်ဆိုတာ သောကဓမ္မတရားနဲ့ တွေ့ကြုံရင် လှုပ်ရှားတတ်တယ်၊ ဒီလိုလှုပ်ရှားတာ ဘာကြောင့်လဲဆိုတော့ သမုဒယသစ္စာဆိုတဲ့ လောဘကြောင့် ဝမ်းသာဝမ်းနည်း ဖြစ်ရတယ်၊ လှုပ်ရှားပြီး နေရတယ်။ လောဘဆိုတာ ဘာနဲ့ တူသလဲဆိုရင် ရေဝတီမြစ်ရေစီးထဲမှာမျောနေတဲ့ နွားချေးခြောက်ကလေးနဲ့ တူတယ်။ တောင်လေလာလဲ လှုပ်လိုက်၊ မြောက်လေလာလဲ လှုပ်လိုက်၊ ရေစီးထဲမှာ အမြဲလှုပ်ရှားပြီး မျောနေတယ်။ လူသဏ္ဍာန်မှာလဲ အမြဲလှုပ်ရှားပြီး မျောနေတယ်၊ လောဘမီးကြောင့်လည်း လှုပ်ရတာပဲ၊ ဒေါသမီးကြောင့်လဲ လှုပ်ရတာပဲ၊ လှုပ်ရင်းမတ်တတ် အိုရ နာရ သေရဘက်ကို အမြဲတမ်း စီးဆင်းနေရတာပဲ၊ လက်သည်ကို လိုက်ရှာ လိုက်တော့ သမုဒယသစ္စာ တဏှာလောဘကြောင့်ပဲ။ ခန္ဓာကိုယ်ရုပ်နာမ်ဟာ အကုသိုလ်ကံက လှုပ်လိုက်လည်း အပါယ်လေးပါးသွားရတာပဲ၊ ကုသိုလ်ကံက လှုပ်လိုက်ရင်လည်း လူ့ပြည်နတ်ပြည် သွားကြရတယ်။ ဒါကြောင့် ဝဋ်ကုသိုလ်လည်း ကြောက်စရာ အကုသိုလ်လည်း ကြောက်စရာပဲ။ ကုသိုလ်ပြုလုပ်ကြတာတော့ ကောင်းပါရဲ့ဒါပေမယ့် မင်းတို့သံသရာ ပြန်လည်ကြဉ်းမှာပဲ။ ဝိဝဋ္ဋဖြစ်တဲ့ မဂ်ကုသိုလ်မှ ပိုကောင်းတယ်၊ ဒုက္ခပဲသိမ်းကင်းငြိမ်းမယ်၊ အသိဉာဏ်ကလေး ရှိနေတဲ့အချိန်ကလေးမှာ မင်း တရားအားထုတ်ဖို့ကောင်းပြီ။

မှန်လှပါဘုရား၊ တပည့်တော်ကို တရားအားထုတ်နည်း ရှုပွားနည်း ပေးသနားတော်မူပါ ဘုရား။

အေး ...အေး ကောင်းပြီ၊ မင်း ငါ့ဆီလာပြီး အနည်းဆုံး တစ်လလောက် တရားအားထုတ်၊ မင်းနဲ့ထိုက်တန်တဲ့ တရား ပေးရတာပေါ့။

မှန်လှပါဘုရား။

**မှတ်ချက်။** ။ဒိဋ္ဌိ ခွာပုံခွာနည်း၊ ရုပ် နာမ် ခွဲပုံခွဲနည်း၊ တရားအား ထုတ်ပုံ အားထုတ်နည်းများကို ဆရာတော်ဘုရားကြီးကိုယ်တိုင် သင်ကြားပြသပေးသော အခန်းများကို ဤစာအုပ်တွင် ရေးသားဖော်ပြလိုက်ပါသည်။

ကျွန်တော်သည် ဆရာတော်ဘုရားကြီး ခြေတော်ရင်းသို့ (၄၉) ရက်တိတိ တရားအားထုတ်ပြီးသည့် နောက်ပိုင်းတွင် ဆရာတော်ဘုရားကြီး၏ ဧကာ-ဒကာမ အပေါင်းတို့က ကျောင်းတွင် ကထိန်သင်္ကန်း ကပ်လှူ ပူဇော်ပွဲ ကျင်းပမည် ဖြစ်ပါ၍, ကျွန်တော်သည် မန္တလေးနေအိမ်သို့ ပြန်လာခဲ့ပါသည်။

ဆရာတော်ဘုရားကြီးမှာ မကြာမီ မန္တလေးသို့ ရွှေ့ပြောင်း သီတင်းသုံးရာ, ချည်ထုပ်ကုန်သည် ဦးအေး-ဒေါ်သန်းတို့က ကျွန်တော့်အား ဆက်လက်၍ တရားအားထုတ် တရားနာချန်တိုက်တွန်းပြီး ဆရာတော်ဘုရားကြီး၏ ဒကာရင်းဖြစ်သော ရွှေလှန်ရပ်ရှိ ပွဲစားကြီး ဦးချစ်ဆွေ-ဒေါ်ဒေါ်မတို့နှင့် ဆက်သွယ်ပေးမှုကြောင့် ၎င်းတို့တိုက်သို့ နေ့စဉ်သွားပြီး တရားနာယူကာ တရားအားထုတ်ပြီးနောက်, ဆရာတော်ဘုရားကြီး ကြွရောက်သီတင်းသုံးသည့် နေရာတိုင်းသို့ လိုက်ပါရသော တပည့်ရင်းဘဝသို့ ရောက်ရှိခဲ့ပါတော့သည်။ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိမူမှန် ထုတ်ဝေရန် တာဝန်ယူ၍ အတန်တန် ကြိုးစားခဲ့သော်လည်း အကြောင်း မညီညွတ်ပါသဖြင့် ယခုအချိန်မှ ထုတ်ဝေရခြင်းနှင့် အနည်းငယ် ချို့ယွင်းချက်ရှိခဲ့သော် သည်းခံဖတ်ရှုကြပါရန် အနူးအညွတ် တောင်းပန်အပ်ပါသည်။

# အမရပူရမြို့

## မြို့သစ် နန်းသစ် တည်ထောင်ခြင်း။

အလောင်းမင်းတရား၏ စတုတ္ထမြောက် သားတော်ဖြစ်သော ဗဒုံမင်းလည်းဟူ၊ ဘိုးတော်မင်းတရားလည်း ဟူသော အင်းဝပြည့်ရှင်ဘိုးတော် ဦးဝိုင်းသည် (အင်းအိုင်ဝိုက်ထည် အမရပူရတည်) ဟူသော (တဘောင်) လက္ခာအရ သက္ကရာဇ် ၁၁၄၄-ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် (၁) ရက် အဝင် တနင်္လာနေ့ ညဥ့်တစ်ချက်တီးကျော် (၁)ဗီဇနာ၊ (၁)ပြန်၊(၃)ခရာ မေထုန်လက်၊မိဿစန်း တိထိ(၃) ဿဍ္ဍိ (၃၇)လုံး၊ ရေဝတီ နက္ခတ် (၁) ပါဒ်၊ ထောင်းမြတ်သော မင်္ဂလာအခါတွင် မသေရာအမှန် ပြည်နိဗ္ဗာန်သို့ ဘေးရန်မပြူ မြတ်သူတော်တို့ ရွှင်ပျော်သီတင်းသုံးရာဖြစ်သော (၁)အမတမြို့၊ (၂) အဘယမြို့၊(၃) သက်သာရွှေဝမြို့၊ (၄) ထီးပေါင်းခမြို့၊ (၅)အမရပူရမြို့ ဟူ၍ ငါးမည်ရ မြို့သစ်နန်းသစ်ကို တည်ထောင်တော်မူလေသည်။

ထိုသို့ မြို့သစ်နန်းသစ် တည်ထောင်ရခြင်းမှာ အင်းဝနေပြည်တော်မှာ မြေနိမ့်ပိုင်း ဖြစ်သည့်အလျောက် မိုးအခါတွင် ဧရာဝတီမြစ်နှင့် ဒုဋ္ဌဝတီမြစ်တို့ ပေါင်းဆုံရာမှ ရေများလွှမ်းမိုးလေ့ရှိသဖြင့် ကုန်းမြေမြင့်နေရာကို ရွေးချယ်၍ မြို့သစ်နန်းသစ် တည်ထောင်ရန် အင်းဝဘုရင်၏စိတ်တွင် အကြံတော်ရှိခိုက်(အင်းဝက ရေငန်တွင်းချေးစော်နံ၊ တောင်သမန် ရေချိုတွင်း, သောက်ပါလေ ကိုရန်ကင်း၊ ဘေးမသီရန်ကရှင်း)ဆိုသော (တဘောင်)နိမိတ် ပေါ်လာလေသည်။

သို့ပါ၍ ဘိုးတော်ဦးဝိုင်းသည် အထက်ပါ (တဘောင်) နိမိတ်စကားအရ မြို့သစ် နန်းသစ် တည်ထောင်ရန် အမတ်ကြီး ဦးပေါ်ဦးအား မင်းကြီးလေးပါး၊ နောက်ပါ နောက်လိုက် ဗိုလ်ပါ မြင်းသည်တော်များ ဗိသုကာ (၁၀၀)ကျော်တို့နှင့်အတူ စေလွှတ်ခဲ့ရာ အင်းဝ

မြို့တော်၏ တစ်ဘက်ကမ်းရှိ စိုင်တမော့လယ်ပြင်ကိုဖြတ်ကျော်၍ ယခင်က ကြက်သွန်ခင်းတောရကျောင်းဝိုင်းအတွင်း (ယခု မဂ်လာတိုက်ဟောင်းတည်ရာအရပ်)အရိပ်အာဝါသကောင်းမွန်လှသော ညောင်ပင်ကြီးအောက်တွင် ခေတ္တ စခန်းချကြလေသည်။

ထိုသို့ စခန်းချခိုက် ရွှေရောင်အဆင်းရှိနေသော လိပ်ပြာ (၅၀၀). ခန့်သည် မဂ်လာအခါ ယူနေကြသောသူများ၏ စခန်းချရာ ကျောင်းဝိုင်းအတွင်းမှ ရှုတ်တရက် ထပျံကြသည်ကို တွေ့မြင်လိုက်ကြ၍ လိုက်ကြည့်ကြရာ ထီးပေါင်းခရွာတောင်ဘက် (အမရပူရ နန်းသစ်တည်ရာအရပ်) ချုံကြီးတွင် စုပေါင်းနားနေကြရာ ချုံကြီးကို မမြင်ရဘဲ ရွှေတောင်ကုန်းကြီးသဖွယ် တွေ့မြင်ကြရသောကြောင့် ၎င်းနေရာမှာ ဘူမိနက်သန် မွန်ကန်သည့်အပြင် (တောင်သမံအင်း၊ တောင်မြင့်အင်း၊ တောင်ကြီးအင်း၊ တောင်တော်အင်း) စသည့် အင်း(၄)အင်း၊ တောင် (၄) တောင် ဝိုင်းရံလျက်ရှိရာ ပေါ်လာသော တဘောင်နိမိတ်နှင့်လည်း ကိုက်ညီနေသောကြောင့် ယင်းနေရာကို မဂ်လာအခါယူပြီး မြို့သစ်၊ နန်းသစ်တည်ထောင်ရန် နောက်လိုက်ဗိုလ်ပါဝိသုကာ(၁၀၀) ကျော်တို့အား ပန္နက်ရိုက်စေလေသည်။

## မင်္ဂလာတိုက်ဟု အမည်တွင်ခြင်း

အမတ်ကြီးဦးပေါ်ဦးနှင့် မင်းကြီးလေးပါး၊ မြင်းသည်တော်များ၊ ဗိသုကာ (၁၀၀)ကျော်တို့ပါ စခန်းချတည်းခိုကြသော ယခင်ကြက်သွန်ခင်းတောရ ကျောင်းတိုက်၌ မြို့သစ်၊ နန်းသစ် တည်ရန် မဂ်လာအခါယူ၍ စောင့်စားရင်း နေထိုင်ကြရာ မဂ်လာအခါရသဖြင့် ပန္နက်ရိုက်သည်ကိုအကြောင်းပြု၍ယင်းကြက်သွန်ခင်းတောရကျောင်းတိုက်ကို ထိုအချိန်မှစ၍ (မဂ်လာတိုက်)ဟု အမည်ပေးကြလေသည်။

ယခုအခါ အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ တိကျမှန်ကန်လှစွာသော သဘာဝနှင့်ပရမတ္ထအနက်သစ္စာအချက်တို့ကို ကြားနာလိုကြ၍ အရပ်လေးမျက်နှာမှ စုဝေးရောက်ရှိလာကြသော ရဟန်းရှင်လူတို့မှာ တစ်နေ့တခြား ဒီရေအလားသို့ တိုးပွား များပြားလာကြလေသည်။

ထိုသို့များပြားလှသော တရားနာ သူရိသတ်ထဲမှ ပြည့်စုံချမ်းသာ ကြွယ်ဝကြသော တကာ-တကာမ များကလည်း ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ သာသနာရေးလုပ်ငန်းအဝဝ ဆောင်ရွက်ရာတွင် မတောင့်မတ မကြောင့်မကြရလေအောင် လိုအပ်သော ကျောင်းကန် ဘုရား ဓမ္မာရုံ တန်ဆောင်း စသည်တို့ကို ဆောက်လုပ်လှူဒါန်းကြလေသည်။

ထို့ကြောင့် မူလ မင်္ဂလာတိုက်၏မြေနေရာမှာ မဆန့်နိုင်တော့ဘဲ မြေရာသစ်များ တိုးချဲ့ဝယ်ယူကြရပြီး ကျောင်းသစ် တိုက်သစ်များ ဆောက်လုပ်လှူဒါန်းကြသဖြင့်ယခုအခါ (မင်္ဂလာတိုက်ဟောင်း) (မင်္ဂလာရိပ်သာ) စသည်ဖြင့် အမည်နာမ ခွဲခြား ခေါ်တွင်လောက်အောင်ပင် ကျယ်ပြန့်လာလေတော့သည်။

## ကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ မွေးရာဇာတိရပ်မြေ

အမရပူရ မြို့တည်၊ နန်းတည် ဘုန်းတော်ဦးဝိုင်း၏ မင်းဥယျာဉ်အတွက် နေရာရွေးချယ် သတ်မှတ်ပေးရန် အမိန့်တော်ကို ရွှေတောင်အမတ်ကြီးသည် ဦးထိပ်ပန်ဆင်လျက် ဒုဋ္ဌဝတီမြစ်ကမ်း တစ်ဘက်ရှိ သာယာစိုပြည်နှစ်လုံး မွေ့လျော်ဖွယ်ကောင်းသော (ယခုဥယျာဉ်တော်ရွာတည်ရာ) မြေနေရာကိုရွေးချယ်သတ်မှတ်၍သစ်ပင် သီးပင်၊ ပန်းပင် ဆေးဘက်ဝင်သော အပင်မျိုးစုံများကို သိုက်မြိုက် ဝေဆာအောင် စိုက်ပျိုးလေသည်။

အဆိုပါ ဥယျာဉ်တော်သို့ ဘိုးတော်ဦးဝိုင်း ကိုယ်တော်တိုင် ထွက်တော်မူ၍ ရှုစားတော်မူသောအခါ ၎င်းဥယျာဉ်တော် အတွင်းရှိ သရက်ပင်တစ်ပင်မှ အသီးများသည် အလွန်ပင် အနံ့အရသာနှင့် ပြည့်စုံသည်ကို တွေ့ရှိရာ အလွန် အားရနှစ်သက်တော်မူ၍ ထိုသရက်ပင်ကို ရာဇမတ်များကာရံ၍ ၎င်းသရက်ပင်ကို (ပင်တော်ကြီး) ဟု သမုတ်တော်မူလေသည်။ အဆိုပါ သရက်ပင် တည်ရာအရပ်ကို ယခုအခါ (ရာဇမတ် အရပ်)ဟု ခေါ်တွင်လျက် ရှိလေသည်။

ဥယျာဉ်တော်အတွင်း၌ ဩဇာ အရသာနှင့် ပြည့်စုံသော စားပင်များ, အဖိုးထိုက်တန်သော ဘယဆေးပင်များ၊ မင်္ဂလာ အပေါင်းနှင့် လှပ ဝေဆာတင့်ဆန်း ပန်းမာလ်များ စိုက်ပျိုးထားလေသည်။ ထို့ကြောင့် ထိုဥယျာဉ်တော်နေရာတွင် အမည်မဖော်နိုင်သော ဆန်းကြယ်ထွေပြား သစ်ပင်ပန်းပင် အချို့ကို ယနေ့တိုင် တွေ့ရှိနိုင်ပါသေးသည်။ ဘိုးတော်ဦးဝိုင်းသည် ဥယျာဉ်တော်၏ အာဒ္ဓိဘက်တွင် (ရွှေရန်ကင်း) ဘုရားတစ်ဆူ၊ အနောက်တွင် (ရွှေရန်လင်း) ဘုရားတစ်ဆူ တို့ကိုလည်း တည်ထားကိုးကွယ်တော်မူလေသည်။

အထက်တွင် ဖော်ပြပြီးသည့်အတိုင်း ဆန်းကြယ်ထွေပြား ရှုမငြီးနိုင်သည့် ဥယျာဉ်တော်ကြီးအား ဘိုးတော်ဦးဝိုင်းသည် အလွန်တရာ အားရနှစ်သက်၊ တော်မူသဖြင့် ၎င်းဥယျာဉ်တော်ကို (မဟာသိရီနန္ဒဝန်)ဟု ဘုရင်မင်းမြတ် ကိုယ်တော်တိုင် ကမ္ပည်းထိုး မော်ကွန်းစိုက်ထူပြီး ဥယျာဉ်မှူး ရွှေတောင် အမတ်ကြီးအား မင်းကြီးရွှေတောင် ဘွဲ့ကို ချီးမြှင့် ပေးသနားတော်မူလေသည်။

ဘိုးတော်ဦးဝိုင်း၏မြေးဖြစ်သူ မင်းတုန်းမင်းသည် သက္ကရာဇ် ၁၂၁၈-၁၂၂၂ ခုနှစ်တွင် မန္တလေးမြို့တော်သစ်ကို တည်ထောင်ပြီး အမရပူရမြို့တော်မှ မန္တလေးမြို့တော်သို့ ပြောင်းရွှေ့ စံနေတော်မူရာ အမရပူရမြို့တော်မှာ မင်းနေပြည် မဟုတ်တော့သဖြင့် (မဟာသိရီနန္ဒဝန်) မင်းဥယျာဉ်တွင်းသို့လည်း လူများ နေထိုင်စပြုလာလေသည်။

ကာလ အတန်ကြာသော် လူနေအိမ်ခြေ (၃၀၀) ကျော် တိုးပွားကာလာပြီး ရွာကြီးတစ်ရွာအဖြစ်သို့ ပြောင်းလဲလာလေသည်။ အဆိုပါ ရွာကြီးအား (မဟာသိရီနန္ဒဝန်)ခေါ် မင်းဥယျာဉ်တော်ကို အစွဲပြု၍ ယနေ့တိုင် "ဥယျာဉ်တော်ရွာ"ဟု ခေါ်စမှတ်ပြုကြလေသည်။

အဆိုပါ ရွာကြီးမှာ သစ်ပင် ပန်းပင်တို့ဖြင့် သာယာစိုပြည်နှလုံး မွေ့လျော်ဖွယ် ကောင်းရုံတွင်မျှမက သူတော်ကောင်း သူမြတ်လောင်းများနှင့် ပညာရှိ ကဝိကျော်များလည်း ပေါ်ထွန်းရာ ရွာကြီးလည်းဖြစ်ပေသည်။ ကျမ်းပြုဆရာတော် ဦးစန္ဒနှင့် ဝတ်လုံတော်ရမင်း ဦးသာကြွယ်တို့သည် အဆိုပါ ဥယျာဉ်တော် ရွာသားများ ဖြစ်ကြလေသည်။

* * *

## ဆွေမျိုး ဉာတိများနှင့်
## မယ်တော်တွင် အိပ်မက် မြင်မက်ခြင်း

ဉယျာဉ်တော်ရွာနေ ရွာသူရွာသားများမှာ ဉယျာဉ်သမားများ, တောင်သူ လယ်သမားများ, ရက်ကန်းသည်များနှင့် ကုန်သည်ပွဲစားများ ဖြစ်ကြရာ အဆိုပါရွာ ဇာတိဖြစ်သော (ဦးအောင်ထွန်း ဇနီး ဒေါ်ရွှေအိတ်) တို့သည် ရတနာသုံးပါးကို အလွန်ကြည်ညိုရင်း ရှိကြသည့်အပြင် ပုညကြီယဆယ်ဖြာသော ကုသိုလ်တရားတို့၌ မွေ့လျော်စိတ် ရှိကြကုန်သော ကုန်သည်မျိုးများ ဖြစ်ကြလေသည်။ ထိုဇနီးမောင်နှံတို့တွင် သားသမီးရတနာ (၈) ဦး ရှိသည့်အနက် စတုတ္ထမြောက် သားရတနာ မွေးဖွားပြီးနောက် ပဉ္စမမြောက် (ဆရာတော်လောင်းလျာ)အား ပဋိသန္ဓေနေစဉ် အမိ(ဒေါ်ရွှေအိတ်)၌ ထူးခြားလှသော အိပ်မက်ကို မြင်မက်လေသည်။

**အိပ်မက်** မြင်မက်ပုံမှာ— ဝတ်ဖြူစင်ကြယ်နှင့် သူတော်စင်ပဋိသန္ဓေ စွဲသည်-ဟု မြင်မက်လေသည်။ မယ်တော်မှာလည်း ထိုအိပ်မက်ကို မြင်မက်၍ လွန်စွာ ပီတိသောမနဿဖြစ်ပြီး (သူတော်ကောင်းတို့ ကိန်းအောင်းသည့် အရှိန်ကြောင့်) အစဉ်မပြတ် သီတင်းသီလ စောင့်ထိန်းလိုခြင်း, စာပေ ပရိယတ်များ ဖတ်ကြားလိုခြင်း, တရားဓမ္မများ နာယူလိုခြင်း, ဧဝနေယျတို့အား တရားဟောပြောလိုခြင်း စသော အာသီသများ ထူးခြားစွာ ပေါ်ပေါက်လာခြင်းကြောင့် အမြဲမပြတ် ဆိတ်ငြိမ်ရာ ဒေသတို့တွင် နဝင်္ဂသီလများကို မွေးဖွားသည့် အချိန်တိုင် စောင့်ထိန်းခဲ့လေသည်။ ဆဲရာတော်လောင်းလျာအား ၎င်း မဟာသီရိနန္ဒဝန် ဉယျာဉ်တော်ရွာ ရာဇမတ်ရပ်ကွက်တွင် မီးရှူးသန့်စင် ဖွားမြင်ပြီးနောက် သားသမီး သုံးယောက်အား ထပ်မံဖွားမြင်ခဲ့လေသည်။ ဆရာတော်ဘုရား မွေးဘက် သားချင်းများ၏ ကြီးစဉ်ငယ်လိုက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(၁) ဒေါ်တင်
(၂) ဒေါ်လုံး
(၃) ဒေါ်ရွှေပင် (ယာခုပဲခူးမြို့ လိပ်ပြာကန်ကျောင်း စာချသီလရှင် ဆရာကြီး ဒေါ်သုစာရီ)

(၄) ဦးလုဇင်

(၅) ဦးလုဘော်(ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး)

(၆) ဒေါ်လှရှင်

(၇) ဒေါ်လှခင်

(၈) ဦးသောင်း

အထက်ဖော်ပြပါ မွေးဘက် သားချင်းများအနက် သီလရှင် စာချ ဆရာကြီး ဒေါ်သုစာရီနှင့် ဒေါ်လှခင်တို့ သာလျှင် ယနေ့တိုင် အသက်ရှင်လျက် ရှိနေကြပါသည်။

* * *

## ကျေးဇူးရှင်မိုးကုတ်ဆရာတော်ဘုရားကြီး၏ မွေးဖွားခြင်းနှင့်ဇာတာခွင်

မန္တလေးခရိုင် မြစ်ငယ်မြို့ အပါအဝင် မဟာသိရိနန္ဒဝန် ဦးယျာဥ်တော်ရွာကြီး၌ သီးခြားဂုဏ်ဆီ လောကီ လောကုတ္တရာ ရတနာခုနစ်ပါးတို့ဖြင့် ဝင့်ကြွားတောက်ပ ကုန်သည်များ ဖြစ်ကြသည့် ခမည်းတော် (ဦးအောင်ထွန်း) မယ်တော် (ဒေါ်ရွှေအိတ်)တို့မှ မင်္ဂလာအပေါင်း ခ,စေသည့် ကာလတွက်စစ် သက္ကရာဇ်ကောဇာ ၁၂၆၁ခုနှစ်၊ နတ်တော်လ၏ ပြည့်ဝကျော်တက် (၁၁)ရက်အတွေ့ ဗုဒ္ဓဟူးနေ့၊ စက် ၂ နာရီ ၃၀ မိနစ်၊ မြန်မာ ၂ ချက်တီးကျော် ၆ နာရီ ၁ ပါဒ် ဗီဇနာပြည့်၊ ၃ ပြန်ပြည့်၊ ခရာပြည့်အချိန်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူသော (ပဌမမြောက် သားမြတ်ရတနာ) ဖြစ်တော်မူလေသည်။

| | | |
|---|---|---|
| လ | မိဿ | |
| | ၄ | ၆ |
| | ၂ | ၁၃၀ ၄၅၈ |

စင်နက္ခတ်စဉ်

၁၄

၈

၉

ထိုသားမြတ်ရတနာသည် မွေးဖွားလာသည်မှစ၍ကြီးပြင်းလာသည့်တိုင်အောင် အငို အရယ်နည်းပါး၍ စိတ်နှလုံးလည်းဖြောင့်မတ်တည်ကြည်ပြီး ငယ်စဉ်ကပင် ရုပ်လက္ခဏာမှာ တင့်တယ်ခန့်ညားသောကြောင့် အပေါင်းအဖော်ထဲတွင် သူငယ်၏ဥပဓိရုပ်ကသာ ပေါ်လွင်ထင်ရှားနေပေတော့သည်။ ဗုဒ္ဓဟူးနေတွင် ဖွားမြင်သောကြောင့် ခနေ့သင့်နံသင့်အမည်ကို "မောင်လှဘော်" ဟု မှည့်ခေါ်ကြလေသည်။

ထိုသူငယ်မှာ ငယ်စဉ်ကပင် စိတ်ကောင်း စေတနာကောင်း အမြဲရှိခြင်း, ညီအစ်ကို မောင်နှမများနှင့် အစားအသောက် အဝတ်အထည်များနှင့်စပ်လျဉ်း၍ဘယ်သောအခါမျှ ရန်ခိုက်ဒေါသမရှိခဲ့ခြင်း၊ ဘနှစ်ပါးကပေးသမျှ ကျွေးသမျှကိုပင် ရောင့်ရဲတင်းတိမ်ကာ နေထိုင်ားသောက်လေ့ရှိခြင်း, ညစ်ညမ်းသိမ်ဖျင်းသော စကားများကိုလည်းပြော၊ အခြားသူများပြောဆိုသည်ကိုလည်း မနှစ်သက်ခြင်း စသောလေ့အထ ဝါသနာများ ရှိခဲ့လေသည်။

ထိုစဉ်ကပင် ၎င်းသူငယ်၏ အများနှင့်မတူ တစ်မူထူးခြားချက်သည်နောက်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ကျေးဇူးရှင်မိုးကုတ်ရာတော်ဘုရားကြီးဟူသော ပညတ်ဖြင့် ပရိယတ္တိ ပဋိပတ္တိ ပဋိဝေဓသော ကျမ်းဂန်နှင့်သာသနာနယ်ပယ်တွင် နေလအသွင် ထွန်းလင်းတောက်ပတော်မူမည့် သာသနာ့ အာဇာနည်းတစ်ဦး ဖြစ်လတ္တံ့သောရှေ့ပြေးနိမိတ်များပင်တည်း။

## ပညာသင်ကြားရန် ပထမဦးစွာ ကျောင်းအပ်နှံခြင်း

ထိုသာသနာ့အာဇာနည်တစ်ဦး ဖြစ်တော်မူလတ္တံ့သော သူငယ်ကလေးသည် အသက် (၄)နှစ် အရွယ်သို့ ရောက်သောအခါ မိခင်ဖခင်တို့သည် သားမြတ်ရတနာအား နောင် အနာဂတ် ကာလတွင် ထွန်းကားသမှု ကျော်စောခြင်း အဖြစ်ကို လိုလား မြင်တွေ့လိုသော မေတ္တာစိတ်ဆန္ဒ အာသီသ အထူးရှိသည့်အတိုင်း မန္တလေးခရိုင် မြစ်ငယ်မြို့နယ် မဟာသီရိနန္ဒဝန် ဥယျာဉ်တော်ရွာရှိ မူလတန်းဆရာကြီး ဦးစံရထံတွင် ပညာသင်ကြားရန် အပ်နှံကြလေသည်။

ထိုသူငယ်သည် ပညာအရာတွင် အရွယ်နှင့် မလိုက်အောင် တတ်မြောက်သဖြင့် ဆရာကြီး၏ ချစ်ခင်ခြင်း ချီးမွမ်းခြင်းတို့ကို အမြဲခံရလေသည်။

မောင်လှဘော်ခေါ် ထို သူငယ်သည် ဆရာက သင်ကြားပို့ချလိုက်သော စာများကို အလွတ်ရအောင် ကျက်မှတ်ပြီးမှသာလျှင် ကလေးတို့ဘာဝ ဓမ်လေ့အလျောက် ကစားခုန်စား ပြုလေသည်။ စာမရသေးဘဲ မည်သည့် ကစားဖော်များက ခေါ်ငြားသော်လည်း ထ၍ ကစားခြင်း မပြုပါ။ ကျောင်းသားသူငယ် အတူနေ ကစားဖော်တို့နှင့်လည်း ရန်ခိုက်ဒေါသဖြစ်၍ ဆရာက ရိုက်နှက်ဆုံးမခြင်း၊ မိဘများအား အတိုင်အတောခံရခြင်းများ မည်သည့်အခါမှ မရှိခဲ့ပေ။ ထို ဦးစံရကျောင်းတွင် (၄) တန်းအောင်မြင်သည်အထိ ပညာ သင်ကြားခဲ့ဖူးပါသည်။

## ရှင်သာမဏေ ပြုခြင်း

အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်လောင်းလျာဖြစ်သော ထိုမောင်လှဘော်အား အသက်(၉)နှစ်အရွယ်သို့ရောက်သောအခါ ဥယျာဉ်တော်ရွာရှိ ဇွေးပင်တောရကျောင်း (ဆရာတော်ဦးဇာဂရ)အရှင်သူမြတ်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ် သွတ်သွင်းကြလေသည်၊ ဥပဇ္ဈာယ်ဆရာတော်က ရှင်းသူငယ်အား ဗုဒ္ဓဟူးနေ့သားဖြစ်ခြင်းကြောင့် နေ့နံနှင့်သင့်လျော်စွာ(ဝိမလ)ဟူသော ဘွဲ့အမည်ကို မှည့်ခေါ်စေခဲ့လေသည်။

သာမဏေကလေး ဝိမလသည် ဆရာတော် ဦးဇာဂရ အရှင်မြတ်ထံမှ သာမဏေတို့ ဖြည့်ကျင့်အပ်သော ပစ္စဝေက္ခဏာ လိင်ဒဏ် သေခိယ ခန္ဓကဝတ်တို့နှင့်တကွ သဒ္ဒါကြီး သင်္ဂြိုဟ်တို့နှင့် အခြေပြု စာပေများကို မနေမနား ကြိုးစားသင်ကြားမှတ်ယူတော်မူလေသည်။

ရှင်ဝိမလသည် ပညာပါရမီ ရင့်ကျက်မှုကြောင့် လေ့လာသင်ကြားရသော စာပေဓမ္မအဝဝကို အလွယ်တကူ တတ်မြောက်သည့် အပြင် သီလပေး ရေစက်ချ သုတ္တန် ဒေသနာများကိုလည်း ဟောပြောနိုင်သည်ကို သိသဖြင့် ဥပဇ္ဈာယ်ဆရာတော် ဦးဇာဂရကပင် မအားမလပ်သော အခါမျိုး၌ ရှင်သာမဏေကလေးဝိမလအား ဆရာတော်ကိုယ်စား သီလပေးခြင်း, ရေစက်ချခြင်း, တရားဓမ္မများ ဟောပြောခြင်းစသည်တို့ကို လွှဲအပ်စေခိုင်းတော်မူတတ်လေသည်။

## ရှင်သာမဏေတို့၏ ကျင့်ဝတ္တရားနှင့် ပြည့်စုံခြင်း

သာမဏေကျော်ကလေး (ရှင်ဝိမလ)သည် သီလပေးခြင်း, ရေစက်ချခြင်း, တရားဓမ္မ ဟောပြောခြင်းစသော ကိစ္စအဝဝတို့၌သာ ထူးချွန်လှသည် မဟုတ်သေး၊ မိမိဖြည့်ကျင့်အပ် ဖြည့်ကျင့်သင့် ဖြည့်ကျင့်ထိုက်သော သိက္ခာကျင့်ဝတ် ပဋိပတ်တို့၌ ချတ်ယွင်းခြင်း မရှိရလေအောင် ရှိသေလေးစားစွာ ဖြည့်ကျင့်တော်မူသည့်ပြင် ဆရာသမားတို့အပေါ်၌ ဖြည့်ကျင့်ရမည့် ညီညာထကြွ, ဆုံးမနာယူ, လာမူကြိုဆီး, ထံနီးလုပ်ကျွေး, သင်ပေး အံရွတ်, တပည့်ဝတ်, မချွတ်ဝါးခုသာဆိုသော တပည့်ဝတ် ငါးပါးနှင့်လည်း အညီ, ပျင်းရိ ငြီးငွေ့ခြင်း မရှိမူ၍ ကျေပွန်စွာ ဖြည့်ကျင့်တော်မူလေသည်။

ရှင်သာမဏေ ဘဝနှင့်နေစဉ်က တစ်ခါတစ်ကြိမ်မျှ ရှင်လိင်ပြန်ခြင်း မရှိခဲ့ပါ၊ ဆွမ်းခံသွားသော အခါ၌လည်း အခြားရှင်သာမဏေများထက် ဆွမ်းခဲဘွယ် ဘောဇဉ်များ ပိုမိုရရှိခြင်းတို့ကြောင့် "ရှင်သီလဝိ ကိုယ်ရင်ဏလေး"ဟု အများတပင် ခေါ်ဝေါ်ပြောဆို ကြလေသည်။

## ရှင်သာမဏေ၏သက်န်းကို ပထမအကြိမ် ပျားစွဲခြင်း

တစ်ဆယ့်နှစ်နှစ် အရွယ်တွင် သာမဏေကလေး ရှင်ဝိမလသည် သီလ သိက္ခာ ဖြူစင်စွာဖြင့် သာမဏေတို့ ဖြည့်ကျင့်ရမည့် ဝတ္တရားများနှင့်အညီ ဖြည့်ကျင့်လျက် အခြေပါဒ ပရိယတ်များကို ဥယျာဉ်တော်ရွာ ငွေးပင်တောရကျောင်း၌ သင်ကြားသိတင်းသုံးနေစဉ် သင်္ကန်းတန်းပေါ်၌ ခေါက်၍ တင်ထားသော (သာမဏေလေး၏ သင်္ကန်းကို ပျားကောင်များသည် ပျံသန်းရောက်လာပြီး သိုက်အုံဖွဲ့ကာ စွဲလေတော့သည်၊) ဤသို့ ထူးထူးဆန်းဆန်း သင်္ကန်း၌ ပျားစွဲခြင်းကား ဤသာမဏေတော်ကလေးသည်ကား သာမန်ပုဂ္ဂိုလ် မဟုတ်ဘဲ နောင်အနာဂတ်ကာလ၌ ထူးချွန်သော(မဟာပုညဝန္တ အကျော် ဆရာတော်တစ်ပါး)ဖြစ်လာရမည်ဟု ငွေးပင်တောရ ဆရာတော်ကြီးက အမိန့်တော် ရှိလေသည်။

ရှင်သာမဏေလေးသည် ငွေးပင်တောရကျောင်း ဆရာတော်ဘုရားကြီးထံ ပညာသင်ကြားနေစဉ် ဆရာတော်ဘုရားကြီးမှာ တစ်နေ့ထက်တစ်နေ့ အိုမင်းယိုလွင်းလာကာ ဇရာတရားများက ဖိစီး နှိပ်စက်လာရကား စာပေဓမ္မ အဝဝပို့ချရာတွင် လစ်ဟင်းပျက်ကွက်လာလေသည်၊ ထိုအခါ သာမဏေကျော်လေး၏ စိတ်ဝယ် အကြံဖြစ်ပေါ် လာသည်မှာ—

“ငါ၏ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် အိုမင်းရင့်ရော်၍ စာပေဓမ္မ အဝဝကို မပို့ချနိုင်တော့ပြီ၊ ငါသည်ကား ငယ်ရွယ်သေးသော သာမဏေမျှသာဖြစ်နေသေး၍ ပညာသင်ကြားရာတွင် ရောင့်ရဲတင်းတိမ်ခြင်းမရှိနိုင်သေး၊ ပရိယတ်ကျမ်းကုန်ဆုံးအောင် သင်ကြားနိုင်ရန် (အမရပူရမြို့ မင်္ဂလာတိုက်ကျောင်းတွင် အဘိဓမ္မာအရာတွင် ပြိုင်ဘက်မရှိသော ပထမကျော်ဆရာကြီး ဦးအုန်း)သည် ညဝါစာချနေကြောင်းကို အစ်မရင်းဖြစ်သူ(သီလရှင်ဆရာကြီးဒေါ်သုစာရီ)ထံမှကြားသိရသဖြင့် ဆရာကြီးဦးအုန်းထံ သွားရောက်ပြီး ပညာဆည်းပူးရလျှင် ကောင်းလေစွဟူသော အကြံသည် သာမဏေကျော်လေး၏စိတ်ဝယ် ဖြစ်ပေါ်လာလေသည်။

## ရှင်သာမဏေကျော်ကလေး၏ စာသင်ဖော်များ

ဥယျာဉ်တော်ရွာ ဆရာကြီးဦးစံရာ၏ကျောင်းမှစ၍ အမရပူရမြို့ မင်္ဂလာကျောင်းတိုက်တွင် ရဟန်းဘဝဖြင့် ပညာသင်ကြားသည်အထိ အသက်ရှင်လျက် ရင်းနှီး ထင်ရှားသော ပညာသင်ဘက် များမှာ အောက်ပါအတိုင်း ဖြစ်ကြပါသည်။

(၁) ဦးညေယျ (လူအမည်-ဦးတင်)

(၂) ဦးစန္ဒော (လူအမည်-ဦးစိန်ညွန့်)

(၃) ဦးစန္ဒ (လူအမည်-ဦးဘရင်)

ယနေ့တိုင် အသက်ရှင်လျက် ရှိနေသေးသော မိုးကုတ်ဆရာတော် ဘုရားကြီး၏ညီဝမ်းကွဲတော်သူ ဦးဘရင်(ရဟန်းဘွဲ့ဦးစန္ဒ)က စာရေး သူအား ပြောပြသည့် ထူးခြားချက်တစ်ရပ်မှာ အသက် (၁၄) နှစ် လောက် ရှင်သာမဏေဘဝက ဒင့်ဝတီမြစ်တစ်ဘက်ကမ်းရှိ ပြောင်းဖူး ခင်းမှ ပြောင်းဖူးချိုးပေးရန် မိမိ (ဦးဘရင်)၏ ပူစာချက်ကြောင့် လှေငယ်တစ်စင်းတွင် မိမိအား တင်ဆောင်ပြီး သာမဏေကလေး ရှင်ဝိမလကိုယ်တိုင်လှော်ခတ်၍မြစ်တစ်ဘက်သို့ပို့ပါသည်။ထိုအချိန်မှာ မိုးတွင်းဖြစ်၍ ရေအလွန်ကြီးချိန် ဖြစ်ပါသည်။ ၎င်းမြစ်အလယ်တွင် လှိုင်းအလွန်ကြီး၍ ကြောက်မက်ဖွယ်ကောင်းသောဝဲဂယက်ကြီးလည်း ရှိလေသည်။ ယင်းသို့လှော်ခတ်ရင်းဖြင့် ရေစီးအားကြောင့် ဝဲဂယက် ကြီးအတွင်းသို့ မျောပါမှန်းမသိ မျောပါသွားလေတော့သည်။ ရှင် သာမဏေကလေးတို့ ဝဲကြီးအတွင်း မျောပါနေသည်ကို ဝဲယာမြစ် ကမ်းပေါ်က မြင်ကြသူလူအများက အော်ဟစ်စုဝေးခါ ကမ်းစေး မှာ ဆိုက်ကပ်ထားသောတွေ့ရာလှေများဖြင့် ဝဲဂယက်အတွင်းချာချာ လည်၍ နစ်မြုပ်စပြုနေပြီဟု မြင်နေရသော ရှင်သာမဏေကလေးတို့ လှေရှိရာသို့ကယ်ဆယ်ရန် အပြင်းလှော်ခတ်လာကြရာ အနီးရောက်ခါ မှ ရှင်သာမဏေတို့၏ လှေငယ်မှာ တကယ်ပင် ကြောက်မက်ဖွယ် ကောင်းသော ဝဲဂယက်ကြီးကိုကျော်ဖြတ် လှော်ခတ် နေငြားလည်း ပကတိငြိမ်သက်သောရေပြင်တွင် လှော်ခတ်နေဘိအလား အံ့ဩစွာ တွေ့မြင်ကြရလေသည်။

အဆိုပါဝဲဂယက်ကြီးပေါ်သို့ လှော်ခတ်ဖြတ်သန်းဖို့ မဆိုထားနှင့် အနီးတစ်ဝိုက်တွင်ပင်သော်မှ မည်သည့်လှေကြီးလှေငယ်များ လှော်ခတ်ဖြတ်သန်းခြင်း မပြုရဲကြပေ။ ထိုအဖြစ်အပျက်ကို ကိုယ်တွေ့မျက်မြင်ဖြစ်ကြသော လူအများက အရေးတကြီးအော်ဟစ်မေးမြန်းကြရာ ရှင်သာမဏေကလေးက စိုးရိမ်တကြီးနှင့် မေးလာ ကြသူများကို အံ့ဩစရာဖြင့် မိမိတို့၏လှေမှာ ဝဲဂယက်ကြီးအတွင်း ကျရောက်နေမှန်းပင်မသိ ငြိမ်သက်သော ရေပြင်ပေါ်တွင်သာ လှော်ခတ်နေသည့်ပဲ ထင်ကြောင်း ပြန်လည် ပြောပြလေသည်။ ယင်း အချက်သည်ပင် (နောင်တစ်ချိန်တွင် သာသနာ့ဝယ် နေလပမာ ထင်ပေါ်ကျော်စောမည့် ဘုန်းကံရှင်အား အဝိညာဏက ရေဖြစ်သော (ဝါ)သက်မဲ့ဖြစ်ဖြစ်သော ဝဲဂယက်ကြီးသော်မှ ဘေးအန္တရာယ်မပြုနိုင်သည်မှာ) အံ့ဩဖွယ်ရာ ထူးခြားသော နိမိတ်လက္ခဏာတစ်ပါးပင် ဖြစ်လေသည်။

## အမရပူရမြို့မဂ်လာတိုက်တွင် ပညာသင်ကြားရန် မယ်တော် ခမည်းတော်တို့ထံ ခွင့်ပန်ကြားခြင်း

ရှင်သာမဏေကျော်ကလေးသည် အမရပူရမြို့ မင်္ဂလာတိုက်တွင် ပညာသင်ကြားရန်အရေး မျှော်တွေးကာ အကြံ ဖြစ်ပေါ်သည့် အလျောက် မယ်တော် ခမည်းတော်တို့အား ပြောကြားသည်မှာ—

သက်န်း၊ သွမ်း၊ ကျောင်း၊ ဆေး စသော ပစ္စည်းလေးပါးမျှသာ ပေါများပြီး ဥပဇ္ဈာယ်ဆရာတော်ကြီးမှာ အသက်အရွယ် အိုမင်းရင့်ရော်ခြင်းကြောင့်စာပေပို့ချမှုပျက်ကွက်လစ်ဟင်းလာသဖြင့် ဤဂွေးပင်တောရကျောင်းတွင် ပညာသင်ကြားလိုသောဆန္ဒမရှိပါ။ အကယ်၍ မရွှောင်မလွဲသာ ဤကျောင်းတွင်သာ ဆက်လက်ပညာသင်ကြားနေရပါက မိမိသင်ကြားတတ်မြောက်ပြီးသောစာပေများထက် လွန်ကဲပြီး တတ်မြောက်ဖွယ်ရာမရှိသည့်အပြင် တတ်မြောက်ပြီးသောစာပေများမှာ တစ်ဖြည်းဖြည်းမေ့ပျောက်ဖွယ်ရာသာရှိပါ၍မယ်တော်ခမည်းတော်တို့က မိမိအား စာပေ ပရိယတ်ကို ဆုံးခန်းတိုင်အောင် သင်ကြားနိုင်ရန် အမရပူရမြို့ မင်္ဂလာတိုက်သို့ အမြန်လိုက်ပို့ပါရန် ဖွင့်ဟ ပန်ကြားတော်မူလေသည်။

ရှင်သာမဏေကျော်ကလေးသည် မိမိကြံစည်စိတ်ကူးရသည့်အတိုင်း ဖွင့်ဟပန်ကြားသည်ကို မယ်တော် ခမည်းတော်တို့က မိမိတို့ရင်သွေး ရှင်သာမဏေလေးမှာ အသက်ပင် ငယ်သော်လည်း ပညာအရာတွင် အရွယ်နှင့်မလိုက်အောင် ထူးချွန်တတ်မြောက်သူဖြစ်သဖြင့် ဤဇွေးပင် တောရကျောင်း၌ ပညာသင်ကြားရန် မလုံလောက်တော့သည်ကို သိရှိကြ၍ လိုက်ပို့ပေးပါမည်ဟု ဝန်ခံဓာတိပေးသော်လည်း အရွယ်မှာ နုနယ်သေး၍ လိုက်မပို့ဘဲ အချိန်ဆွဲကာ ထားကြလေသည်။

မယ်တော် ခမည်းတော်တို့က လိုက်မပို့ဘဲ အေးအေးဆေးဆေး အချိန်ဆွဲနေသည်ကို သိလာသောအခါ ရှင်သာမဏေကျော်ကလေး က ထပ်မံ၍ "ကိုရင်ကို ဘယ်အချိန် ဘယ်အခါကျမှ ပညာဆက် လက် သင်ကြားရန် အမရပူရမြို့သို့ လိုက်ပို့ပေးကြမလဲ"ဟု မေးမြန်း လေရာ။

မယ်တော် ခမည်းတော်တို့က သိရာဝါသ ကိစ္စများမြောင် လူတို့ ဘောင်၌ နေကြကုန်သော တပည့်တော်တို့မှာ ကိုရင်အား အမရပူရ မြို့သို့ လိုက်ပို့ပါမည်ဟု ဝန်ခံကတိပေးခဲ့သော်လည်း "တပည့်တော် တို့မှာ လူမှုကိစ္စက အလွန်များလွန်းနေလို့ လိုက်ပို့နိုင်ဘဲ အချိန် ကြန့်ကြာနှောင့်နှေးနေပါတယ်၊ ယင်းကိစ္စအတွက် စိုးရိမ်ကြောင့်ကြ မျာပါရများ မရှိပါနဲ့၊ နက်ဖြန်သန်ဘက်ဆိုသလို အားလပ်သည့်နေ့ တစ်နေ့တွင် လိုက်ပို့ပေးပါမယ်"ဟု ထပ်မံလှည့်ပတ်ပြောကြားပြန် လေသည်။

မယ်တော် ခမည်းတော် တို့က နက်ဖြန်ပို့မည် သန်ဘက်ပို့ ည့် စသည်ဖြင့် လိမ်လည် လှည့်ပတ် ထားသည်ကို ထင်ထင် ှားရှား သိရသောအခါ သာမဏေကျော်ကလေးသည် မယ်တော် မည်းတော်တို့ထံ နောက်ဆုံး ချဉ်းကပ်၍ "ကိုရင်ကို လိုက်ပို့ပါ ယ်လို့ လိမ်လည် လှည့်ပတ်ပြီး အချိန် ဆွဲမနေကြပါနဲ့၊ ပို့လိုသော ာန္တရိက အဆောတလျင်သာ ပို့ပေးပါ။ တကယ်လို့ မယ်တော် ခမည်း တော်တို့အား မပန်ကြားဘဲ ကိုရင်တစ်ပါးတည်း ထွက်သွားခဲ့သော် ိုရင်အပေါ်မှာအပြစ်မတင်လိုက်ကြပါနဲ့။ကိုရင်ကို လိုက်ပို့မည့်ဆောင် ာန်ဆောင်ပြီး လိမ်လည်လှည့်ပတ် မဟုတ် မမှန် ပြောဆိုခြင်းဟာ

အကျိုးမရှိပါ, မကောင်းလေသည်သာ။ အကယ်၍ မယ်တော် ခမည်းတော်တို့က ကိုရင်အား လိုက်မပို့ပါက တစ်ကိုယ်တည်း သွားရလိမ့်မည်''ဟု အကျိုးအကြောင်းပြဆာ နောက်ဆုံးအနေဖြင့် ပွင့်လင်းစွာ ပြောကြားလေသည်။ သာမဏေကျော်ကလေး၏ နောက်ထပ်မံသတိပေးချက်ကို ဂရုပြုမိသော်လည်း အသက်အရွယ် နုနယ်လှသေး၍ အဟုတ်တကယ် ရပ်ဝေးဒေသသို့ လူကြီးများ လိုက်မပို့ဘဲ တစ်ကိုယ်တည်း သွားရောက်နိုင်လိမ့်မည်ဟု မယူဆကြပါသဖြင့် မိမိတို့ ပြုဖွယ်ကိစ္စရပ်များကိုသာ ပြုလုပ်ခါ နေကြသည်။

## အမရပူရမြို့မင်္ဂလာတိုက်တွင်ပညာဆက်လက်ဆည်းပူးရန် ဂွေးပင်တောရ ဆရာတော်ကြီးအားခွင့်ပန်ခြင်း

ပရိယတ် သင်ကြားခြင်း၌ လွန်မင်းစွာ ဆန္ဒ ပြင်းပြလျက်ရှိသော ထို သာမဏေကျော်ကလေးသည် အမရပူရမြို့ မင်္ဂလာကျောင်းတိုက်သို့ သွားရောက်၍ ပညာဆည်းပူးလိုကြောင်း မယ်တော် ခမည်းတော်တို့အား နောက်ဆုံးအနေဖြင့် ခွင့်ပြုရန် ဖွင့်ဟ ပန်ကြားပြီးနောက် (၂)ရက် (၃)ရက်ခန့် ဂွေးပင်တောရကျောင်း၌ နေပြီး ဆရာတော်ကြီးထံ ချဉ်းကပ်၍ မိမိသည် အမရပူရမြို့ မင်္ဂလာတိုက်တွင် စာပေပရိယတ်သင်ကြားလို၍ သွားရောက် သင်ကြားခွင့် ပြုပါရန် ပန်ကြားလျှောက်ထားလေသည်။

ထိုသို့ လျှောက်ထား ခွင့်ပန်ကြားသည်ကို ဆရာတော်ကြီးက မိမိ၏တပည့် သာမဏေကျော်ကလေးမှာ ပညာ သင်ကြားရန် အတွက် တပည့်တို့ကျင့်ဝတ် (၅)ပါးနှင့် ပြည့်စုံသည့်အပြင် လိမ္မာရေးခြားရှိသူကလေး ဖြစ်သည့်အလျောက် မိမိထံတွင် အမြဲတစေ နေစေလိုသောဆန္ဒ ရှိငြားသော်လည်း မိမိမှာ ဇရာဖိစီး အိုမင်းခြင်းသို့ ရောက်နေသောပုဂ္ဂိုလ်ဖြစ်၍ စာပေပို့ချရာတွင် လစ်ဟင်း ပျက်ကွက်သည်များကြောင့်တစ်ကြောင်း, မိမိတပည့်သာမဏေကျော်ကလေး၏ နောင်အနာဂတ် သာသနာတွင် ကျေးဇူးကြီးမည့် သာသနာပြု အာဇာနည်တစ်ပါး ထင်ရှားပေါ်ပေါက် လာနိုင်သော အရည်အချင်းနှင့် ပြည့်စုံသည်ကို ''သာမဏေကလေး၏သက်နှိုင်း ပျားစွဲနိမိတ် လက္ခဏာ

အရ’’ သိပြီး ဖြစ်သောကြောင့် တစ်ကြောင်း, လုံး၀ မတားမြစ် တော့ဘဲ သမဏေကလေးအား ကြည်ကြည်ဖြူဖြူ အဆုံးအမ ဩဝါဒ ပေးတော်မူလျက် ခွင့်ပြုတော်မူလေသည်။

## အမရပူရမြို့ မင်္ဂလာတိုက်သို့ ပညာသင်ကြားရန် တစ်ကိုယ်တည်း သွားရောက်ခြင်း

အမရပူရမြို့ မင်္ဂလာတိုက်တွင် စာပေပရိယတ် သင်ကြားရန် ငွေးပင် တောရကျောင်း ဆရာတော်ဘုရားကြီး၏ ခွင့်ပြုချက်အရ ရှင်သာမဏေ ကျော်ကလေး၊သည် မိမိ၏ ပရိက္ခရာများကိုသာယူ၍ မယ်တော် ခမည်း တော်တို့ထံ ထပ်မံခွင့်ပန်ခြင်း မပြုတော့ဘဲ ဥယျာဉ်တော်ရွာ ငွေးပင် တောရကျောင်းမှ အဖော်မပါ တစ်ကိုယ်တည်း အမရပူရမြို့သို့ ရှေ့ရှု ထွက်ခဲ့လေသည်။

ထိုအခါတွင် ငါ၏ အလိုဆန္ဒ ဟူသမျှတို့သည် အောင်မြင်ပြီးစီး ခြင်းသို့ ရောက်တော့မည်၊ ငါ၏ မယ်တော် ခမည်းတော်တို့သည် လည်း ငါ့အား ချုပ်ချယ် ဟန့်တားခြင်းမှ ကင်းဝေးရလေပြီဟု မိမိ ၏အကြံအစည် အောင်မြင်မှုကို တွေးဆရွှင်မြှော်လျက် ဝမ်းအမြောက် ကြီး မြောက်ကာ မည်သည့်အခါကမှ မသွားမရောက် ဖူးသေးသော ခရီးကို အခြားလမ်းသွား ခရီးသည်များအား တစ်ဆင့်မှတစ်ဆင့် မေးမြန်းကာ ခြေလျင်ခရီးဖြင့်သွားရာ, တစ်ဆင့်စကား တစ်ဆင့်နား ကြားဖူးရုံမျှရှိသော အမရပူရမြို့သို့ ဘေးမသီ ရန်မခဘဲ ချောမောစွာ ဆိုက်တော်မူလေသည်။

## အမရပူရမြို့ မင်္ဂလာတိုက်တွင် ပညာသင်ကြားခြင်း

ရှင်သာမဏေကျော်ကလေးသည် တစ်ခါတစ်ခေါက်မျှ မရောက် ဖူးသေးသော အမရပူရမြို့သို့ မေးမြန်းသွားရသဖြင့် လမ်းခရီးတွင် အချိန်ကြန့်ကြာရသော်လည်း ဘေးမသီ ရန်မခဘဲ ဆိုက်ရောက်ခဲ့ပြီး နောက် အမရပူရမြို့တွင် ရှေးဦးစွာဆွေမျိုးတော်စပ်သော ရက်ကန်း တောင်ဆရာကြီး ဦးမောင်, ဇနီးဒေါ်ကျော့တို့နှင့် တွေ့ရှိကြလေ

သည်။ ရှင်သာမဏေကျော်ကလေး၏ တစ်ကိုယ်တည်း စွန့်စားလာခဲ့ရခြင်း၏ အကြောင်းရင်းကို မေးမြန်း၍ သိရှိကြရာ, ရှင်သာမဏေကလေးအား အိမ်ရှင်တို့ ပြုစုအပ်သော ဝတ္ထုရားနှင့်အညီ ပြုစုကြပြီး ၎င်း၏ အစ်မရင်းဖြစ်သူ သီလရှင်ဆရာကြီး ဒေါ်သုစာရီ၏ စာသင်ဖော်များဖြစ်ကြသော သီလရှင် ဒေါ်ပုညနှင့် ဒေါ်ဝိစာရီတို့ထံ ပို့အပ်ပေးကြလေသည်။

ဒေါ်သုစာရီမှာ (ယခုအခါ) မင်္ဂလာရိပ်သာ အရှေ့ဘက် သီလရှင်ဆရာကြီးများ သီတင်းသုံးသော ကျောင်းခင်းအတွင်းရှိ ကျောင်း၌ သီတင်းသုံး၍ စာဝါများကို အပတ်တကုတ် ကြိုးစားအားထုတ်တော်မူလေသည်။ယခုအခါ ပဲခူးမြို့ လိပ်ပြာကန်၌ သီတင်းသုံးလျက် တပည့်များကို စာဝါများ ပို့ချတော်မူပြီး တရားအားထုတ်လျက် ရှိလေသည်။

ရှင်သာမဏေကျော်ကလေးသည် ဖော်ပြပါသီလရှင်များမှတစ်ဆင့် "မင်္ဂလာတိုက်အုပ်ဆရာတော် ဦးသုစ်ာတ" ထံ ချဉ်းကပ်တော်မူကာ, မိမိမှာ မင်္ဂလာတိုက်၌ စာပေပရိယတ်များကို သင်ကြားလိုသောဆန္ဒပြင်းပြ၍ ဥယျာဉ်တော်ရွာ ခွေးပင်တောရကျောင်း ဆရာတော်အား ခွင့်ပန်ပြီး တစ်ကိုယ်တည်း လာခဲ့ရကြောင်း လျှောက်ထားရာ, မင်္ဂလာတိုက်အုပ် ဆရာကြီးသည် သာမဏေကလေး၏ ရုပ်လက္ခဏာကိုကြည့်၍ အကဲခတ်ကာ စာပေအရာတွင် ထူးချွန်မည့် အမြွှအမူ အရိပ်အရောင်များကို မြင်သဖြင့် ကောင်းမွန်စွာ နေထိုင်၍ ပညာတတ် ထူးချွန်ပေါက်မြောက်အောင် သင်ကြားရန် ဆုံးမဩဝါဒ ပေးပြီးလျှင် "မကုဋ္ဌကျောင်း" တွင် နေထိုင်သီတင်းသုံးရန် ကြည်ကြည်ဖြူဖြူ ခွင့်ပြုတော်မူလေသည်။

ရှင်သာမဏေကျော်ကလေးသည် ရှေးအခါက အစ်မရင်းသီလရှင်ဆရာကြီး ဒေါ်သုစာရီ၏ပြောပြချက်အရမိမိတောင့်တနေသော မင်္ဂလာတိုက်သို့ တကယ်ပင် ရောက်ရှိလာရပြီး စာပေပရိယတ်များကို ဆည်းပူးရမည်ဖြစ်၍ အထူးပင် ဝမ်းမြောက်ရွှင်လန်းကာ အတွေ့တွေ့အပြားပြား တရားမွေကျမ်းဂန်များကို မနေမနား လေ့လာကြိုးစားဆည်းပူးသင်ကြား အားထုတ်တော်မူလေသည်။

မှတ်ချက်။ ။မကုဋကျောင်းနေရာတွင် ယခု ဘုံကျောင်းဆောက်လုပ် လှူဒါန်းထားပါသည်။

## မယ်တော် ခမည်းတော်တို့က ရှင်သာမဏေလေးအား ဥယျာဉ်တော်ရွာသို့ ပြန်ကြွပါရန် လျှောက်ထားခြင်း

မယ်မတော် ခမည်းတော်တို့လည်း ရှင်သာမဏေလေး တစ်ပါးတည်း အမရပူရမြို့ မဂ်လာတိုက်သို့ ပညာသင်ကြားရန် ငွေးပင်တောရကျောင်းမှ တစ်ပါတည်း အဖော်မပါဘဲကြွသွားကြောင်း ကြားသိရလျှင် မယ်တော် ခမည်းတော်တို့လည်း အမရပူရမြို့သို့လိုက်ကာ မိဘဆွေမျိုးရင်းချာများနှင့် ကင်းဝေးပြီ တစ်ရပ်တစ်ကျေး ဖြစ်သည့်ပြင် ရှင်သာမဏေလေးမှာလဲ လူလားမမြောက်သေးဘဲ နုနယ်ငယ်ရွယ်သေးသည့်အတွက် ဥယျာဉ်တော်ရွာ ငွေးပင်တောရကျောင်းသို့ ပြန်လည်ကြွရောက်ရန် အမျိုးမျိုးအကြောင်းပြ၍ လျှောက်ထားကြလေသည်။

ထိုအခါ သာမဏေကလေးက ကျေးဇူးရှင်မယ်တော် ခမည်းတော်တို့အား "ခင်ဗျားတို့သာ ကောင်းမွန်စွာ လုပ်ကိုင်စားသောက်ကြပြီး ကုသိုလ် ကောင်းမှုတို့၌ မမေ့ မလျော့ကြဘဲ ကြိုးစားအားထုတ် နေကြပါကုန်၊ မိမိအတွက် ဘာမျှ စိုးရိမ်သောက ဗျာပါရများ မရှိကြဘဲ အစစအရာရာ စိတ်ချပြီး နေရပ်သို့ပြန်ကြပါ၊ မိမိသည်ဤမဂ်လာတိုက်၌သာ ပရိယတ္တိပဋိပတ္တိများကိုသာသင်ကြားအားထုတ်ကာ ချမ်းသာစွာ နေပါတော့မည်" စသည်ဖြင့် မိန့်ကြားတော်မူလေသည်။

## မဂ်လာတိုက်အုပ် ဆရာတော်ကြီးကပင် တရားမဟောရန် တားမြစ်ရခြင်း

ရှင်သာမဏေကျော်ကလေးသည် ပရိယတ္တိ သင်ကြားရာတွင် အရွယ်နှင့်မလိုက်အောင် တတ်ကျွမ်းထက်မြက်လှသည့်ပြင် တရားမွေ့ ဟောပြောရာ၌လည်း တိကျပြတ်သားလျက်အသံဩဇာပြည့်ဝပြီး မကြောက်မရွံ့ ရဲရဲရင့်ရင့် ပွဲလယ်တင့်အောင် ဟောပြောလေ့ရှိလေသည်။သီတင်း

တိုင်းလိုပင် ရပ်ကွက် ဓမ္မာရုံများမှ ရှင်သာမဏေကျော်လေးအား သီလ ပေး တရားဟော ရေစက်ချအတွက် ပင့်ဖိတ်လျှောက်ထားသူ များ လွန်း၍ ထိုအလုပ်များနှင့်သာ အချိန်ကုန်ဆုံးနေခြင်းကို သိရှိလာ သော မင်္ဂလာတိုက်အုပ် ဆရာတော်ဘုရားကြီးက "တရားဟောခြင်း အလုပ်များနှင့်သာ အချိန်မဖြုန်းပါနှင့်" ဟူ ဆုံးမဩဝါဒပေးပြီး တရားဟောခြင်းအလုပ်ကို တားမြစ်ထားရလေသည်။

ရှင်သာမဏေကျော်၏ တရားကိုသာ နာကြားလိုကြသော တရား နာ ပရိတ်သတ်ထဲမှ တိုက်အုပ်ဆရာတော်ဘုရားကြီး၏ တကာရင်း တပည့်ရင်းတို့က ထိုသို့တားမြစ်ရခြင်း၏ အကြောင်းရင်းကို မေးမြန်း လျှောက်ထားသောအခါ တိုက်အုပ်ဆရာတော်ဘုရားကြီးက ရှင်သမ ဏေကလေးအား သီလပေး တရားဟော ရေစက်ချစသည်တို့ကို မပြု လုပ်စေလို၍ တားမြစ်သည်မဟုတ်ပါ၊ ရှင်သာမဏေ၏ နောင် အနာဂတ်သာသနာရေးအတွက် ပရိယတ္တိသင်ကြားရေးတွင် အနှောင့် အယှက်မဖြစ်စိမ့်သောငှါ တားမြစ်ရကြောင်းဖြင့် ဖွင့်ဟမိန့်ကြားတော် မူလေသည်။

ရှင်သာမဏေဘဝက အနေမှာ စင်ကြယ်၊ အပြောမှာ သွက်လက်၊ အရွယ်နှင့်မလိုက်အောင် လောကီရေးရာနှင့် လောကုတ္တရာနှစ်ဖြာကို ထေရ်ကြီး ဝါကြီးများကပင် အံ့ဩမကုန်နိုင်လောက်အောင်အသိဉာဏ် ဆောင်ခြင်းကြောင့် ကိုရင်သာရိပုတ္တရာ ဟူ၍လည်းကောင်း ခေါ်ကြ သည်။

ထို့ကြောင့် ရှင်သာမဏေ၏ တရားဓမ္မကို နာကြားလိုကြသော ရပ်ရွာ ပရိသတ်များတို့သည် သီတင်းနေ့ မဟုတ်သော နေ့များတွင် ဆွမ်းကပ်ပြီး ဆွမ်း အနုမောဒနာတရားဟောချီးမြှင့်ပါရန်ပန်ကြားပြီး တရားနာကြရကြောင်း စာရေးသူအား တရား နာဖူးသူများကတစ်ဆင့် ပြောပြ၍ ဖော်ထုတ်ရေးသားလိုက်ရပေသည်။

* * *

## ပဌမကျော် ဆရာကြီး ဦးအုန်းထံ ရှင်သာမဏောဘဝဖြင့် ညဉ့်ဝါများ လိုက်ခြင်း

မဟာဓမ္မာထိက အဂ္ဂမဟာလောင်းလျာ ဖြစ်သော ရှင်ဝိမလသည် ပရိယတ္တိဓမ္မ အထွေထွေကို ကြိုးစားအားထုတ်ကာ သင်ကြားနေစဉ် ထို မင်္ဂလာတိုက်အနီး (ယခု သီလရှင်ဆရာများ သီတင်းသုံးသော ကျောင်းတိုက်နေရာ) ဇရပ်ကြီး၌ ရဟန်းတော်များကိုသာ အဘိဓမ္မာဆိုင်ရာ မာတိကာ ဓာတုကထာ ယမိုက်ပဋ္ဌာန်း ကျမ်းဂန်များကို ပို့ချလျက်ရှိသော ထင်ရှားကျော်ကြားသည့် "ပဌမကျော် ဆရာကြီး ဦးအုန်း" ထံသို့ အစ်မရင်းဖြစ်သူ သီလရှင်ဆရာကြီး ဒေါ်သုစာရီက ထပ်မံ အပ်နှံပေးမှုကြောင့် ညဉ့်ဝါများကို အထူး သင်ယူခွင့်ရလေသည်။ ယင်းသို့ သင်ယူခွင့်ရသည့်အလျောက် အပတ်တကုတ် အားထုတ်ကြိုးစားသင်ယူလေရာ အဘိဓမ္မာဆိုင်ရာ ကျမ်းဂန်များကို သာမဏေဘဝကပင် အတွင်းကျကျ ရှင်းရှင်းနိုးနိုး အာစရိယ ဟတ္ထမုဋ္ဌိ လက်ဆုပ်လက်ကိုင်ရှိအောင် မိမိရရ နိုင်နိုင်နင်းနင်း သင်ကြားတတ်မြောက်တော်မူလေသည်။

**မှတ်ချက်။** ။ ကျေးဇူးရှင် မိုးကုတ် ဆရာတော်လောင်းလျာသည် ရှင်သာမဏေဘဝလေးဘဝ ဆရာကြီး ဦးအုန်းထံ၌ ပညာသင်ကြားစဉ်ကပင် ဆရာကြီး ဦးအုန်းကလည်း ရှင်သာမဏေအား တရားဟော ဝါသနာပါမှန်း သိ၍ စာမသင်ဘဲ တရားဟောသက်သက် ဝါသနာပါနေမည်စိုး၍ စာပေကို ကြိုးစားအားထုတ် သင်ကြားရန် သတိပေး စကား ပြောဖူးသည်ဟု တစ်ဆင့်စကား ပြောသံများ စာရေးသူ ကြားဖူးပါသည်။

## ပဌမကျော် ဆရာကြီးဦးအုန်း၏ အတ္ထုပ္ပတ္တိ အကျဉ်းချုပ်

ဤနေရာ၌ အဘိဓမ္မာအရာတွင် တစ်ဘက်ကမ်းခတ် တတ်မြောက်သည်နှင့်အညီ "အဘိဓမ္မာပါရဂူတစ်ဆူ" ဟု ခေါ်ဝေါ်နိုင်လောက်

အောင် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးနှင့် ရဟန်းတော်တို့အား အဘိဓမ္မာအရာတွင် အသိဉာဏ်ပေးခဲ့သောဆရာကြီးဦးအုန်း၏ မွေးဖွားခဲ့ရာ ဇာတိနှင့်တကွ အတ္ထုပ္ပတ္တိကို မရေးသားဘဲ ချန်လှပ်ထားခဲ့ရန် မသင့်လျော်ဟု ယူဆမိသဖြင့် ဆရာကြီး၏အတ္ထုပ္ပတ္တိအကျဉ်းချုပ်ကိုရဟန်းရှင်လူ အများတို့ သိရှိကြရလေအောင် ထည့်သွင်းဖော်ပြလိုက်ပေအံ့။

ပဌမကျော် ဆရာကြီးဦးအုန်းသည်ကား သာယာဝတီမင်းဟူ၍လည်းကောင်း၊ ရွှေဘိုမင်းဟူ၍လည်းကောင်း၊ ထင်ရှားကျော်စောသော ကုန်းဘောင်မင်းဆက် ပဋ္ဌမမြောက်ဘုရင် သာယာဝတီမင်း နတ်ရွာစံတော်မူသည့်နောက် သက္ကရာဇ် ၁၂၀၇-ခုနှစ်တွင် နန်းတက်တော်မူသော ပုဂံမင်းတရားလက်ထက်တွင် နွားထိုးကြီးတိုက် အပါအဝင် ရမည်းသင်း စီရင်စု အလည်ကုန်းရွာ၌ အဘ ဦးတုတ်ပေါ၊ အမိ ဒေါ်ကူးတို့က မြန်မာသက္ကရာဇ် ၁၂၀၇-ခုနှစ်၊ တော်သလင်းလဆန်း(၈)ရက်၊တနင်္ဂနွေနေ့ တစ်ချက်တီးကျော်အချိန်တွင် မီးရှူးသန့်စင် ဖွားမြင်လေသည်။

သက္ကရာဇ် ၁၂၁၄၊ခုနှစ်တွင် ပဋ္ဌမသင်္ဂါယနာတင် မင်းတရားကြီးသည် နောင်တော် ပုဂံမင်းတရားကြီးကို ရွှေထီးရွှေနန်းမှချ၍ သက္ကရာဇ် ၁၂၁၈-ခုနှစ်တွင် မန္တလေးရတနာပုံ နေပြည်တော်ကြီးကို တည်ထောင်လျက် ထီးသစ်နန်းသစ်တွင် ပြောင်းရွှေ့ စံမြန်းတော်မူလေသည်။ မင်းတုန်းမင်းတရားကြီးနန်းစံ(၃)နှစ်မြောက်သက္ကရာဇ်၁၂၁၇ ခုနှစ်တွင် အသက်(၉)နှစ်သား အရွယ်သို့ရောက်သဖြင့် ပညာသင်ရန်အချိန် ရောက်ပြီဖြစ်ရကား "အင်းကုန်းကျောင်းတိုက် ဂိုဏ်းထောက်ဆရာတော် ဦးသုဒဿန"အရှင်သူမြတ်ထံ ခိုလှုံဆည်းကပ်ပြီးလျှင် သက္ကရာဇ် ၁၂၂၃-ခုနှစ်တွင် ဦးသုဒဿန အရှင်သူမြတ်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေပြုလေသည်။ဘွဲ့တော်မှာ "ရှင်အာဒိစ္စ"ဟူ၍ ဖြစ်သည်။

(၄) နှစ်တိုင်တိုင် ဥပဇ္ဈယ်ဆရာ၏ ခြေရင်း၌ သီတင်းသုံးလျက် ပညာများကို အတွေးပင် သင်ကြား၍ ပဉ္စမ သင်္ဂါယနာတင် ဘုရင်မင်းတုန်းမင်းတရားကြီး နန်းစံ(၁၃)နှစ်မြောက် သက္ကရာဇ် ၁၂၂၇ ခုနှစ်တွင် မန္တလေးရွှေမြို့တော်ကြီးသို့ ပညာသင်ရန်တက်ခဲ့၍ မဏ္ဍလာ

ရာမတိုက် ပြည်ဆရာတော်ဘုရားကြီးခြေတော်ရင်းတွင် ပါဠိအဋ္ဌကထာ ဋီကာကျမ်းဂန်များကို သင်ကြားလေသည်။

သက္ကရာဇ် ၁၂၂၈ ခုနှစ် နယုန်လတွင် ကျင်းပတော်မူသော ပဋ္ဌမပြန် စာမေးပွဲ သဘင်ကြီး၌ သဒ္ဒါ သင်္ဂြိုဟ်မှစ၍ ပဋ္ဌာန်းခြောက်တိတ်တိုင်အောင် ပြန်ဆိုတော်မူသဖြင့် ပဋ္ဌမကျော် အကြီးတန်းတွင် အောင်ပန်းဆင်ယင်ပြီးလျှင် ၎င်းနှစ်တွင်ပင် အသက်တော် ၈၉ရောက်ပြီဖြစ်၍ သာမဏေ ရှင်အာဒိစ္စသည် ပြည်ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်တော်မူလေ၏။ စာပေ ကျမ်းဂန်များကိုလည်း ပြည်ဆရာတော်ဘုရားကြီး အထံတော်၌လည်းကောင်း၊ မဟာဇောတိကာရာမတိုက် စံကျောင်းဆရာတော်ဘုရားကြီး အထံတော်၌ လည်းကောင်း၊ နည်းနာနိဿယ တောင်းစွာရအောင် သင်ကြားခဲ့လေသည်၊ ရဟန်းတော် ဦးအာဒိစ္စကား အထူးသဖြင့် ဉာဏ်ဝါအရာတွင် ရှေးဆရာကြီးများ၏ နည်းနာနိဿယများကို လက်ဆုပ်ပိုင်ပိုင်၊နိုင်နိုင်နင်းနင်း ရသဖြင့်ဉာဏ်ဝါပို့ချခြင်းအရာ၌ အကျော်တစော ရှိခဲ့သေသည်။

သက္ကရာဇ် ၁၂၃၅ ခုနှစ်တွင် ပဋ္ဌမသင်္ဂါယနာတင် ဘုရင်မင်းတုန်းမင်းတရားကြီးသည် လူပြန်တော်ပညာရှိများကို စေလွှတ်တော်မူ၍ ရဟန်းတော် ဦးအာဒိစ္စ အရှင်သူမြတ်၏ ပရိယတ်ဉာဏ်စွမ်းကို စုံစမ်းထောက်လှမ်းတော်မူရာ အထူးသိရှိတော်မူရကား "ပဋ္ဌမ စာချကြီး အဖြစ်ဖြင့်ဆွမ်းဆန်တော်"များကို ဆက်ကပ်လှူဒါန်းတော်မူလေသည်။

သက္ကရာဇ် ၁၂၄၀ ပြည့်နှစ်တွင် ပဉ္စမ သင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီး နတ်ရွာစံတော်မူရာ သားတော် သီပေါမင်းသည် ဆက်လက်၍ ရွှေထီးရွှေနန်း စံမြန်းတော်မူလေသည်။ ထိုစဉ်အခါ ပဋ္ဌမစာချကြီး အဖြစ်ဖြင့်သာ သီပေါမင်းမြတ်၏ ဆွမ်းဆန်တော်များကို ခံယူတော်မူပြီးလျှင် သာသနာတော်ကြီး၏ဝန်ကို ထမ်းဆောင်လျက် ရှိတော်မူလေသည်။

သက္ကရာဇ် ၁၂၄၇ ခုနှစ် တန်ဆောင်းမုန်းလပြည့်ကျော် (၈)ရက်နေ့တွင် သီပေါဘုရင်မင်းမြတ်သည် ရွှေထီးရွှေနန်းကို စွန့်လွှတ်ရကာ ဘုံဘေနယ် ရတနာဂီရိ စံအိမ်သို့ ကြွမြန်းတော်မူရသဖြင့် သာသနာ

တော်၏ တန်ခိုးတော်သည် တစ်နေ့တခြား ရေနည်းငါးကဲ့သို့ ရှေ့လျော့ပျက်ပြား၍ လာခဲ့ရလေ၏။

ထိုကဲ့သို့ သာသနာတော်ကြီး ယိုယွင်းလာသည်ကို မျက်ဝါးထင်ထင် တွေ့မြင်ရသော ရဟန်းတော် ဦးအာဒိစ္စ အရှင်သူမြတ်သည် သာသနာတော်ကြီး၌ မွေ့လျော်ခြင်း ကင်းသဖြင့် သက္ကရာဇ် ၁၂၄၀ ခုနှစ်တွင် သာသနာတော်မှ ဆင်းသက်ခဲ့လေသတည်း။

ဤကဲ့သို့ သာသနာတော်ကြီးမှ ဆင်းသက်ခဲ့သော်လည်း ကြောင့်ကြမဲ့ မနေမူ၍ မိမိ၏ရည်သန်ရင်းရှိခဲ့သော ကျမ်းဂန်များကို ပြုစုခြင်းဖြင့်လည်းကောင်း၊ ရဟန်းသံဃာတော်များကို စာပေပို့ချခြင်းဖြင့်လည်းကောင်း၊ သီတင်းသီလစောင့်ထိန်းခြင်းဖြင့် လည်းကောင်း၊ အသက်(၇၉)နှစ် ကျော်သည့်တိုင်အောင် အားထုတ်နေထိုင်ခဲ့လေသည်။ အထူးသဖြင့် ဆရာကြီးသည် အဘိဓမ္မာ ညဝါတက်တွင် ဘုရင်နှစ်ဆက်တိုင် အကျော်တစောရှိခဲ့သော ပုဂ္ဂိုလ်ကြီးတစ်ဦး ဖြစ်ခဲ့လေသည်။

ဆရာကြီးသည် အမရပူရမြို့ ပန်းဘဲတန်းရပ်တွင် အိမ်ထောင်ကျ၍ သမီးတစ်ယောက် ထွန်းကားလေသည်။ ထိုသို့ အိမ်ထောင်ကျ၍ နေစေကာမူ အိမ်ထောင်မှုဆိုင်ရာ အလုပ်အကိုင်များကို စိတ်မဝင်စားဘဲ စာပေပို့ချလျက်သာ မနေလေသည်။ ထို့ကြောင့်လည်း ထိုအိမ်ထောင်နှင့်မမြဲခဲ့ပေ။ အိမ်ထောင်နှင့် ကွဲပြီးနောက် နောက်အိမ်ထောင် မပြုတော့ဘဲ စာပို့ချမြဲအတိုင်းပင် ပို့ချနေလေသည်။

ထိုအချိန်က မင်္ဂလာတိုက်၌ အဆောက်အဦများနှင့် သံဃာတော်များမှာ ဆိတ်သုဉ်းခြင်းအဖြစ်မျိုးသို့ ကျရောက်လုမတတ်ဖြစ်၍နေလေသည်။ ထိုအခြင်းအရာကိုမြင်၍ ဒါယကာများက ဆရာကြီးဦးအုန်းအား မင်္ဂလာတိုက်သို့လာပြီး စာပို့ချပါရန် သွားရောက်တောင်းပန်ကြသဖြင့် သက္ကရာဇ် ၁၂၆၇-ခုနှစ်တွင် ဆရာကြီးသည် သံဃာတော်(၁၀)ပါးနှင့်အတူ မင်္ဂလာတိုက်သို့ ရောက်ရှိလာလေသည်။ ထိုသံဃာတော် (၁၀)ပါးတွင် ယခုထက်တိုင်သက်တော်ထင်ရှားရှိတော်မူသော အမရပူရမြို့ တောင်မင်းကြီးဘုရားအနီး အောင်ခြင်းရှစ်ပါး

ကျောင်းတိုက်တွင် သီတင်းသုံးနေတော်မူသော ဆရာတော် အရှင်နာဂဝံသလည်း တစ်ပါးအပါအဝင် ဖြစ်လေသည်။

ရှေးအခါက ယခု သီလရှင်ကျောင်းတိုက်နေရာ၌ ဇရပ်တစ်ဆောင်ရှိလေသည်။ ၎င်းဇရပ်ကြီးတွင် ဆရာကြီးဦးအုန်းနေ၍သံဃာတော်များမှာ မင်္ဂလာတိုက်တွင်း၌ သီတင်းသုံးတော်မူကြလေသည်။ စာတက်သောအခါဆရာကြီးထံသို့သွား၍စာတက်ရလေသည်။ထူးခြားချက်မှာ ဆရာကြီးဦးအုန်း ၎င်းဇရပ်သို့မရောက်မီ ရက်အနည်းငယ်ခန့်က ဇရပ်ပေါ်သို့ ဆင်ဖြူတော်တစ်စီး တက်လာသည်ဟု ဇရပ်တကာကြီးက အိပ်မက်မြင်မက်ခြင်းပင် ဖြစ်လေသည်။ ထိုကဲ့သို့ ဆရာကြီး ဦးအုန်း စာပေပို့ချ၍နေသောကြောင့် မင်္ဂလာတိုက်၌ ရဟန်း၊ ရှင်၊ လူ စာလိုက်သူများမှာ တဖြည်းဖြည်း စည်ကားတိုးတက်၍ လာလေသည်။ ထို့မှတစ်ပါး သီလရှင်များလည်းများပြားလာ၍ ဇရပ်ဆောက်လျက်ရှိသောမြေကွက်ကို မြေရှင်က ဆရာကြီးအား လှူဒါန်း၍ သီလရှင်ကျောင်းတိုက်ကို တည်ဆောက်လေသည်။ဆရာကြီးဦးအုန်းမှာ စာချနေရင်း ရောဂါဝေဒနာ ကပ်ရောက်လာ၍ တစ်နှစ်နီးပါး ဝေဒနာခံစားကာ ထိုဝေဒနာနှင့်ပင် သက္ကရာဇ် ၁၂၈၇ ခုနှစ်၊ ကဆုန်လပြည့်ကျော် (၈)ရက်နေ့တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

## ပဉ္စမအကြိမ် ရဟန်းခံခြင်း

လောကီအမှောင်ကိုရှောင်၍ လောကုတ္တရာအရောင်ကို ဆောင်ရန်စိတ်ဆန္ဒ လွန်ကဲလှသော ရှင်သာမဏေလေးသည် မင်္ဂလာတိုက်မကုဋ္ဌကျောင်း ဆရာကောင်းဆရာမြတ်တို့၏ ခြေတော်ရင်းတွင် စာပေပရိယတ်များကို လေ့လာဆည်းပူးနေရင်း သာမဏေဘာဝမှ ရဟန်းအဖြစ်သို့ရောက်ဖို့ရန် သက်တော်ပြည့်လာ၍ ၁၂၈၁ ခု ဝါဆိုလဆန်း (၈)ရက်နေ့၌ အမရပူရမြို့ မင်္ဂလာတိုက်အုပ် ဆရာတော်ဘုရားကြီး ဘဒ္ဒန္တသုဇာတ မဟာထေရ်ကျော်အား ဥပဇ္ဈာယ်ပြုတော်မူ၍ အမရပူရမြို့ သိမ်ကြီးဈေးတောင်ဘက် အိုးတော်ရပ်နေ ကုန်သည်ကြီးဦးဝင်း၊ ဇနီးဒေါ်ဒေါ်စောတို့က ဥပသမ္ပဒပစ္စယ ဒါယကာခံယူကာ မြင့်မြတ်သောရဟန်းအဖြစ်သို့ ရောက်ရှိတော်မူခဲ့လေသည်။

## ရဟန်းဘဝသို့ ရောက်လျှင် ရောက်ချင်း ဒုတိယအကြိမ်မျှားစွဲခြင်း

ဤသို့ ရဟန်းဘောင်သို့ ဝင်ပြီးနောက် သိမ်မှထွက်၍ မကုဋ္ဌကျောင်း (ယခုအခါ ရှင်းကျောင်းနေရာတွင် စကြံကျောင်းမြောက်ဘက် ဘုံကျောင်း ဆောက်လုပ် လှူဒါန်းထားသည်) သို့ကြွသွားပြီး ချွေးစိုသဖြင့် သင်္ကန်းတော်ကို သင်္ကန်းတန်း၌ တင်လွှားထားစဉ်မိနစ်ပိုင်းအတွင်း တမုဟုတ်ချင်း မျှားပြားလှသော ပျားကောင်များသည် ပျံသန်းရောက်ရှိလာကြကာ သင်္ကန်းတော်၌ သိုက်အုံဖွဲ့ကာ နေကြလေတော့သည်။

ထိုသို့ ရဟန်းဘောင်သို့ ရောက်လျှင် ရောက်ချင်း သင်္ကန်းတော်ကို ပျားများ သိုက်အုံဖွဲ့ကာ စွဲလာခြင်း၏ နိမိတ်လက္ခဏာမှာ အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်လောင်းလျာ၏ ဒုတိယ အကြိမ်မြောက် ထူးခြားချက်ပင် ဖြစ်ပေသည်။

**မှတ်ချက်။** ။ဒုတိယအကြိမ် သင်္ကန်းတော်ကို ပျားစွဲခြင်း အဖြစ်ကို ကိုယ်တွေ့ မျက်မြင် ကြုံတွေ့ခဲ့ရသော သက်တော် (၉၀) သိက္ခာတော် (၇၀) ရှိပြီး ယခုတိုင် အသက်ထင်ရှားရှိသော အောင်ခြင်းရှစ်ပါး ဆရာတော်ဘုရား ဦးနာဂဝံသက ဤပျားစွဲခြင်း လက္ခဏာသည် ယခုဘဝ၌ပင်လျှင် တရားထူးတရားမြတ်များ ရရှိနိုင်သော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ် ဖြစ်ရမည်ဟု ဖွင့်ဟ မိန့်ရှိတော်မူးပုံလေသည်။

## ရဟန်းဘဝဖြင့် ပညာသင်ကြားခြင်း

အရှင်ဝိမလ ရဟန်းတော်ကလေးသည် အမရပူရမြို့ မင်္ဂလာတိုက် အဘိဓမ္မာ ပါရဂူ ပဌမကျော် ဆရာကြီး ဦးအုန်းထံတွင် ဆက်လက်၍ အဘိဓမ္မာဆိုင်ရာ မာတိကာ ဓာတုကထာ ယမိုက်ပဋ္ဌာန်း

ကျမ်းဂန် စသည်များကို အပတ်တကုတ် ကြိုးစား အားထုတ် သင်ကြားတော်မူလေသည်။ ယင်းသို့ ကြိုးစားအားထုတ် သင်ကြားတော်မူသည့်အလျောက် ပညာပါရမီ ဓာတ်ခံအလည်း ကြီးမားလှသဖြင့် သင်ကြားအပ်သော ကျမ်းဂန်များကို အလွယ်တကူ ပိုင်ပိုင်နိုင်နိုင် တတ်မြောက်တော်မူလေသည်။ ပညာအရာတွင် ထူးချွန်ထက်မြက်သည့် အရှင်ဝိမလ ရဟန်းငယ်အား ဆရာကြီးဦးအုန်းက သားရင်းတမျှ ချစ်ခင်နှစ်သက်ပြီး အတွင်းလူယုံ တပည့်ရင်းအဖြစ် ထားရှိခြင်းကို ခံရလေသည်။

ပဌမကျော် ဆရာကြီး ဦးအုန်းသည် တပည့် စာသင်သားဖြစ်ကြသော ရဟန်းတော်တို့တွင် အရှင်ဝိမလ၏ ပရိယတ် ဉာဏ်အစွမ်းကို အထူး သိရှိလာသောကြောင့် အစမ်းသဘောဖြင့် ရံဖန်ရံခါ စာသင်သားများအား ဆရာကြီးကိုယ်စား ညဉ့်ဝါများကို စမ်းသပ်ပို့ချရန် လွှဲအပ်စေခိုင်းခြင်း ခံရလေသည်။

**မှတ်ချက်။** ။အောင်ခြင်းရှစ်ပါး ဆရာတော် အရှင်နာဂဝံသမှာ ၁၃၃၅ ခု နှစ်ဦးပိုင်းက ဘဝနတ်ထံ ပြန်လွန်တော်မူခဲ့ပါသည်။

## စာပေပရိယတ် ဆည်းပူးရာတွင် မရောင့်ရဲနိုင်ခြင်း

အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးတော်ရှင် မိုးကုတ် ဆရာတော် လောင်းလျာ အရှင်ဝိမလ ရဟန်းတော်ကလေးသည် မိမိ သီတင်းသုံးရာ အမရပူရမြို့ မင်္ဂလာတိုက်တွင် စာပေပရိယတ် သင်ကြားမှုကို အားရတင်းတိမ်ခြင်း မရှိသေးဘဲ နိကာယ်ငါးရပ် ပိဋကတ် စာပေကျမ်းဂန်တို့ကို အကုန်အစင် တတ်မြောက်လိုသည့် ဆန္ဒမှာ အလွန်ပြင်းပြသည့်အလျောက် အလွန် ကြီးမားသော လုံ့လ ဝီရိယဖြင့် အပင်ပန်း အဆင်းရဲခံကာ နေ့ လပမာ ထင်ရှားကျော်ကြားလှသည့် ကျမ်းတတ်အကျော် ဆရာတော်ဘုရားကြီးများ သီတင်းသုံးရာ ဖြစ်သော (၁) မန္တလေးမြို့ ခေမာသိဝံ ဆရာတော်ကြီး၊ (၂) မန္တလေးမြို့ တောင်ပြင် ဘုရားကြီးတိုက် ဆရာတော် ဦးခန္တီဆရာတော်နှင့် (၃)

မန္တလေးမြို့ တောင်ပြင် ရွှေဈေးဆောင်တိုက် အရှင်အာဒိစ္စရံသီ ဆရာတော်ကြီးများ၏ ခြေတော်ရင်းသို့ အမရပူရမြို့မှ နေ့စဉ် မီးရထားဖြင့် ကြွ၍ ချဉ်းကပ်ပြီး လောကုတ္တရာကျမ်းအဖြာဖြာကို အာစရိယဟတ္ထမုဋ္ဌိ လက်ဆုပ်လက်ကိုင် မိအောင် သင်ကြားတော်မူခဲ့လေသည့် အပြင် လောကီ လောကုတ် နှစ်လီသော ပညာဗဟုသုတများကိုလည်း ခေတ်နှင့် လျော်ညီစေရန် ထင်ရှား ကျော်စောသော အခြား ဆရာသမားများထံတွင် အန္ဓအတာခံယူပြီး ဆည်းပူးလေသည်။

## ဒုတိယအကြိမ် ရဟန်းခံခြင်း

အဂ္ဂမဟာပဏ္ဍိတ လောင်းလျာ အရှင်ဝိမလ ရဟန်းအား ၁၂၇၀ ခု၊ ဝါဆိုလဆန်း ၈ ရက်နေ့တွင် အမရပူရမြို့ မင်္ဂလာတိုက်အုပ် ဆရာတော်ကြီး ဘဒ္ဒန္တ သုဇာတ မဟာထေရ်မြတ်ကို ဥပဇ္ဈာယ်ပြု၍ အမရပူရမြို့ သိမ်ကြီးဈေးတောင်ဘက် အိုးတော်ရပ် ကုန်သည်ကြီး ဦးဝင်း ဇနီး ဒေါ်ဒေါ်စောတို့က ဥပသမ္ပဒပစ္စယ ဒါယကာခံယူကာ မြင့်မြတ်သော ရဟန်းဘောင်သို့ ပထမအကြိမ် ရောက်ရှိတော်မူခြင်းကို ရှေ့ပိုင်း၌ ဖော်ပြပြီး ဖြစ်ပါသည်။

ထို့နောက် သက္ကရာဇ် ၁၂၇၃ ခုနှစ်၊ ရဟန်းသိက္ခာ (၂) ဝါ အရတွင် ယခင် သာမဏောဘဝက စာပေပရိယတ်များ သင်ကြားလို၍ အမရပူရမြို့သို့ ရောက်စ -ရက်ကန်းတောင်ဆရာကြီး ဦးမောင်၊ ဇနီး ဒေါ်ကျော့တို့က ကျွေးမွေးပြု ဆက်သွယ်ပေးမှုကြောင့် ပထမဦးစွာ သိကျွမ်းခင်မင်ခဲ့ရသည့်အပြင် ဆရာတော်ဘုရား၏ အစ်မရင်းဖြစ်သော သီလရှင်ဆရာကြီး ဒေါ်သုစာရီနှင့်လည်း စာသင်ဖက် ဖြစ်ခဲ့ဖူးသော သီလရှင်ဆရာကြီး ဒေါ်ဝိစာရီက ရဟန်းအစ်မအဖြစ် ခံယူကာ အမရပူရမြို့ မင်္ဂလာတိုက်တွင်ပင် ဒုတိယအကြိမ်မြောက်ရဟန်းအဖြစ်ရောက်ရှိတော်မူပြန်လေသည်။

**မှတ်ချက်။** ။သီလရှင်ဆရာကြီး ဒေါ်ဝိစာရီ၊ (လူအမည် ဒေါ်အေးဘော်)မှာ မိုးကုတ်သူဖြစ်ပြီး လောကီဘုံသားတို့၏ ခလေ့တွင် မပျော်မွေ့ဘဲ ငယ်စဉ်ကပင်သီလရှင်ဝတ်၍ အမရပူရမြို့ မင်္ဂလာတိုက်ကျောင်းတွင် သီတင်းသုံးအော ယခုတိုင် အသက်ရှင်လျက်

ရှိသော ပဲခူးမြို့ လိပ်ပြာကန် သီလရှင် တိုက်အုပ် ဆရာကြီး ဒေါ်သုစာရီဒေါ် ဒေါ်ကိတ္တိနှင့် မင်းကွန်း မိုးကုတ်ကျောင်း သီလရှင်ဆရာကြီး ဒေါ်ဝိလာသီ၊ ၎င်း၏ညီမ ဒေါ်ခေမာစာရီ တို့နှင့်အတူ ဆရာကြီး ဦးအုန်းထံတွင် ညဥ့်ဝါလိုက်ဖက် စာသင်ဖက်များ ဖြစ်ကြသည်။

## ကျောင်းထိုင်ပြီး စာပေပို့ချခြင်း

၁၂၈၆ ခုနှစ်တွင် အမရပူရမြို့ ပွဲတော်ရပ်နေ ဒေါ်သစ်နှင့် သားသမီးတစ်စုက ဆောက်လုပ် လှူဒါန်းသော မင်္ဂလာပိုက်အတွင်း အလယ်ပိဋကတ် တိုက်ကျောင်းကြီးတွင် ကျေးဇူးရှင် မိုးကုတ် ဆရာတော် ဘုရားကြီးသည် ပထမဆုံးအကြိမ် ကျောင်းထိုင်တော်မူပြီး မိမိထံသို့ ပညာဆည်းပူးရန် အထက် အောက် မြန်မာပြည်တစ်ခွင်မှ ကြွ▪ရောက်လာကြသော ရဟန်းတော် စာသင်သား ၅၀၀ ကျော် တို့ကို နှစ်ပေါင်း (၃၀) တိုင်တိုင် အလွန် နက်နဲ ခက်ခဲ သိမ်မွေ့ လှသော အဘိဓမ္မာ ညဥ့်ဝါ မာတိကာ ဓာတုကထာ ယမိုက် ပဋ္ဌာန်းကျမ်း၊ ဂန် စသည်များကို တစ်နှစ်လျှင် (၃) ခေါက်အနက် အဓိပ္ပာယ် အသွယ်သွယ်တို့ကို လွယ်လွယ်နှင့်သိရအောင် နည်းနာ နိသျည်း အဖြာဖြာတည်းဟူသော အလင်းရောင်တို့ဖြင့် တန်ဆာဆင် လျက် ဝိစိကိစ္ဆာ သက်ဒပျောက်ကင်း အသိဉာဏ်ရှင်းလင်းပြီး လယ် ပြင်မှာ ဆင်သွားဘိသကဲ့သို့ ထင်ရှားအောင် သင်ပြ ပို့ချတော်မူခဲ့ လေသည်။

**မှတ်ချက်**။ ။ထို့ကြောင့်ကျေးဇူးရှင်မိုးကုတ်ဆရာတော်ဘုရားကြီးသည် များလှစွာသော သောတုဇန စာသင်သားတို့အား ညဝါစာပို့ချရာတွင် ကျော်ကြားရခြင်း ဖြစ်ပါသည်။

ဤအကြောင်းများကြောင့် စာလိုက်ကြသော စာသင်သား များမှာ လွန်စွာတိုးတက်များပြားပြီး စာပို့ချရာကျောင်းတိုက်မှာ နေရာထိုင်ခင်းများ မလုံလောက်မှု အချို့ စာသင်သားများသည် အနီးအပါးရှိ ဘုရား-တန်ဆောင်းနှင့် သစ်ပင်ဝါးပင်များအောက် အရိပ်အာဝါသများ၌ ပင်ပန်းဆင်းရဲခံကာနေ၍ စာလိုက်ကြရလေ

သည်၊ ထို့အပြင် စာပို့ချချိန်၌ တစ်ထိုင်စာနေရာ ရရှိရေးအတွက် ခဲယဉ်းစွာ ရအောင်ယူ၍ စာလိုက်ကြရပြီးနောက် စာပေများကို ကျောင်းတိုက်အနီး တောင်သမန်အင်းစောင်း မယ်ဇယ်ပင်များ အောက်၌ သွားရောက်၍ အရသင်အံ လေ့ကျက်ရသောကြောင့် ထိုအချိန်က မယ်ဇယ်ပင်တန်းတစ်လျှောက်လုံး သင်္ကန်းရောင်များ လွှမ်းမိုးလျက်ရှိကြောင်း စာရေးသူအား စာလိုက်ခဲ့ဖူးသည့် ဆရာ တော်များက ပြောပြ၍ သိရှိခဲ့ရပါသည်။

### စာပေပို့ချပြီးနောက် တရားနာ ပရိသတ်များအား နွေစဉ် တရားဟောပြောခြင်း

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ထိုသို့ အရပ်ရပ်တို့မှ ကြွရောက်တော်မူလာကြသော စာသင်သားတို့အား ထောင်းစွာ အားထုတ်ခြင်းရှိသော စိတ်တော်ဖြင့် မြဟွန့်စိုရ်တရား၊ ရွှေ့ဝယ်ထား တာ အဘိဓမ္မာ ညဉ့်ဝါဆိုင်ရာ ကျမ်းဂန်များကို ပို့ချပြီးနောက် သက္ကရာဇ် ၁၂၈၆-ခုနှစ်မှစ၍ အစဉ်အမြဲ တရားပွဲများ ကျင်းပကာ ရဟန်း ရှင် လူ တရားနာပရိသတ်တို့အား ဒါန သီလ သမထ တရား တို့သည်သာမက, သစ္စာဆိုက် ခန္ဓာဉာဏ်ရောက် တရားဓမ္မများကို လည်း ဟောကြားတော်မူလေသည်၊ ဝါတွင်း (၃) လပတ်လုံး အမရပူရမြို့နေ ဦးစိန်းဝါ၏ ဘခင် ဦးရှင်ဇာ တမ္မကထပြု၍ လျှောက် ထားပန်ကြားချက်အရ တောင်မင်းကြီးဘုရား သတ္တဋ္ဌာန ရဲလောင်း ဇရပ်ကြီးတွင် သတ္တဝါ ဝေနေယျတို့အား တရားရေအေး အမြိုက် ဆေးကို တိုက်ကျွေးတော်မူခဲ့လေသည်။

ထို့ပြင် အမရပူရမြို့နေ စာရေးကြီး ဦးလှဘူး၏လျှောက်ထား ပန်ကြားချက်အရ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် အောင်မြေ ရွှေဘုံဘုရား တောင်ဘက် ဇရပ်ကြီးတွင်လည်း တရားနာ ပရိသတ် အပေါင်းအား နိဗ္ဗာန်ရောက်ကြောင်း တရားများကို အလှည့်ကျ ဟောကြားတော်မူလေသည်။

## ကိုယ်တိုင် အလုပ်ထိုင်ပြီးမှ ပေါ်လာသောတရားများကို ဟောပြောခြင်း

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီးသည် အထက်က ဖော်ပြခဲ့သည့်အတိုင်း မြောက်မြားလှစွာသော စာသင်သားများအား နေ့စဉ် စာပို့ချသည့်အပြင် တရားနာ ပရိသတ်တို့အားလည်း တရားဓမ္မများကို နေ့စဉ် ဟောကြား ဆုံးမနေကြောင်း ကြားသိရသော အောင်ခြင်းရှစ်ပါး ဆရာတော်ဘုရားကြီး ဦးနာဂဝံသက ကျေးဇူးရှင် ဆရာတော်ဘုရားအား "စာချတာဟာ ကုသိုလ်ရရုံပဲ ရှိတယ်, တရားဟောတာလဲ ကုသိုလ်ရရုံပဲ ရှိတယ်, မိမိကိုယ်ကို မိမိ ကိစ္စပြီးအောင် အလျှင်လုပ်ပါအုန်း" ဟု ဆုံးမသြဝါဒ ပေးတော်မူလေသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည်လည်း ထိုအချိန်မှစ၍ သတိ သံဝေဂရပြီး မိမိ သီတင်းသုံးရာ မင်္ဂလာ အလယ်တိုက်ကျောင်းတွင် ခေတ္တမျှသာ ကျိန်းစက်ပြီး သန်းခေါင်ကျော်မှစ၍ သဒ္ဓါနှင့် ဝီရိယကို အဖော်သဟဲ့လုပ်ပြီး ဝိပဿနာ ကမ္မဋ္ဌာန်းကို ပွားများအား ထုတ်တော်မူလေသည်၊ ထိုသို့ အားထုတ်ရင်းမကြာမီ ဥဒယဗ္ဗယဉာဏ် အဆင့်သို့ ရောက်ရှိတော်မူလေသည်၊ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် မန္တလေးမြို့ မုံရွာမြို့များသို့ ကြွတော်မူပြီး တရားများကို ကျင့်ကြံ ကြိုးစား ပွားများ အားထုတ်တော်မူ လေသည်၊ သို့သော် အားရ တင်းတိမ်တော် မမူပေ။

ထို့နောက် ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် အမရပူရမြို့ မင်္ဂလာတိုက်သို့ ပြန်ကြွလာပြီး မြတ်စွာဘုရား (၄၅) ဝါ အတွင်း ဟောကြားသည့် ဓမ္မပဒပါဠိတော်, အင်္ဂုတ္တိုရ်ပါဠိတော်, သံယုတ်ပါဠိတော် စသည်များကို ပြန်လည် လေ့လာ ကြည့်ရှုရာတွင် "ဉာတပရိညာ– ရုပ်နာမ်ကို ပိုင်းခြား၍ သိမှု၊ တီရဏပရိညာ– အနိစ္စ ဒုက္ခ အနတ္တ လက္ခဏာဖြင့် ပိုင်းခြား၍ သိမှု၊ ပဟာနပရိညာ– သစ္စာလေးပါးကို ပိုင်းခြား၍ သိမှုတည်းဟူသော ပရိညာ (၃) ပါးစသည့် ဉာဏ်(၃) ဆင့်သာလျှင် သာဝက အရာ" ဟု တွေ့ရှိ၍ ကိုယ်တိုင် ယင်းအချက်များကို အားရနှစ်သက်စွာ ကျင့်ကြံ အားထုတ်ပြီးမှ တိကျမှန်ကန်သော တရားဓမ္မများကို သတ္တဝါ ဝေနေယျအပေါင်းအား တရားဟောပြော ဆုံးမခြင်းအမှုကို ပြုတော်မူသည်။

မှတ်ချက်။ ။(၂) ထို့ကြောင့် ဆရာတော်ဘုရားကြီးသည် ပြည်ထောင်စု မြန်မာနိုင်ငံတလွှားတွင် ထင်ပေါ်ကျော်စောလေပြီး ရဟန်းရှင်လူများ၏ ကြည်ညိုလေးစားခြင်းကို ခံယူရပါသည်။

## အမရပူရမြို့တွင် သီတင်းသုံးတော်မမူ၍ အချိန်ကို ကန့်သတ် ပိုင်းခြားခြင်း

ခန္ဓာဝါးပါး ရုပ် နာမ် နှစ်ပါးတို့၏ ခဏမစဲ အမြဲမပြတ် ဖြစ်ပျက်နေသော ခဏိကမရဏကို အမြဲမပြတ် နှလုံးသွင်းလျက်နေသောကြောင့် ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီးသည် နေ့စဉ်ဆောင်ရွက်အပ်သော မိမိ၏ကိစ္စအဝဝကို သူ့အချိန်နှင့်သူ ကဏ္ဍပိုင်းခြား၍ မလစ်ဟင်း မပျက်ကွက်ရအောင် အချိန်ကို လေးစားတော်မူလေသည်၊ အချိန်ပျက်ကွက်မည်စိုးသောကြောင့် ပင့်ဖိတ်သော အလှူအတန်းများကိုပင် ကိုယ်တိုင် မလိုက်ဘဲ တပည့်များကိုသာ ကိုယ်စား စေလွှတ်တော်မူလေသည်။

၁။ နံနက်(၄)နာရီမှစ၍ (၅)နာရီအချိန်တွင် ဘုရားဝတ်ပြုခြင်း၊ ဝိပဿနာ ဘာဝနာ ကမ္မဋ္ဌာန်းကို ရှုမှတ်ပွားများခြင်းကို ပြုတော်မူလေသည်။

၂။ နံနက် (၅) နာရီမှ (၆) နာရီအချိန်တွင် လက်ဘက်ရည် ယာဂု စသည်တို့ကို ဘုဉ်းပေး သုံးဆောင်တော်မူပြီးနောက် လာရောက် လှူဒါန်းကြသော တကာ-တကာမများကို သင့်တင့်လျောက်ပတ်သော တရားစွေများ ဟောပြော ဆုံးမတော် မူလေသည်။

၃။ နံနက် (၆)နာရီမှ (၇)နာရီ အချိန်တွင် တောင်သာမံအင်းစောင်း မယ်ဇယ်ပင်တန်းတလျှောက်နှင့် ဦးပိန်တံတား ပေါ်တွင် စင်္ကြံ လျှောက်တော်မူလေသည်။

၄။ နံနက်(၇)နာရီမှ(၈)နာရီအချိန်တွင် တပည့် တကာ တကာမ အပေါင်းအား လက်ခံတွေ့ဆုံ၍ ဆုံးမဩဝါဒ စကားများကို ပြောကြားတော်မူလေသည်။

၅။ နံနက်(၉)နာရီမှ(၁၁)နာရီအချိန်တွင် ဆွမ်းခံဘုယ်သောဇဉ်များကို ဘုဉ်းပေးတော်မူပြီးနောက် ဆွမ်းပို့ လာရောက်ကြသော တကာ-တကာမများအား နေ့အထူးတရားများကို ဟောကြားတော်မူလေသည်။

၆။ နံနက် (၁၁)နာရီမှ (၁၂)နာရီအချိန်တွင် လက်ဘက်ရည် ချိုချဉ် ယမကာတို့ကို ဘုဉ်းပေးတော်မူပြီးနောက် ရေချိုးတော်မူလေသည်။

၇။ နေ့(၁၂)နာရီမှ မွန်းလွဲ (၁) နာရီအချိန်တွင် အပန်းဖြေ နားနေရင်း မိမိအားထုတ်ဆဲ ဖြစ်သော ဝိပဿနာ ကမ္မဋ္ဌာန်းကို အပ္ပမာဒ မမေ့မလျော့သော သတိဖြင့် ရှုမှတ်ပွားများတော် မူလေသည်။

၈။ မွန်းလွဲ(၁)နာရီမှ ညနေ (၄) နာရီအချိန်တွင် စာလိုက်ကြသော စာသင်သားတို့အား အဘိဓမ္မာ ညဉ့်ဝါဆိုင်ရာ ကျမ်းဂန်များကို ပို့ချတော်မူလေသည်။

၉။ ညနေ (၄)နာရီမှ (၅) နာရီအချိန်တွင် အနားယူ အပန်းဖြေရင်း မိမိအားထုတ်ဆဲဖြစ်သော အလုပ်ကို ရှုမှတ်ပွားများတော်မူလေသည်။

၁၀။ ညနေ(၅)နာရီမှ (၆) နာရီ အချိန်တွင် အနားယူပြီး၍ တောင်မင်းကြီးဘုရား သတ္တဋ္ဌာန ရဲလောင်း ဇရပ်ကြီးနှင့် အောင်မြေ ရွှေဘုံ ဘုရားတောင်ဘက် ဇရပ်ကြီးတို့တွင် အလှည့်ကျ တစ်လှည့်စီ တစ်နာရီတိတိ တရားများ ချီးမြှင့်တော် မူလေသည်။

၁၁။ ည(၆)နာရီမှ (၇)နာရီ အချိန်တွင် မဂ်လာတိုက်အတွင်း စင်္ကြံ လျှောက်တော်မူလေသည်။

၁၂။ ည (၇) နာရီမှ (၉) နာရီ အချိန်တွင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် စာထောက် တပည့် သံဃာကြီးများနှင့် သာ နောက်တစ်နေ့ ပို့ချမည့် အဘိဓမ္မာ ညဉ့်ဝါဆိုင်ရာ ကျမ်းဂန်များကို ကြိုတင် လေ့လာတော်မူလေသည်။

၁၃။ ည (၉) နာရီမှ (၁၀) နာရီအချိန်တွင် တပည့်များ၏ ဝတ်ဖြည့်ခြင်းကို ခံတော်မူလေသည်။

**မှတ်ချက်။** ။ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် မိမိထက် အသက်ကြီးသောသူဖြစ်က လူပုဂ္ဂိုလ်ပင် ဖြစ်လင့်ကစား ဝတ်ဖြည့်ခြင်းကို ခွင့်မပြုချေ။ ဝတ်ဖြည့်ပေးသော သူများအား စရိုက်အလိုက် ဗဟုသုတပညာအရပ်ရပ်များကို ဝတ်ဖြည့်ခံရင်း ဟောပြော ဆုံးမတော်မူလေ့ရှိပါသည်။

## ကျမ်းပြုတော်မူခြင်း

အဘိဓမ္မာဆိုင်ရာ အခက်ကြုံတွေ့ကြရှာသော စာသင်သားတို့အား ရည်စူး၍ ပဌမကျော်ဆရာကြီး ဦးအုန်း ကွယ်လွန်အနိစ္စမရောက်မီက ဆရာကြီးကိုယ်တိုင် ပြုစုနေဆဲ မပြီးမြောက်သေးသော အဘိဓမ္မာ တံခွန်ကျမ်းကြီးကို ကျေးဇူးရှင် ဆရာတော်ဘုရားကြီးက အပြီးသတ် အချောကိုင် ရေးသား ပြုစုတော်မူခဲ့လေသည်၊ ယမကမဟ္ဂရီကျမ်းနှင့် ပုထုဇ္ဇန အလင်းပြကျမ်းများကိုပါ ပြုစုရေးသားတော်မူခဲ့လေသည်။

ပဋိပတ္တိကျင့်စဉ်အတွက်လည်း ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးကိုယ်တိုင် ဟောကြားထားသည့် တိတ်ရကော်တာမှ မိတ္ထီလာမြို့နေ ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်သော ဦးမြင့်ဆွေ ကူးယူရေးသားသော မိုးကုတ် ဝိပဿနာ ဒုလ္လဘဒေသနာကျမ်း (၆) တွဲကိုလည်း ကျေးဇူးရှင် ဆရာတော်ဘုရားကြီးကိုယ်တိုင် ကြည့်ရှုစစ်ဆေး ပြင်ဆင် ပြုစုတော်မူခဲ့လေသည်။

**မှတ်ချက်။** ။မိုးကုတ် ဆရာတော်ဘုရားကြီးကိုယ်တိုင် စီရင်ရေးသားခဲ့တော်မူသော ပုထုဇ္ဇန အလင်းပြကျမ်းမှ တပည့် ဝေနေယျတို့အား ဆုံးမထားသော ဩဝါဒ ဆုံးမစာ လင်္ကာ (၂)ပိုဒ်ကို စာရှုသူတို့ ဖတ်ရှုနိုင်ပါရန် သီးခြား ထုတ်နုတ် ဖော်ပြလိုက်ပါသည်။

* * *

# ဆုံးမစာ လင်္ကာ (၁)

ဆိုပီမိ့်မှန်ရာ, ကျမ်းဂန်လာဖြင့်, ဉာဏ်မှာ စိုက်စူး, ဆင်ခြင်ဦးလော့၊ ရှည်ကြာ့အိုစဉ်, သံသာခွင်၌, အမြင် ဘောက်ယွင်း, မိုးမလင်း၍, မြိုက်ခင်းညာစီ, ခါတော်မီအောင်, ဝေ့သီနိုင်ဘဲ, ဩဃဝဲ၌, ထပ်တလဲ သုံးသုံ, နေ့ရက်ကုန်၍, ဆန်စုံမျှောလပ်, တောမသတ်သည့်, ရဟတ်မဲ့ချာ, ကြောက်ဖွယ်ရာတည်း၊ ငါးဖြာစုံညီ, ဒုလ္လဘီဟု, ကြုံမှီခေတ်တွင်း, စက်ဆုံကျင်းသား, မှန်ကင်းစိုက်ထူ, လူထက်လူဟု, ဇမ္ဗူသောင်းခေတ်, ကောင်းစွာဖြစ်လည်း, အနှစ်မဲ့သော, အကာတောဝယ်, ဗျာမောဝင့်ကျယ်, တနွယ်နွယ်လျှင်, အကယ်သို့ပင်, ဟုတ်နိုးထင်လျက်, အမြင်မဖြောင့်, အညင်ထောင့်၍, မှောင့်ထက်သာမှောင်, မိုးတိမ်တောင်နှင့်, သန်းခေါင် လမိုက်, မီးသေွးတိုက်ဝယ်, အလိုက်ဘာသာ, ဝါသနာဖြင့်, ဟုယ်ရာစေ့စေ့, မြင်မမှော်ဘဲ, ထင်သရွေ့နှင့်သာ, အလေ့ရှာ၏၊ အခါနာရီ, ရွှေ့ရွှေ့ ရှိသား, တိယီဆန်းဆုတ်, အတွင်းချုပ်လျက်, သုတ်သုတ်ရက်ရေ, နားမနေဘဲ, မသွေနှိပ်စက်, ဇရာလက်တွင်, အသက်ကုန်ဆုံး, ပျက်ပြိုပြုန်း၏၊ သုံးလောကဓာတ်, ကြွင်းမလပ်ဘဲ, သူသတ်အချုံ, လက်မရှုံကို, သတ်ခွန်ပဏ္ဏာ, သွင်းဖို့ရာတွင်, ခန္ဓာရုံကြီး, မြုပြတည်းက၊ အငြိးဖြေကာ, စားအစာနှင့်, မကွာနေ့ည, စောင့်ရှာကြ၏။ မိုက်စလူလူ, သို့ပါမူလည်း, ပူနွယ် ဆွေးနွယ်, ရေးခွင့်ကျယ်ကို, အေးဖွယ် ထင်မှတ်, အစဉ်တော်၍, မလတ်ဆာသာ, ထပ်ခါခါလျှင်, တကျာစွဲထုံ, ယစ်မူးဟုန်ဖြင့်, အာရုံမွေ့, ပြာပုံမှန်ိုက်, ရသရှာယူ, ပမာမူသော်, ရွှာသူတို့ဝက်, ဘူတိုင်းခက်သား, ကြောက်မက်ဖွယ်ပင်, ကြောင်ကြောင် မြင်လည်း, ရှင်နိုင်လေအား, ဝက်အလားသို့, ထောင်လွှားခက်ထန်, ရမ္မက်လျှံ၍,

ခြေရုံသင်းပင်း, ကိုယ်နွယ်တွင်းမှာ, ကိုယ်မင်းဟုပင်, နင့်စိတ်ထင်၏၊ လေးအင်သစ္စာ, နက်နဲစွာကို, ဉာဏ်မှာ ဖောက်ထွင်း, ပေါ်မလင်းအောင်, ဖော်သင်းရုံရွေ, မိတ်သင်တွေနှင့်, မကျွေစပ်ရှက်, မာလောခက်သို့, ခင်မက်ဖွယ်ပုံ, အရုံစုံကို, အကုန်ပိုက်ခြား, ဟုတ်ယောင်ကားနှင့်, တရားမဆန့်, တက်ကြွားဂုဏ်မာန့်, ပုံဟန်ပန်ဖြင့်, ပေါ်ရန်ဗန်းပြ, ဖုံးရှာကြ၏၊ အတ္တစွဲရှု, နင့်ခန္ဓာလည်း, မကြာပျက်ကြေ, ထုံးပြာမြေနှင့်, မိတ်ဆွေစင်စစ်, ဧကန်ဖြစ်၏၊ အားသစ်ကုတ်သော်, ကြိုးပေါ်သော်လည်း, မပေါ်စွန်းမြုတ်, ကျိုးမနုပ်ဘဲ, ကပ်ပေါင်းသခင်, ရှုံးခဲ့လေပြီ၊ မရေမရာ, တငါငါနှင့်, ရှည်ကြာစွဲသုံး, ငါတစ်လုံးကား၊ အနှုန်းမဖွယ်, လွန်သေးငယ်လျက်, သုံးသွယ်မြုံသိုက်, ဘုံတလှိုက်ဝယ်, ကုန်ရိုက် ဆူညံ, မြူမချုန်ဘဲ, ပူလျှံတောက်ညီး, အသေမီးက, အမြိုးကုန်စင်, ဘုံတခွင်ကုံ၊ တွင်တွင်လောင်မြိုက်, အပြောင်တိုက်လျက်, အမှိုက်ဝင့်နွယ်, သဲသဲကြွယ်လည်း, တကယ်မလောက်, သူသာမောက်၍, နောက်နောက်ကမ္ဘာ, ဖန်ဖန်လာလည်း, အစာတစ်ခု, သူ့ထံစု၍ ဗိုလ်တုပုံယင်၊ အကုန်ငင်သား, သခ်ိတမှန်, ရုပ်နှင့်နာမ်ကို, ဝန်းရံပိတ်ဆီး, မှောင်ထုကြီးကြောင့်, မီးဆယ့်တစ်ပြာ, ဘယ်သော အခါဝယ်, လောင်စာသိမ်း၍ ငြိမ်းမည်နည်း။

*           *           *

# ဆုံးမစာ လင်္ကာ (၂)

ကြားပိမ့်ဗိုလ်လူ၊ နားစိမ့်မူလော၊ ဆူဆူပရမေ၊ မြတ်စိန္တေတို့၊ ပဝေ ရှည်ကြာ၊ ရွှေးဟိုခါက၊ ဂင်္ဂါသဲမျှ၊ ပွင့်ကုန်ကြ၍၊ မျှားလှဝေနေ၊ယှူ-အထွေကို၊အောင်မြေဘုံစံ၊နန်းနိဗ္ဗာန်သို့၊ အမြန်ရောက်အောင်၊ မဂ္ဂင်ဖောင်ဖြင့်၊ ပို့ဆောင်ချဉ်းမည်၊ တရား စည်ကို၊ ဆော်လည်ချိမ့်ချိမ့်၊ တသိမ့်သိမ့်နှင့်၊ ငြိမ့်ငြိမ့် လိုက်ဆူ၊ ခေါ် တော်မူ၍၊ ရှင်လူ ခပဲ၊ သောက်သောက်လဲမျှ၊ ကျွတ်ပွဲတော်ကြီး၊ ခံကြပြီးပြီ၊ ရှူးတိရှူ၊တာ၊ နင်တို့မှာမူ၊ ဝါသနာခြောင့်၊ အာသာမွှောင့်၍၊ မဖြောင့်အယူ၊ စိတ်မဖြူဘဲ၊ အမူဖြစ်ကျူ၊ နင့်မှာစု၍၊ ငါးခုအာရုံ၊ မစင်ပုံကို၊ ခုံမင်မက်မူး၊ လောက်နှယ်ရှူးလျက်၊ ဟစ်ကြူး ကြွေးကြော်၊ မြတ်ရှင်တော်တို့၊ ခေါ်ပါ တုံပြား၊ မလိုက်အားဘဲ၊ ရှည်လျားသံသာ၊ ခုတိုင်ကြာပြီ၊ တိုက်တာမိုးမြေ၊ စိန်ရွှေငွေနှင့်၊ ခြွေရွှေသင်းစု၊ ဘယ်တစ်ခုမျှ၊ ပျက်မှုနှင့်ဆိုင်၊ နင်မပိုင်ဘူး၊ အခိုင်အမာ၊ တစ်ငါငါနှင့်၊ ရှည်ကြာစွဲဆို၊ နင်၏ကိုယ်သည်း၊ နင်လိုရာရာ၊ မလိုက်ပါဘဲ၊ ဘာသာရောက်ရှူး၊ သဘောအားဖြင့်၊ လေးပါးကြောင်းအင်, ပြုစီရင်သော်၊ ဖြစ်ချင်တတ်တိုင်း၊ ပျက်ချင်တိုင်းပင်၊ မဆိုင်းပုံသေ၊ ဖြစ်ပျက်ချေ၏။ သုံးထွေ သဘာသနာ၊ ထွန်းခိုက်ခါဝယ်၊ သမ္မာမြင့်မောက်၊ ကုံကောင်းထောက်၍၊ တစ်ယောက်ထူးလည်၊ ဖြစ်ပေသည်ဟု၊ အတည်နှလုံး၊ စွဲယူသုံးမှု၊ မြင့်ဆုံးမြင့်လှ၊ ဤဘဝဝယ်၊ ဒုက္ခနယ်တွင်း၊ ကျွန်စာရင်းမှ၊ လွတ်ထင်းဖို့ငှါ၊ လေ့သစ္စာကို၊ ယထာဘူတ၊ သိထိုက်လှပြီ၊ ခေတ်မှာလွဲသွေ၊ ဖြစ်ရချေသော်၊ လေးထွေပါယ်ထဲ၊ နှောင်ကြိုးတဲ၍၊ မြုပ်မြဲမြုပ်အောင်၊ နင့်ကိုဆောင်လိမ့်၊ အမှောင်ကိုလေ၊ မိုက်ကာင်းတွေကို၊ စစ်မြေအလား၊ ခန္ဓာငါး၌၊ သုံးပါးလက္ခဏာ၊ မှတ်တိုင်ထူ၍၊ ငါးဆူဗိုလ်မင်း၊ ဘော်တစ်သင်းနှင့်၊ စစ်ခင်းပြီးသော်၊ အောင်စည်ဆော်လျက်၊ မြို့တော်ဝင်ရန်၊ တိပဋ္ဌာန်

ဟု၊ လေးတန်တံခါး၊ ဖွင့်သောအားဖြင့်၊ ရှစ်ပါးမဂ္ဂင်၊ စလှယ်ဆင်၍၊ ပလ္လင်သဖွယ်၊ ဖိုလ်လေးသွယ်၌၊ စံပယ်နိုင်မှ၊ ချမ်းသာရ၍၊ ဒုက္ခနှင့်မှာ၊ ငြိမ်လိမ့်သာတည်း၊ တကျာဘုရင်၊ နှင့်သခင်၏၊ လိုအင်လိုက်လျော၊ မိုက်သဘောနှင့်၊ မိုက်ဇောရေတွေ၊ မွန်း၍နေသော်၊ လှိုင်းလေပြင်းပြ၊ ပင်လယ်ဝ၌၊ မျောရမည့်မှာ၊ မလွဲရာသည်၊ သစ္စာမြင်မှ, ထင်မြင်တည်း။

## မင်းကွန်း မိုးကုတ်ချောင်၌ စာပေပို့ချခြင်း

မိုးကုတ်မြို့ ဇရပ်တကာကြီး ဦးဝ၏ သမီးဖြစ်သော သီလရှင်ဆရာကြီး ဒေါ်ဝိလာသီသည် အမရပူရမြို့ မဂ်လာတိုက်တွင် ပဌမကျော် ဆရာကြီး ဦးအုန်းထံမှ အဘိဓမ္မာ ညဥ့်ဝါဆိုင်ရာ ကျမ်းဂန်များကို သင်ကြားဆည်းပူးပြီးနောက် မင်းကွန်းမိုးကုတ်ချောင်သို့ ပြန်ကြွသွားပြီး စာသင်သား သံဃာတော်များနှင့်တကွ တပည့် သီလရှင်များအား စာပေပို့ချနေတော် မူလေသည်။

သက္ကရာဇ် ၁၂၈၆-ခုနှစ်တွင် မင်းကွန်း မိုးကုတ်ချောင်မှ သီလရှင်ဆရာကြီး ဒေါ်ဝိလာသီ၏ ပင့်လျှောက်ချက် အရ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ရဟန်း သိက္ခာတော် (၅) ဝါအရတွင် မင်းကွန်း မိုးကုတ်ချောင်သို့ ကြွသွားတော်မူလေသည်။

သီလရှင်ဆရာကြီး ဒေါ်ဝိလာသီက ကျေးဇူးရှင် ဆရာတော်ဘုရားကြီးအား လျှောက်ထားသည်မှာ–"တပည့်တော်သည် အဘိဓမ္မာညဥ့်ဝါဆိုင်ရာ ကျမ်းဂန်များကို သင်ရိုးပေါက်အောင် သင်ဖူးသော်လည်း စာသွား စာလာနှင့်တကွ အဓိပ္ပါယ် သဘောကို ပိုင်ပိုင်နိုင်နိုင် မသိသေးပါဘုရား၊ ဤကဲ့သို့ စာသွားစာလာ သဘောသကန်ကို မသိသေးသည့်အတွက် စာပေနှင့်ပတ်သက်၍ နေ့စဉ် နေ့တိုင်း စိတ်ဆင်းရဲမှုနှင့် တွေ့ကြုံ နေရပါသောကြောင့် သနား ငဲ့ညှာတော်မူပြီး တပည့်တော်နှင့်တကွ စာသင်သားတို့အား စာပေပို့ချမည့်အကြောင်း" ပန်ကြားလျှောက်ထားသောကြောင့် သဒ္ဒါ သဂြိုဟ်ဋီကာကျော် အဘိဓမ္မာညဥ့်ဝါစသောကျမ်းဂန်များကို ပို့ချပေးမည့်အကြောင်းကတိပေးတော်မူလေသည်။

ထိုအချိန်မှ စ၍ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ဝါကျွတ်ပြီး ဆောင်းရာသီ (၄) လတွင် မင်းကွန်း မိုးကုတ်ချောင်သို့ ကြွ၍ စာသင်သားတို့အား စာပေပို့ချရင်း သီတင်းသုံးတော်မူလေသည်။

## ကျေးဇူးရှင် ဆရာတော်ဘုရားကြီးကို မိုးကုတ်မြို့မှ ကျောင်းတကာကြီး ဦးလယ် ဇနီး ဒေါ်သိုင်းခြုံတို့ ကိုးကွယ်ကြခြင်း

သီလရှင် ဆရာကြီး ဒေါ်ဝိလာသီ၏ ဖခင် ဇရပ်တကာကြီး ဦးပကာ တွင် ဦးဆောင်ပြီး မိုးကုတ်မြို့မှ ဒေါ်ဝိလာသီရှိရာ မင်းကွန်း မိုးကုတ်ချောင်သို့ ဘုရားဖူး ရောက်ရှိလာကြရာ ထိုဘုရားဖူး အဖွဲ့တွင် မိုးကုတ်မြို့မှ ကျောင်းတကာကြီး ဦးလယ်၏ဇနီး ဒေါ်သိုင်းခြုံလည်း လိုက်ပါလာလေသည်။ ဒေါ်ဝိလာသီသည် ကိုယ်တိုင် ဘုရားဖူးအဖွဲ့အား ခေါ်ဆောင်ကာ မင်းကွန်းဘုရားများ မန္တလေးဘုရားများသို့ လိုက်ပို့လေသည်။

ထိုမှတစ်ဖန် ရွှေကြက်ယက် ရွှေကြက်ကျဘုရားများကို ဖူးရန် အများသဘောတူ တောင်မြို့သို့ ခရီးဆက်ကြပြန်ရာ တိုက်ရိုက် ရွှေကြက်ယက် ရွှေကြက်ကျ ဘုရားများသို့ မသွားကြဘဲ ဒေါ်ဝိလာသီ ဦးဆောင်ကာ မိမိဆရာဖြစ်သော အမရပူရမြို့ မင်္ဂလာတိုက် ကျေးဇူးရှင် ဆရာတော်ဘုရားကြီးထံသို့ဝင်၍ ရွှေကြက်ယက် ရွှေကြက်ကျသို့ ဘုရားဖူးသွားလို၍ ခရီးလမ်းညွှန်အဖြစ် သာမဏေလေး တစ်ပါး ထည့်ပေးဖို့ရန် လျှောက်ထားကြလေသည်။ ထိုအခါမှစ၍ ဆရာတော်ဘုရားနှင့် မိုးကုတ်မှ တကာ တကာမတို့ ဆရာတကာများ ဖြစ်ကြလေတော့သည်။

ထိုမှတစ်ဖန် အချိန်ရသေးသဖြင့် စစ်ကိုင်းဘုရားများသို့သွား၍လည်း ဖူးကြပြန်လေသည်။ ထိုအချိန်က ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် သိက္ခာတော် (၅) ဝါလောက်သာ ရှိတော်မူလေသည်။ စာသင်သား (၅၀၀) ကျော်တို့အား အဘိဓမ္မာဘက်ဆိုင်ရာ ညဉ့်ဝါများကို ပို့ချလျက် ရှိလေသည်။

ထိုသို့သော ဆရာတပည့် ကြည်ညိုမှုဖြစ်ကြသည့်အားလျော်စွာ ဒေါ်သိုင်းခြုံသည် မိုးကုတ်မြို့သို့ ပြန်လည် ရောက်ရှိသောအခါ မိမိခင်ပွန်းဖြစ်သူ ဦးလယ်အား ဘုရားဖူးသွားရာတွင် မင်္ဂလာတိုက်၌ သက်တော် ဝါတော်ငယ်ငယ် စာပေကျမ်းဂန်ထကြွယ်ဝ အကျင့်သီလ သိက္ခာနှင့် ပြည့်စုံသော ကိုယ်တော်လေးတစ်ပါးကို ဖူးတွေ့ကြည်ညို ခဲ့ရပုံ စသော အကြောင်းမျိုးစုံကို တစ်ဆင့် ပြောကြားရာ ဦးလယ် ကပါ ကြည်ညိုခြင်းဖြစ်ကာ နောက်ပိုင်း သက္ကရာဇ် ၁၂၈၆ ခုနှစ်မှ စ၍ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးနှင့် ဦးလယ် ဇနီး ဒေါ်သိုင်း ခြုံတို့မှာ အလွန်ရင်းနှီးသော ဆရာတကာများအဖြစ် ရောက်ရှိလာခဲ့ လေသည်။

## ညောင်လေးပင်မြို့သို့ ကြွရောက် တရားချီးမြှင့်ခြင်း

သက္ကရာဇ် ၁၂၉၂ ခုနှစ်တွင် ညောင်လေးပင်မြို့ ရွာမရပ်ရှိ ပြည်လုံးချမ်းသာ စေတီတော်၌ နှစ်စဉ်ကျင်းပမြဲဖြစ်သော အဘိဓမ္မာ တရားပွဲကြီးများကို ကျင်းပနိုင်ရန် "သယ်တီ ဦးပဒုမဆရာတော်ကြီး" ထံ သွားရောက်ပင့်လျှောက်ရာ ဆရာတော်ကြီး ဦးပဒုမက "ငါ့မှာ သွက်ချာပါဒ လေငန်းရောဂါကြောင့် မထနိုင်၍ အဆိုပါတရားပွဲကို ဦးဆောင်မှု မပြုလုပ်နိုင်တော့ပြီ၊ မင်းတို့ ညောင်လေးပင် အဘိဓမ္မာ တရားပွဲနှင့် သင့်တော်မည့် ကိုယ်တော်တစ်ပါးကို ငါတွေ့ထားပြီ၊ ထိုကိုယ်တော်လေးမှာ အသက်တော် (၃၀)၊ သိက္ခာတော် (၁၀)ဝါ မျှသာ ရှိသေးသော်လည်း ပရိယတ္တိ ပဋိပတ္တိ စွယ်စုံတော်ကြောင်း" အမိန့်ရှိလေသည်။

"ဒီကိုယ်တော်လေးကတော့ အမရပူရမြို့ မင်္ဂလာတိုက်မှာဥ္စ္စဝါ ပို့ချ ဆရာတော် ဦးဝိမလပဲ"ဟု အမိန့်ရှိသောအခါ ညောင်မလေးပင် ယောဂီအဖွဲ့ထဲမှ ဘုန်းကြီးပင့်မည့်သူ သူကြီးဟောင်း ဦးအေးမောင်က ဆရာတော် ဦးဝိမလဆိုတာ မသိကြောင်း ပြန်လည် လျှောက်ထားရာ ဆရာတော် ဦးပဒုမက "ငါစာရေးပေးလိုက်မည်" ဟု အမိန့်ရှိကာ စာတစ်စောင် ရေးသားပေးတော်မူလေ၏။ ၎င်းစာကိုယူပြီး အမရ ပူရမြို့ မင်္ဂလာတိုက်သို့ ရောက်ရှိလာဆော ကျေးဇူးရှင် ဆရာတော်ဘုရား

ကြီးအား ဆက်ကပ် ပင့်လျှောက်ရာတွင် "ဆရာတော်ဘုရားက ဒီနှစ်တော့ မကြွနိုင်သေးကြောင်း" မိန့်တော်မူသဖြင့် ပင့်၍ မရခဲ့ကြပါ။ သက္ကရာဇ် ၁၂၉၂ ခုနှစ်တွင်လည်း ဆရာတော် ဦးပဒုမအား ထပ်မံလျှောက်ထားကြရာ ဆရာတော် ဦးပဒုမအား ဒုတိယ စာတစ်စောင် ချီးမြှင့်ပြန်သဖြင့် ၎င်းစာကိုယူကာ အမရပူရမြို့ မင်္ဂလာတိုက် ဆရာတော် ဦးဝိမလအား ဆက်ကပ် ပင့်ဖိတ်ကြသည်တွင်မှ ဆရာတော်ဘုရားက လက်ခံ၍ ကြွလာမည့်အကြောင်း ပြန်ကြားလိုက်လေသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ၁၂၉၂ ခုနှစ် တပေါင်းလဆန်း (၆) ရက်နေ့တွင် ပထမဆုံး ညောင်လေးပင်မြို့သို့ ကြွရောက်၍ ၎င်းလဆန်း (၇) ရက်နေ့မှစပြီး အဘိဓမ္မာတရားများကို ဟောကြားတော်မူလေသည်။ ထိုစဉ်က ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ပြောဖူးသည်မှာ....

"တကာ တကာမတို့ ဘုန်းကြီးဟာ စာပေကိုသာ ပို့ချနေတာက များပါတယ်၊ သာမန် တရားပွဲများကိုသာ ဟောပြောလေ့ ရှိပါတယ်၊ ယခုလို မဏ္ဍပ်ကြီးထိုးပြီး ဟောကြားရတဲ့ တရားပွဲကြီးမျိုးကိုတော့ မဟောရသေးဘူး၊ ယခု လာရကတည်းက လယ်တီ ဆရာတော်ဘုရားကြီးရဲ့ တရားပွဲမဏ္ဍပ်လည်း ဖြစ်ပြန်, ဆရာတော် ဦးပဒုမလည်း နှစ်ကြိမ်တိုင်တိုင် စာဖြင့်ပင့်ပြန်တော့ ဆရာတော်မှာ မနေသာ၍ယခုလိုကြွရောက်ခဲ့ရပြီး ဟောရ ပြောရကြောင်း" တို့ကို အမိန့်ရှိတော်မူဖူးလေသည်။

၁၂၉၂ နှစ်မှစပြီး နှစ်စဉ် တပေါင်းလဆန်း (၇) ရက်နေ့တိုင်း ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် ညောင်လေးပင်မြို့သို့ ကြွရောက်ကာ ရွှေမရပ်ရှိ ပြည်လုံးချမ်းသာ စေတီတော်၌ နှစ်စဉ် ကျင်းပမြဲဖြစ်သော အဘိဓမ္မာတရားပွဲများတွင် ဟောပြောတော်မူလေသည်။ ဤနည်းအတိုင်း ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် (၉) ကြိမ်တိုင်တိုင် ညောင်လေးပင်သို့ နှစ်စဉ် မပျက်မကွက် ကြွရောက်ပြီး တရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူခဲ့လေသည်။

ထို့နောက် ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပြီး ခေတ်ကာလပျက်သဖြင့် နှစ်စဉ် ကျင်းပမြဲဖြစ်သော အဘိဓမ္မာ တရားပွဲများ မကျင်းပနိုင်ခဲ့ပါ။

ခေတ်ကာလ မပျက်မီ သီဟိုဠ် မဟာစေတီသို့ စိန်ဖူးတင်ရန်အတွက် ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး ညောင်လေးပင်သို့ကြွရောက်လာရာတွင် အဆိုပါမြို့များမှ တကာ တကာမများကလည်း ရောင်းဝယ်ဖောက်ကား၍ ဈေးအောင်းမွန်ချိန်ဖြစ်သဖြင့် ရွှေငွေနှင့် အဖိုးတန်ကျောက်မျက်ရတနာများကိုပါ လှူဒါန်းလိုက်ကြလေသည်၊ ထိုအချိန်က ကျေးဇူးရှင် ဆရာတော်ဘုရားကြီးက "ဒီမြို့ဟာ ငါ့မိဘတွေမြို့ပဲ, ငါ့ကျေးဇူးရှင်တွေပဲ"ဟု အမိန့်တော် ရှိတော်မူလေသည်။

၁၃၁၆-ခုနှစ်တွင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ညောင်လေးပင်မြို့သို့ ကြွရောက်ပြီး သတ္တဝါ ဝေနေယျအပေါင်းအား တရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော် မူလေသည်၊ ဤအကြိမ်တွင် ဆရာတော်ဘုရားက "ခင်ဗျားတို့ ညောင်လေးပင်က ဘုန်းကြီးကို ပင့်သည်ဖြစ်စေ, မပင့်သည်ဖြစ်စေ ဘုန်းကြီးကတော့ လာပြီး တရားဟောရမှာပဲ၊ ဘာပြုလို့လဲဆိုတော့ ခင်ဗျားတို့ တတွေဟာ တရား အသိဉာဏ်တွေက တိုးတက် သဘောပေါက် နားလည်နေကြတာ သိရတယ်၊ ဒီလို အသိတရားတွေရှိပြီး အဒ္ဓါတွေ ထက်သန်နေတော့ ဘုန်းကြီးကလဲ တရားဟောပြော ဆုံးမရတာ အားရှိတယ်၊ အရင်တုန်းကတော့ ဒါလောက် အသိဉာဏ် မကျယ်ပြန့်သေးတော့ ဟောသူရော နာသူပါ ပင်ပန်းတာပေါ့"ဟု ဆရာတော်ဘုရားက အမိန့်ရှိတော်မူလေသည်။

၁၃၁၇ – ခုနှစ်တွင်လည်း ဆရာတော် ဘုရားကြီးသည် ညောင်လေးပင်သို့ ကြွရောက်ကာ ဟောပြောမြဲဌာန ပြည်လုံးချမ်းသာ စေတီရင်ပြင်တော်နှင့် မြို့မ မီးသတ်ကွင်းကြီးထဲတွင် (၁၆) ရက်တိုင်တိုင် များပြား စည်ကားလှစွာသော တရားနာပရိသတ်အပေါင်းအား အလွန်နက်နဲ ခက်ခဲလှသော ဝိပဿနာ တရားတော်များကို အနုလုံပဋိလုံ အပြန်ပြန်အလှန်လှန် သဘောပေါက် နားလည်အောင် ဟောပြောခဲ့ပါသည်၊ ဆရာတော်ဘုရားမှာ ၎င်းနှစ်မှ နောက်ပိုင်းအချိန်များတွင် ညောင်လေးပင်မြို့သို့ မကြွနိုင်တော့ပါ။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့ ဟာမစ်တိတ်လမ်း သာသနာ့ရိပ်သာ ဖလ်ယဉ်ဓမ္မာရုံ၌ ၁၃၂၄-ခုနှစ် ဝါဆိုလဆန်း

၇)ရက်, (၁-၇-၆၂) တနင်္ဂနွေနေ့တွင် နိုင်ငံတော် တော်လှန်ရေး
ကောင်စီ၏ သာသနာရေးဌာနမှ ကျင်းပမည့် ၁၉၆၂-ခုနှစ် အဂ္ဂမဟာ
ပဏ္ဍိတ ဘွဲ့တံဆိပ်တော်များဆက်ကပ်လှူဒါန်းပွဲ အခမ်းအနားသို့ အဂ္ဂ
မဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် ဆပ်ကပ်လှူဒါန်းခြင်းကို ခံယူရန် တပည့်
ကာ-တကာမ အပေါင်းက ငှါးရမ်းပေးသည့် သီးသန့် အထူးတန်း
လုံးဖြင့် တပည့် တကာ-တကာမများပါ စုံလင်စွာဖြင့် မန္တလေးမြို့မှ
ရောက်ရာတွင် ညောင်လေးပင် ဘူတာသို့ ရောက်သောအခါ
သောင်လေးပင်မှ တကာ-တကာမ အပေါင်းက သောင်းသောင်းဖျဖျ
ဆိုဖူးမျှော်ကြပြီး ဆရာတော်ဘုရား၏ အထူးတန်းတွဲပေါ်မှာပင်
မ်း, ကွမ်း, လက်ဘက် ခဲဘွယ် ဘောဇဉ်များဖြင့် သိုက်မြိုက် စုံလင်စွာ
ပ်လှူကြပြီး ဆရာတော်ဘုရား၏ အဆုံးအမအသွန်အသင်များကို
ာယူရင်း ဒိုက်ဦးမြို့အထိ လိုက်ပါပို့ဆောင်ကြလေသည်။

ဒိုက်ဦးမြို့သို့ရောက်၍ ညောင်လေးပင် တကာ-တကာမများ
ပြန်ရန် ဝတ်ပြုကြသောအခါ ဆရာတော်ဘုရားကြီးက "ငါ့ရှပ်,
နာမ် မပြိုကွဲသေးပါက မင်းတို့မြို့ကို လာဦးမယ်၊ ဒီညောင်လေးပင်
ကတော့ ငါ့မိဘတွေ ကျေးဇူးရှင်တွေပဲ၊ ပြီးတော့ မင်းတို့မြို့ ကလဲ
တရား အဆင့်အတန်း တော်တော် တိုးတက်ပါတယ်၊ မင်းတို့တကာ-
တကာမ အပေါင်းကလဲ တရား အမြန်ဆုံး ပေါက်ရောက်အောင်
ားထုတ်ကြပါလို့ ငါနောက်ဆုံး ဆုံးမရစ်ခဲ့မယ် ကဲ ကဲ ပြန်ကြပေ
တော့" ဟု အမိန့်ရှိတော်မူလေသည်။

## ညောင်လေးပင်မြို့၌ တရားပွဲကြီး စတင် ပေါ်ပေါက်လာပုံ

ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး ကိုယ်တိုင် (၁၁)
ကြိမ်တိုင်တိုင် သွားရောက် တရားချီးမြှင့်ခဲ့ရသော နှစ်စဉ် ကျင်းပမြဲ
ဖြစ်သော ညောင်လေးပင်မြို့ ရွာမရပ်ရှိ ပြည်လုံးချမ်းသာ စေတီတော်
ဘုရားပွဲအတွက် ကျင်းပသော အဘိဓမ္မာ တရားပွဲကြီး အကြောင်း
ကိုသာ အကျယ်တဝင့် ဖော်ပြခဲ့ပြီး ဖြစ်ပါသည်၊ ၎င်းတရားပွဲကြီး
ဟာ ဘာအတွက် ပေါ်ပေါက်ရသည်ကိုကား ချန်လှပ် ထားခဲ့ရန်
မသင့်လျော် ဟု ယူဆမိပါသဖြင့် ညောင်လေးပင်မှ ဆရာတော်ဘုရား
ကြီး၏ တပည့်များက ၎င်းတရားပွဲ ဖြစ်ပေါ်လာပုံကို အကျဉ်းချုပ်
ရေးသား ပေးပို့သည့်အတိုင်း ဖော်ပြပါအံ့။

၁၂၈၁-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့ထူးနှင့် ရန်ကုန်တက္ကသိုလ်၏ (ဒီလစ် D.LITT) ခေါ် ကျမ်းတတ်ပါရဂူ ဘွဲ့ထူးတို့ကို ပထမဆုံး ဆွတ်ခူး ပန်ဆင်နိုင်ခဲ့သော လယ်တီ ဆရာတော်ဘုရားကြီးသည် ညောင်လေးပင်မြို့သို့ ကြွရောက်လာပါသည်၊ ထိုအချိန်တွင် ပြည်လုံး ချမ်းသာ စေတီတော် ဘုရားပွဲ ပွဲဈေးစည်ဖြစ်၍ လယ်တီ ဆရာတော် ဘုရားကြီးက "တစ်နှစ်တစ်ခါ ငါရဲ့ရွာ လူ့ရွာဘုရားပွဲ" ဆိုတာနဲ့တူနေ တယ်၊ "ဘုရားပွဲမှာ ဇာတ်သဘင်ပွဲ မခံပါနှင့် တရားပွဲသက်သက် ကိုသာ လုပ်ကြပါ၊ ငါ့ကို ဇာတ်ပွဲတွေ လှူကြပါ"ဟု ဆို၍ အလှူခံရာ ဘုရားလူကြီးများက လှူလိုက်ကြပါသည်၊ သို့ပါ၍ ၁၂၈၂-ခုနှစ်မှစ၍ အဆိုပါပွဲတွင် လယ်တီဂိုဏ်းလုံးဆိုင်ရာ ဆရာတော်ကြီးများက တရား ဟောပြောကြပါသည်၊ သစ်ချတောင် ဦးတိလောက၊ ဦးပဏ္ဍိတ၊ ဦးစန္ဒိမာ၊ ဦးပဒုမ စသည်တို့ ကြွရောက် ဟောပြောကြပါသည်။

၁၂၉၁-ခုနှစ်တွင် စစ်ကိုင်း ဇမ္ဗူပတိချောင် လယ်တီစာချ ဓမ္မကထိက ဦးပဒုမ ကိုယ်တော်ကြီးက အကြောင်းခံ၍ ကျေးဇူးရှင် ဆရာတော် ဦးဝိမလကိုရရှိခြင်း ဖြစ်ပါသည်၊ ဦးပဒုမကိုယ်တော်ကြီး မှာ လယ်တီဂိုဏ်း၏ မဟာနာယကဖြစ်ပါသည်၊ ညဥ့်ဝါစာချအကျော် ဆရာတော်ဦးဝိမလဟူ၍ ယခင်ကကျော်ကြားတော်မူခဲ့သော ကျေးဇူး တော်ရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည် ညောင်လေးပင်မြို့၌ (၁၁) နှစ်လုံးလုံး တရားဒေသနာတော်များကို သွားရောက်ဟော ကြားတော် မူခဲ့ရလေသည်။

## မင်းကွန်းမိုးကုတ်ချောင်တွင် ကျောင်းကန် ဘုရား အဆောက် အဦးသစ်များ တိုးတက် ဖြစ်ပေါ်လာပုံ

မင်းကွန်းမိုးကုတ်ချောင်မှ သီလရှင်ဆရာကြီး ဒေါ်ဝိလာသီ၏ ပန်ကြားပင့်လျှောက်ချက်အရ ကျေးဇူးရှင် ဆရာတော်ဘုရားသည် နှစ်စဉ် သီတင်းကျွတ်လျှင်ကျွတ်ခြင်း မင်းကွန်းသို့ ကြွတော်မူပြီး ဆောင်းရာသီ (၄)လအတွင်း စာသင်သား တပည့်အပေါင်းအား စာပေများကိုပို့ချနေကြောင်း ကောင်းမြတ်သော မင်္ဂလာသတင်းကို ကြားသိကြသော နီးဝေးရပ်ရွာ လေးမျက်နှာမှ စာလိုက်လိုကြသော သံဃာတော်များ သီလရှင်များ လူပညာရှိများမှာ တစ်နေ့တခြား

တစ်နှစ်ထက်တစ်နှစ် များပြားလာလေသည်။ သို့ရာတွင် ထိုစဉ်က မိုးကုတ်ချောင်၌ နေရာထိုင်ခင်းများ မပြည့်စုံသော အခက်အခဲများကြောင့် စာသင်သားပုဂ္ဂိုလ်များမှာ နေ့စဉ်နှင့်အမျှ ဒုက္ခနှင့်ရင်ဆိုင်ရအောင် ပညာရှာဖွေနေရလေသည်။

သို့ဖြစ်၍ သက္ကရာဇ်၁၂၉၄-ခုနှစ်တွင် မိုးကုတ်မြို့မှဆရာတကာလည်းဖြစ်, ပစ္စည်းလေးပါးတကာလည်းဖြစ်သော ကျောင်းတကာကြီး ဦးပု၊ဇနီးဒေါ်ဇော်၊သား ကိုဘသိန်း၊ သမီး မသိန်းရင်တို့မိသားစုက ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသီတင်းသုံးရန်ကျောင်းတစ်ကျောင်း ဆောက်လုပ်လှူဒါန်းလေသည်။

သက္ကရာဇ် ၁၂၉၇-ခုနှစ်တွင် ဆရာတကာလည်းဖြစ်၊ပစ္စည်းလေးပါးတကာလည်းဖြစ်သော မိုးကုတ်မြို့မှ ဘုရားတကာကြီးဦးလှိုင်၊ ဇနီးဒေါ်ရှင်တို့က ဇရပ်ကြီးတစ်ဆောင်နှင့် အာရုံခံတန်ဆောင်းကြီးတစ်ဆောင်၊ စေတီတော်တစ်ဆူတို့ကိုလည်း တည်ဆောက်လှူဒါန်းကြလေသည်။

သက္ကရာဇ် ၁၂၉၈ ခုနှစ်တွင် မိုးကုတ်မြို့ ဈေးသစ်ရပ်မှ ဆရာတကာ ပစ္စည်းလေးပါး တကာဖြစ်သော ဦးကောင်း၊ သား ဦးစောမောင်၊ ဦးဝ၊ သမီးဒေါ်အို၊ ဒေါ်နန်းအောင် မိသားစုတို့က မိုးကုတ်ချောင်တွင် သီတင်းသုံးတော်မူကြသောရဟန်းရှင်လူအပေါင်းသောက်,ချိုး သုံးဆောင်နိုင်ကြရန် ငွေ၊ မိုး၊ ဆောင်း ရာသီမရွေးအသုံးပြုနိုင်သည့် ကြီးမားသော ရေကန်ကြီးတစ်ကန်ကို တူးဖော်လှူဒါန်းကြလေသည်။

ဤသည်တို့ကား ဆရာတော်ဘုရားကြီး မင်းကွန်း မိုးကုတ်ချောင်သို့ သီလရှင်ဆရာကြီး ဒေါ်ဝိလာသီအား အကြောင်းပြု၍ ရောက်ရှိပြီးနောက်၊ ၎င်းမင်းကွန်းချောင်၌ ကျောင်းကန်ဘုရားစေတီများဖြင့် သိုက်မြိုက်ခမ်းနားလှသော အဆောက်အဦသစ်များ ဖြစ်ထွန်းပေါ်ပေါက်လာခဲ့ရခြင်းပင် ဖြစ်ပေသည်။

## မိုးကုတ်မြို့သို့ ကြွရောက် တရားချီးမြှင့်ခြင်း

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီးသည် အမရပူရမြို့ မင်္ဂလာတိုက် မိုးကုတ်ကျောင်းတွင် သီတင်းသုံးကာ မင်းကွန်းမိုးကုတ်ချောင် ညောင်လေးပင်မြို့ ပြည်လုံးချမ်းသာ ဘုရားပွဲများသို့ နှစ်စဉ်ကြွရောက်၍ စာပေပို့ချခြင်း၊ တရားဓမ္မဟောပြသွန်သင်ခြင်းများကို အစဉ်ပြုလုပ်တော်မူရင်းကပင် သက္ကရာဇ် ၁၂၉၄-ခုနှစ်တွင် မိုးကုတ်မြို့မှ ကျောင်းတကာကြီး ဦးလယ် ဇနီးဒေါ်သိုင်းခြုံတို့၏ ပင့်လျှောက်ချက်အရ မိုးကုတ်မြို့သို့ကြွရောက်တော်မူ၍ မိုးကုတ်အရှေ့ရွာကျောင်း၌ သီတင်းသုံးတော်မူကာ တရားနာ ဓမ္မပရိသတ် အပေါင်းအား ချောင်တောင်ရပ်ရှိ ကျောင်းတကာကြီး ဦးလယ်၊ဇနီးဒေါ်သိုင်းခြုံတို့ အိမ်၌ တရားန ာပရိသတ်များအား တရားရေအေးအမြိုက်ဆေး တိုက်ကျွေးတော်မူလေသည်။

ဒုတိယမြောက် ၁၂၉၅-ခုနှစ်တွင်လည်း မိုးကုတ်မြို့သို့ကြွရောက်ကာ မိုးကုတ်မြို့နတ်မွန်ကျောင်းတိုက်၌ သီတင်းသုံးကာ ဦးလယ် ဒေါ်သိုင်းခြုံတို့ အိမ်၌ပင် တရားဓမ္မများ ဟောပြသွန်သင်တော် မူလေသည်။

တတိယမြောက်၁၂၉၆-ခုနှစ်မှစ၍ဒုတိယကမ္ဘာစစ်ကြီးဖြစ်သည့်အချိန်တိုင် နှစ်စဉ်ကြွရောက်မြဲ ကြွရောက်တော်မူကာမိုးကုတ်မြို့သုသာန်ကျောင်းတွင် သီတင်းသုံးတော်မူ၍ တရားဓမ္မများကို ကျောင်းတကာကြီးဦးလယ်၊ ဒေါ်သိုင်းခြုံတို့အိမ်၌ပင် ဟောကြားတော်မူလေသည်။ ယင်းသို့ ဆရာတော်ဘုရားကြီးနှစ်စဉ်နှစ်တိုင်း ကြွရောက်ကာ တရားဓမ္မများ ဟောကြားခြင်းကို မှတ်သားနာယူကျင့်ကြံအားထုတ်ကြရသော တကာ တကာမအပေါင်းမှာ နှစ်ထောင်းအားရ ကြည်ညိုကြသဖြင့် တစ်နေ့တခြား တရားနာပရိသတ်များစည်ကားများပြားလာလေရာ (၇)ရက်နှင့်လပြည့်လကွယ် ဥပုသ်နေ့များတွင် တရားနာ ပရိသတ်ငါးရာကျော် ခြောက်ရာခန့်ရှိနေ၍ ဦးလယ်အိမ်တွင်မဆန့်သဖြင့်သုသာန်ကျောင်းတွင် ဟောပြောတော် မူရလေသည်။

ထိုကဲ့သို့ တရားဓမ္မများ ဟောပြောဆုံးမပြီးနောက် ဝါဆိုဦးရောက်ချိန်နီးတွင် အမရပူရမြို့ မင်္ဂလာတိုက်သို့ ကြွရောက်သီတင်းသုံး

မြဲ ဖြစ်လေသည်။ မိုးကုတ်မြို့မှ သဒ္ဓါတရားထက်သန်လှသော ဒကာ ဒကာမများက ဆရာတော်ဘုရားကြီး သီတင်းသုံးရာ အမရပူရမြို့ မင်္ဂလာတိုက်အတွင်း၌ သက္ကရာဇ်၁၂၉၇-ခုနှစ်တွင် မိုးကုတ်မြို့ မြို့မရပ်မှ မြို့မျက်နှာဖုံးများဖြစ်ကြသည့် ထင်ရှားကျော်စောသော ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံ မိသားတစ်စုက ဆရာတော်ဘုရားကြီးသီတင်းသုံး စာချတော်မူရန် ကျောင်းကြီးတစ်ကျောင်း ဆောက်လုပ်လှူဒါန်းလေသည်။

သက္ကရာဇ် ၁၂၉၉-ခုနှစ်တွင် မိုးကုတ်မြို့ ထင်းရှူးခြံရပ်မှသိမ် တကာကြီး ဦးဖောင်း, သား ဦးစောမောင်၊ ဦးဝ၊ သမီးဒေါ်အို၊ ဒေါ်နန်းအောင် သားသမီးတစ်စုတို့က သိမ်တိုက်တစ်တိုက်ကို တည်ဆောက် လှူဒါန်းလေသည်၊ သက္ကရာဇ်၁၃၀၀ ပြည့်နှစ်တွင် မိုးကုတ်မြို့ ထင်းရှူးခြံရပ်နေဆရာတော်ဘုရားကြီး၏ တကာရင်း ဘုရားတကာကြီး ဦးဘိုးလုံး-ဒေါ်ကူး၊ သား ဦးဘသော်၊ သမီး ဒေါ်ခင်ညွန့်၊ မြေး ပြုံးကြည်တို့က ဆရာတော်ဘုရားကြီးနှင့်တကွ စာသင်သား သံဃာတော်များ သီတင်းသုံးရန် အုတ်ကျောင်းတိုက်ကြီး တစ်တိုက်ကို ဆောက်လုပ်လှူဒါန်းကြလေရာ ထိုကျောင်းတိုက်တွင် ဆရာတော်ဘုရားကြီးကိုယ်တိုင် သီတင်းသုံးတော်မူသည်၊ ထိုနောက် ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် မိုးကုတ်မြို့မှ ဒကာ ဒကာမများ ဆောက်လုပ်လှူဒါန်းကြသော အမရပူရမြို့ မင်္ဂလာတိုက်အတွင်းရှိ ကျောင်းများတွင် ဝါကပ် သီတင်းသုံးကာ စာပေပို့ချခြင်း, တရားဓမ္မဟော ပြောခြင်းများပြုသည်ကို အကြောင်းပြု၍ အဆိုပါ ကျောင်းများကို မိုးကုတ်ကျောင်းများဟု ခေါ်တွင်လေသည်၊ ထိုမိုးကုတ်ကျောင်းတိုက်များပေါ်တွင် ယနေ့တိုင် ရဟန်းတော် မြောက်မြားစွာ သီတင်းသုံးလျက်ရှိလေသည်။

### မိုးကုတ်မြို့၌ ဒကာ–ဒကာမများက ကျောင်းများ ဆောက်လုပ် လှူဒါန်းခြင်း

မြန်မာ သက္ကရာဇ် ၁၃၁၆-ခုနှစ်တွင် မိုးကုတ်မြို့ မြို့မရပ် ကျောင်းအစ်မကြီး ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံ သားသမီးတစ်စုတို့က မိုးကုတ်မြို့ထင်းရှူးခြံရပ် ဖောင်တော်ဦးဘုရားအနီး၌ တိုက်ကျောင်း

တစ်ကျောင်းကို ဆရာတော်ဘုရားကြီး သီတင်းသုံးရန် ရည်စူး၍ ဆောက်လုပ်ကာ ၁၃၁၇-ခုနှစ်တွင် ရေစက်သွန်းချ လှူဒါန်းကြသည်၊ ၎င်းကျောင်းတိုက်အား အမရပူရမြို့ မင်္ဂလာတိုက်ကိုအစွဲပြု၍ "မိုးကုတ်မြို့ မင်္ဂလာတိုက်" ဟူ၍ ထမ္ဘည်းထိုး ခေါ်တွင်ကြလေသည်။

ထို့ပြင် မိုးကုတ်မြို့ ကျောင်းအစ်မကြီးဒေါ်မူ၊ ဒေါ်အုန်းခင်တို့က သံဃာတော်များ သီတင်းသုံးရန် အလို့ငှါ ကျောင်း တစ်ကျောင်း၊ ကျောင်းအစ်မကြီး ဒေါ်ဒေါ်အုံ-ဒေါ်ဒေါ်ပုံတို့က ဆွမ်းစားကျောင်း တစ်ကျောင်းနှင့် ဥပုသ် သီတင်းသီလ ဆောက်တည်သူများ နားနေသုံးစွဲရန် ဇရပ်ကြီးများကို ဆောက်လုပ် လှူဒါန်းကြသည်။

မိုးကုတ်မြို့ ဒေါ်သွယ် သားသမီး တစ်စုတို့က ကြေးကျောင်းတော်ကြီးကို ဆောက်လုပ် လှူဒါန်းကြလေသည်။

မိုးကုတ်မြို့ ဦးညို ဇနီး ဒေါ်အုန်းမေတို့က ကမ္မဋ္ဌာန်းကျောင်း တစ်ကျောင်းနှင့် သံဃာတော်အရှင်မြတ်များနှင့် ဓမ္မမိတ်ဆွေများ သောက်-ချိုး သုံးဆောင်ရန် ရေကန်တစ်ကန်ကိုပါ ဆောက်လုပ် လှူဒါန်းကြသည်။

မိုးကုတ်မြို့ ဦးအောင်ကျော်နှင့်ဇနီးတို့က သိမ်တိုက်တစ်တိုက်ကို ဆောက်လုပ် လှူဒါန်းကြသည်။

ယောဂီများ တရားအားထုတ်ရန် ကမ္မဋ္ဌာန်းကျောင်းများကို မင်္ဂလာတိုက် အတွင်း နေရာလပ် မရှိအောင် မိုးကုတ်မြို့သူ မြို့သား စေတနာရှင်များက ဆောက်လုပ် လှူဒါန်းကြလေသည်။

## ဆရာတော်ဘုရားကြီး၏ ဟောကြားသော တရားတော်ကို လူမျိုးခြားများကပင် နာယူကြပုံ

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ရောက်လေရာဌာန တိုင်းတွင် ရသမျှသော အချိန်ကာလများကို အလဟဿမဖြစ်စေဘဲ လောဘ, ဒေါသ, မောဟ တည်းဟူသော တရား များပြားလှသော

သာကီသားမျိုးအား ခန္ဓာဉာဏ်ရောက် သစ္စာပေါက်တရားများကို ဘဖန်တလဲလဲ သဘောပေါက် နားလည်သည့်တိုင်အောင် ကြီးမားသော မေတ္တာ စေတနာ ရှေ့ထားဆော ဟောကြားတော်မူသဖြင့် လျာဏကိုဏ်းဝင်သူတော်စင်အများမှာ တစ်စတစ်စ များပြားလာသည်နှင့်အမျှ....

မိုးကုတ်မြို့မှ မြို့မျက်နှာဖုံးများ ဖြစ်ကြသော ဦးဘိုးလုံး ိးကောင်း၊ ဦးလှိုင်၊ ဦးပု၊ မြို့မရပ်မှ ဒေါ်ကူး၊ ဒေါ်အုံ၊ ဒေါ်ဖုံ၊ ါသန်း၊ ဒေါ်သွယ်၊ ဦးမြ ဇနီး ဒေါ်ခင်၊ ဦးကြာနှင့်သားသမီး ား ဈေးဟောင်းရပ်မှ ဆရာလှိုင်နှင့် သားသမီးများ၊ ရှမ်းစုရပ်မှ ဦးစံဟင်း ဇနီး ဒေါ်ကြွယ်၊ ဦးရင်မောင် ဇနီး ဒေါ်သွယ်၊ ရှမ်းစုရပ်မှ ဒေါ်ဒွေး၊ ညီမ ဒေါ်ချိန်၊ ဈေးသစ်ရပ်မှ ဦးဘိုးဟိန်း ဇနီးဒေါ်မေ အား သားသမီးများ၊ ဒေါ်ပု၊ ဒေါ်မေ၊ ဦးဝ ဇနီး ဒေါ်စောမယ်၊ ဈေးသစ်ရပ်မှ ဦးထွန်းလှိုင်၊ ဦးနိုင်၊ စည်ပင်သာယာရပ်မှ ဦးပေါ်စသော ကျောင်းတကာ ဘုရားတကာကြီးများနှင့် ကျောင်းအစ်မ၊ ဘုရားအစ်မကြီးများ၏ ကြည်ညိုလေးစားမှုကို အထူးပင် ခံယူရရှိတော်မူလေသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ဆင်းရဲ ချမ်းသာ လူမျိုးမရွေး ဘာသာမရွေး တစ်ပြေး တစ်သားတည်း သဘောထားကာ တရားအရာမှာ အသာအပိုမရှိ၊ တိကျမှန်ကန်စွာ ဘုရားဟောဒေသနာ ကျမ်းဂန်လာ အထောက်အထား သက်သေ သာဓကများ စုံလင်စွာ ပြ၍ ဟောကြားတော် မူတတ်ခဲ့သာကြောင့် ကျော်စောသတင်း ထင်ပေါ်ခြင်းရှိရကား မိုးကုတ်မြို့ မဂ်လာတိုက်ကြီးဝယ် နေ့စဉ် နေ့တိုင်း များပြားလှသော ထလျာဏကိုဏ်းဝင် သူတော်စင်ဓမ္မမိတ်ဆွေ အပေါင်းမှာ ည (၇) နာရီမှ (၈)နာရီ အချိန်တိုင် ဟောကြားတော်မူသည့် ဓမ္မဒေသနာအမြိုက် အရသာကို ရယူကြားနာရန် ရောက်ရှိကြပါတော့သည်။

ကံ-ကံ၏ အကျိုးနှင့်တကွ ရတနာမြတ်(၃) ပါးကို ယုံကြည်လေးစား သရဏဂုံတည်ကြသော ဗုဒ္ဓဘာသာဝင် သူတော်စင်များသာမက မိုးကုတ်မြို့မှ အခြားဘာသာဝင်များ ဖြစ်ကြသော ဂူလျာရတီ

လူမျိုး၊ ပန်ချာပီလူမျိုးများသည်လည်း ပါဝင်လေသည်၊ ၎င်းတို့အား နားမလည်သောကဏ္ဍ, သဘောမပေါက်သော ဝါကျများကို မေးမြန်းနိုင်ရန်နှင့် ၎င်းတို့ ဘာသာစကားများကို ရှင်းလင်းပေးရန် သီးသန့်စကားပြန် တစ်ယောက်ထားရှိပြီး အချိန်ပိုတစ်ရပ် အနေနှင့် ညနေ(၂)နာရီမှ (၃)နာရီအချိန်တိုင်း ရှင်းလင်းသင်ပြဆုံးမပြဩဝါဒ ပေးတော်မူခဲ့ပါသည်။

ထိုလူမျိုးခြား တရားနာပရိသတ်မှ မှတ်မိသလောက် ပြောပြကြသော ပုဂ္ဂိုလ်အချို့မှာ–

ဂူဂျာရတီလူမျိုးများမှ–

(၁) တာပူလား။ (၂) ဒွါကနပ်။ (၃) ကီလာလား။
(၄) ဟီရလား။ (၅) ဗာဗီလား။ (၆) ရတီလား။
(၇) ဆူဘားလ်။ (၈) ဟာရိတရစ်ရှနား။
(၉) အောဒ့တာဆင်။ (၁၀) ဆိဗာဆင့်။ (၁၁) စံထရိင်း(မ်)

တို့မှာ အမြဲတမ်း တရားနာ တရားအားထုတ်ကြသော ပုဂ္ဂိုလ်တို့ ဖြစ်ကြပါသည်။

အောက်သုံးယောက်တို့မှာ ပန်ချာပီလူမျိုးများ ဖြစ်ကြပါသည်။ ၎င်းတို့အထဲမှ ဂူဂျာရတီ လူမျိုး ဟီရလားဆိုသူက ကျေးဇူးရှင် ဆရာတော် ဟောကြားသော တရားတော်များမှာ ၎င်းတို့ဂူဂျာရတီဘာသာဖြင့် ရေးသားစီကုံးထားသော တရားတော်များနှင့် တစ်ထပ်တည်းကိုက်ညီနေကြောင်း ပြောကြားဝန်ခံချက်ကို ယနေ့တိုင် အသက်ရှင်လျက်ရှိပြီး စာရေးသူတိုက်တွင် ညစဉ် တရားလာရောက်နာနေသူ ဒွါကနပ်က ပြောပြပါသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ဝါဆိုရန် အတွက် ရက်နီးကပ်မှသာ မိုးကုတ်မြို့မှ သင်္ဘောလမ်းဖြင့် တစ်ဖုံ ကားလမ်းမှ တစ်လှည့် အမရပူရမြို့သို့ ပြန်လည် ကြွရောက်မြဲ ဖြစ်ပါသည်။

**မှတ်ချက်။** ။သီလ သမာဓိ ပညာ သိက္ခာ ဂုဏ်ဝါ ကြီးမားသော ကျေးဇူးတော်ရှင် ဆရာတော်သခင်အား ပိုမိုလွန်ကဲ ကြည်ညိုရင်းစွဲရှိကြသော မိုးကုတ် မြို့သူမြို့သား တဏှာ တကာမများမှာ မိုးကုတ်မြို့တွင်သာမက ဆရာ

တော် သီတင်းသုံးရာအရပ်တိုင်းတွင်ပင် စာသင်သား ရဟန်းရှင်လူနှင့် တရားနာ ပရိသတ်အပေါင်းအား ကာယိကဒုက္ခ၊ စေတသိကဒုက္ခတို့မှ ကင်းဝေးစေရန် အလို့ငှါ ဘုရားတန်ဆောင်း ကျောင်းဇရပ် အစ ရှိသည်တို့ကို လိုလေသေးမရှိအောင် ဖြည့်တင်းဆောက် လုပ်လှူဒါန်းပူဇော်သမှု ပြုကြရှိလည်းကောင်း၊ ကျေးဇူး ရှင်ဆရာတော်ဘုရားကြီးမှာ နှစ်စဉ်မပြတ် မိုးကုတ်မြို့သို့ ကြွရောက်သီတင်းသုံးလေ့ရှိသောကြောင့် လည်းကောင်း (မိုးကုတ်) ဆိုသော နာမဝိသေသဝါကျတစ်လုံးတိုးပြီး (ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရား)ဟု ရဟန်း ရှင်လူများ ပါးစပ်ဖျားဝယ် ခေါ်ဝေါ် ပြောစမှတ် ပြုကြလေသည်။

## မိုးကုတ်မြို့တွင် သီတင်းသုံးစဉ် အချိန် ပိုင်းခြားထားပုံ

ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် မည်သည့်အရပ်တွင် မဆို သီတင်းသုံးရာတွင် အချိန်ကို အလစ်ဟင်းမခံဘဲ တိကျသေချာ စွာ လုပ်ကိုင်ဆောင်ရွက်လေ့ရှိတော်မူပါသည်။ မိုးကုတ်မြို့တွင်သီတင်း သုံးစဉ် အောက်ပါအတိုင်း အချိန်ကို ပိုင်းခြားတော်မူလေသည်။

နံနက် (၄) နာရီမှ (၅) နာရီ ဘုရားဝတ်ပြုခြင်းနှင့် ဝိပဿနာ ဘာဝနာ ကမ္မဋ္ဌာန်းကို ပွားများ အားထုတ်ခြင်း ပြုတော်မူသည်။

နံနက် (၅) နာရီမှ (၆) နာရီထိ ကျောင်းပေါ်တွင်ပင် စင်္ကြံလျှောက်၍ တရားများ ပွားများလေသည်။

နံနက် (၆) နာရီမှ (၇) နာရီထိ လက်ဖက်ရည်၊ ယာဂု တို့ကို ဘုဉ်းပေးတော်မူလေသည်။

နံနက် (၇) နာရီမှ (၈) နာရီထိ ဒေတ္တ အနားယူတော်မူရင်း ဝိပဿနာ ဘာဝနာကမ္မဋ္ဌာန်း ရှုမှတ်ပွားများတော်မူလေသည်။

နံနက် (၈) နာရီမှ (၉) နာရီထိ ညွှန်သည် အာဂန္တု များနှင့် ဆွမ်းလာပို့ကြသော တကာ- တကာမများအား လက်ခံတွေ့ဆုံ၍ ဆုံးမဩဝါဒများ ပေးတော်မူသည်။

နံနက် (၉) နာရီမှ (၁၀) နာရီထိ ဆွမ်း, ခဲဖွယ်, ဘောဇဉ်များကို ဘုဉ်းပေးတော်မူလေသည်။

နံနက် (၁၁) နာရီမှ မွန်းတည့် (၁၂) နာရီထိ လက်ဖက်ရည်, အဖျော်ယမကာ, မုန့်များ စသည်တို့ကို ဘုဉ်းပေးတော်မူလေသည်။

မွန်းတည့် (၁၂) နာရီမှ ညနေ (၂) နာရီထိ မည်သူ့ကိုမျှ အတွေ့မခံဘဲ အခန်းတွင်း၌ ဝိပဿနာ ဘာဝနာ ကမ္မဋ္ဌာန်းများကို ရှုမှတ် ပွားများတော်မူလေသည်။

ညနေ (၂) နာရီမှ (၃) နာရီထိ လူမျိုးခြား တရားနာ ပရိသတ်များအား ဧာလူး အချိန်ပေး၍ တရားဟောခြင်း, တရားသဘော ရှင်းလင်းခြင်းကို ပြုတော်မူလေသည်။

ညနေ (၃) နာရီမှ (၄) နာရီထိ တရားနာနှင့် တရားအားထုတ်သော ပုဂ္ဂိုလ်များအား အဘိဓမ္မာဆိုင်ရာ စာပေများကို ရှင်းလင်း ပို့ချတော်မူလေသည်။

ညနေ (၄) နာရီမှ (၆) နာရီထိ ရေပူရှာအထိ တောင်ပေါ်လမ်းမှ စင်္ကြံလျှောက်တော်မူလေသည်။

ညနေ (၆) နာရီမှ (၇) နာရီထိ အပန်းဖြေ အနားယူတော်မူရင်း ထိုနေ့ညတွင် ဟောရန်အတွက် တရားထိုင်တော်မူလေသည်။

ညနေ (၇) နာရီမှ (၈) နာရီထိ သတ္တာဝါ ဝေနေယျတို့အား တရားစည်ကြီး ရိုက်ဟည်း ဆော်ရှမ်းတော်မူလေသည်။

ည (၇) နာရီမှ (၉) နာရီထိ တပည့်တပန်းများ၏ ဝတ်ဖြည့်ခြင်းကို ခံယူတော်မူလေသည်။

ည (၉) နာရီမှ (၁၀) နာရီအချိန်တွင် ကျောင်းပေါ်တွင်သာ စင်္ကြံလျှောက်တော်မူပြီးနောက် ကျိန်းစက်ရာ အခန်းသို့ ဝင်တော်မူ၍ တရားအားထုတ်တော်မူလေသည်။

## အမရပူရမြို့ မင်္ဂလာတိုက်၌ အဆောက်အဦများ တိုးခြင်း

ကျေးဇူးရှင် ဆရာတော်ဘုရားသည် အမရပူရမြို့ မင်္ဂလာတိုက်အတွင်း စာသင်သား (၅၀၀) ကျော်တို့အား သက္ကရာဇ်၁၂၈၆-ခုမှစ၍ စာပေပို့ချခဲ့ပုံ၊ ထိုအချိန်က အဆောက်အဦနည်းပါး၍ စာသင်သား သောတုဇနများမှာပင် ကိုယ်စိတ်နှလုံး ဆင်းရဲပင်ပန်းစွာ စာပေလိုက်ကြပုံကို ဖော်ပြပြီး ဖြစ်ပေသည်။

ထိုအဖြစ်အပျက်များကို မျက်မြင်ကိုယ်တွေ့ ဖြစ်ကြသော မိုးကုတ်- မန္တလေး- အမရပူရမြို့များမှ ပုညကြိယာ(၁၀) ဖြာသော ကုသိုလ်ကံတရားတို့၌ မွေ့လျော်သောစိတ်ရှိကြကုန်သော တကာ တကာမတို့က မင်္ဂလာတိုက်တွင် ကျောင်းကန်ဘုရား အဆောက်အဦများကို သဒ္ဒါကြည်ဖြူ ဆောက်လုပ်လှူဒါန်းကြကြောင်းကို ထပ်လောင်းကာ ဖော်ပြရပေမည်။

သက္ကရာဇ် ၁၂၈၆-ခုနှစ်တွင် အမရပူရမြို့ ပွဲတော်ရပ် အမိဒေါ်သစ်၊ သမီး မမကြီး၊ မြေး ကိုအောင်လှ၊ ကိုဘဦးတို့က ကျေးဇူးရှင် ဆရာတော်ဘုရား သီတင်းသုံးရန်နှင့် စာပေပို့ချရန် မင်္ဂလာတိုက်အတွင်း၌ အလယ် စာချတိုက်ကြီးကို ဆောက်လုပ်လှူဒါန်းလေသည်။ ၎င်း အလယ် ကျောင်းတိုက်ကြီးအား မိုးကုတ်မြို့ ထင်းရှူးခြံရပ် ကျောင်းတကာကြီး ဦးလယ်၊ ကျောင်းတကာမကြီး ဒေါ်သိုင်းခြုံ သားသမီးတစ်စုတို့က ထပ်မံ၍ ပြုပြင်လှူဒါန်းလေသည်။

သက္ကရာဇ် ၁၂၉၇-ခုနှစ်တွင် မိုးကုတ်မြို့ မြို့မရပ်မှ ကျောင်းအစ်မကြီးဒေါ်ဒေါ်အုံ၊ဒေါ်ဒေါ်ဖုံ သားသမီးတစ်စုတို့က ဆရာတော်

ဘုရားကြီး သီတင်းသုံး စာချတော်မူရန် မင်္ဂလာတိုက်အတွင်း၌ မိုးကုတ်ကျောင်းကြီးကို ဆောက်လုပ်လှူဒါန်းလေသည်။

သက္ကရာဇ် ၁၂၉၉-ခုနှစ်တွင် မိုးကုတ်မြို့ ထင်းရှူးခြံရပ်နေ သိမ်တကာကြီး ဦးကောင်း၊ သား ဦးစောမောင်၊ ဦး၀၊ သမီးဒေါ် အို၊ ဒေါ်နန်းအောင် သားသမီးတစ်စုတို့က မင်္ဂလာတိုက်အတွင်း၌ သိမ်တိုက်တစ်တိုက်ကို ဆောက်လုပ်လှူဒါန်းလေသည်။

သက္ကရာဇ် ၁၃၀၀-ပြည့် ပြာသိုလဆန်း(၁)ရက်နေ့က မိုးကုတ်မြို့ ထင်းရှူးခြံရပ်နေ ဘုရားတကာကြီး ဦးဘိုးလုံ-ဒေါ်ကူး၊ သား ဦးဘသော်၊ သမီး ဒေါ်ခင်ညွန့်၊မြေး မပြုံးကြည်တို့က မင်္ဂလာတိုက် အတွင်း၌ စာသင်သား သံဃာတော်များ သီတင်းသုံးရန် မိုးကုတ် အုတ်ကျောင်းတစ်ကျောင်း ဆောက်လုပ်လှူဒါန်းလေသည်။

သက္ကရာဇ် ၁၃၁၆-ခုနှစ်တွင် အမရပူရမြို့ အိုးတော်ရပ် ပိုးကုန် သည် ဦးထွန်းကြည် ဇနီး ဒေါ်ဒေါ်စောတို့က မင်္ဂလာတိုက်အတွင်း၌ (ဓမ္မသုခရိပ်သာ) တရားဟော ဓမ္မာရုံကြီးကို ဆောက်လုပ်လှူဒါန်း လေသည်။

သက္ကရာဇ် ၁၃၁၇-ခုနှစ်တွင် မန္တလေးမြို့ ၆၁းတန်းရပ် စခန်း သာ ပွဲရုံပိုင်ရှင် ပွဲစားကြီး ဦးချစ်ဆွေ၊ ဇနီးဒေါ်ဒေါ်မေ၊ သားသမီး တစ်စုတို့က ခေတ်မီရေလောင်းကုဋ္ဋိ (၇)ခန်းတွဲတစ်လုံးကို ဆောက် လုပ် လှူဒါန်းလေသည်။

သက္ကရာဇ် ၁၃၁၈ ခုနှစ်တွင် မန္တလေးမြို့ ကိုင်းတန်းရပ် ကျောင်းတကာကြီး ဦးပေါက်ကျော် ဇနီး ဒေါ်စီ သားသမီးတစ်စု တို့က ကျေးဇူးရှင် ဆရာတော်ဘုရားကြီး စကြံလျှောက်ရန် စကြံ ကျောင်းတစ်ကျောင်း၊ ဘုံကျောင်း တစ်ကျောင်းနှင့်တကွ ဘုရားကြီး တစ်ဆူ ပြုပြင်မွမ်းမံကာ ဆောက်လုပ်လှူဒါန်းလေသည်။

သက္ကရာဇ် ၁၃၂၂ ခုနှစ်တွင် အမရပူရမြို့ လေးစုရပ် ဘုရား တကာကြီး ဦးချမ်း ဇနီး ဒေါ်ဒေါ်ခန့် သား ကိုစန်း၊ ကိုသောင်း၊ သမီး မကြည်တို့က ကျောင်းတိုက်အတွင်းရှိ ရွှေဟောင်း ဘုရား တစ်ဆူနှင့် မင်္ဂလာရိပ်သာအတွင်းရှိ ရေတွင်းကို အသစ်ပြုပြင်၍လှူဒါန်း ကြသည်။

သက္ကရာဇ် ၁၃၂၄ ခုနှစ်တွင် အမရပူရမြို့အပိုင် မြစ်ငယ်မြို့နယ် မနိုးရွာမှ ဘုရားအစ်မကြီး ဒေါ်ဥက မဂ်လာတိုက်အတွင်း၌ သိမ်တိုက် တစ်တိုက် ဆောက်လုပ် လှူဒါန်းလေသည်။

သက္ကရာဇ် ၁၃၂၄ ခုနှစ်တွင် မန္တလေးမြို့ ဗိုလ်ချုပ်လမ်း စက်ပိုင် ဦးစံရှိ ဇနီး ဒေါ်မယ်၊ သား ကိုသန်းမြင့်၊ သမီး စိန်စိန်ရီ၊ မြေး ကြူကြူလှိုင်၊ မောင်စောလင်းတို့က မင်္ဂလာတိုက်ပတ်ပတ်လည် အကာအရံ အုတ်တံတိုင်းကြီးကို တည်ဆောက် လှူဒါန်းကြလေသည်။

## သီဟိုဠ်မဟာစေတီတော် စိန်ဖူးတော် လှူဒါန်းရန် ဆောင်ရွက်တော်မူခြင်း

ပြည်ထောင်စု မြန်မာနိုင်ငံတွင် မိုးကုတ်မြို့သည် ချမ်းသာ ကြွယ်ဝသော မြို့တစ်မြို့အဖြစ် ပါဝင်ခဲ့လေသည်။ ၎င်းမြို့တွင် အဖိုး အနဂ္ဃတန်သော ကျောက်မျက်ရတနာများသည် သဘာဝတည်ထားဝ ပေါကြွယ်ဝသောကြောင့် မြို့သူ မြို့သားများသည် မတောင့်မတ မကြောင့်ကြဘဲ အလှူရေစက် လက်နှင့်မကွာ စေတနာထက်သန်ကြ သောသူများ ဖြစ်ကြလေသည်။ ယင်းသတင်းများကို ကြားသိရသော သီဟိုဠ်မှ မဟာစေတီ ဂေါပကလူကြီးများသည် ထိုစေတီတော် စိန်ဖူး ဖြစ်မြောက်ရေးအတွက် မိုးကုတ်မြို့တွင် အလှူခံရသော် ကောင်းလေစွ ဟု စိတ်ဝယ် အကြံရှိကြလေသည့်အလျောက် မည်သည့်ပုဂ္ဂိုလ်အား ချဉ်းကပ်၍ အလှူခံရမည်ကို စုံစမ်းကြရာ အများဗိုလ်လူ ကြည်ညိုခြင်း နှင့် ယုံကြည်ကိုးစားခြင်း အပြည့်အဝခံရသော ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီး အား ချဉ်းကပ်၍ ဆောင်ရွက်ရန် အများ ဆုံးဖြတ်ကြလေသည်။

ထိုအချိန်လောက်မှာပင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး သည် သီဟိုဠ်သို့ ကောင်းကင်မှ ဗျာန်ဖြင့် ကြွသွားတော်မူ၍ မဟာ စေတီတော်ကို ဖူးမျှော်ကန်တော့ပြီး အဆိုပါ စေတီတော်ကြီးကို သန့်ရှင်းပြုပြင်လျက် သာသနာပြုရသည်ဟု အိပ်မက် မြင်မက်တော်မူ လေသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးမှာ အိပ်မက်အရ စိန်ဖူးတော်ကို တင်ထိုက်သည့် ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် ဖြစ်သည့်အလျောက် မဟာစေတီတော် ဂေါပကအဖွဲ့မှ ယင်းသို့ ဆုံးဖြတ်ချက်အရ စိန်ဖူးတော် ဖြစ်မြောက်ရေးကို ဆောင်ရွက်ပေးပါရန် ပန်ကြားစာကို မကြာမီ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးထံဝယ် လူးဆန်းစွာ အကြောင်းတိုက်ဆိုင်ပြီး လက်ခံ ရရှိတော်မူလေသည်။

ဆရာတော်ဘုရားကြီးကလည်း ထို စာအရ မိုးကုတ်မြို့မှ မြို့မျက်နှာဖုံး လူကြီးများနှင့် တိုင်ပင်ကြပြီး စိန်ဖူးတော် ဖြစ်မြောက်ရေးကို ဆောင်ရွက်ပေးမည့်အကြောင်း သက်ဆိုင်ရာ ဂေါပကများထံ စာပြန်ကြားလိုက်လေသည်။ ထို့ကြောင့် သီဟိုဠ်မှ ဦးဝိနယလင်္ကာရ ဆရာတော်သည် မျှားမကြာမီ မိုးကုတ်မြို့သို့ ကြွရောက်လာပြီး ကျေးဇူးရှင် ဆရာတော်ဘုရားနှင့် ဦးကောသလ္လ ဆရာတော်တို့ ဦးဆောင်၍ အလှူခံအဖွဲ့ဝင်များဖြစ်သော ဦးဘိုးလုံ၊ ဦးလယ်၊ ဦးသူတော်၊ ဦးအို၊ ဦးရင်မောင်၊ ဦးလှိုင်၊ ဦးကျော်လုံး၊ ဦးထွန်း၊ ဦးတိုး၊ ဦးကောင်း၊ ဦးစံဟင်း၊ ဦးထွန်းဘော်၊ ဦးဝ၊ ဦးသာထွန်း၊ ဦးချစ်ဖေတို့ စုပေါင်း၊ အလှူခံကြရာ စိန်ဖူးတော်အတွက် တန်ဖိုးများလှသော ကျောက်သံပတ္တမြား ရွှေငွေရတနာများ အလှူခံ ရရှိတော်မူလေသည်။

ထို့နောက် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ကိုယ်တိုင် အဆိုပါ အလှူခံ အဖွဲ့ဝင်အချို့နှင့် ညောင်လေးပင်မြို့သို့ ကြွသွားတော်မူပြီး စိန်ဖူးတော် ဖြစ်မြောက်ရေးအတွက် အလှူခံပြန်ရာ ထိုအချိန်က ညောင်လေးပင် မြို့သူမြို့သားတို့မှာလည်း အရောင်းအဝယ် သာယာဝပြောနေခိုက်ဖြစ်၍ ရွှေငွေရတနာများကို အလှူခံရရှိတော်မူလေသည်။ ထိုသို့ အလှူခံရရှိထားသော ရွှေအလေးချိန် များစွာတို့ကို အဖိုးအနဂ္ဃ ထိုက်တန်လှစွာသော ကျောက်သံ ပတ္တမြား နီလာ စသည်တို့ဖြင့် လှပဆန်းကြယ်စွာ ခြယ်လှယ်၍ စိန်ဖူးတော်အဖြစ်သို့ မိုးကုတ်မြို့တွင်ပင် အောင်မြင်စွာ ဆောင်ရွက်ကြပါသည်။

ထို စိန်ဖူးတော်ကို ဦးဝိနယလင်္ကာရ ဆရာတော်၊ မိုးကုတ် ဦးဝိမလဆရာတော်၊ ဦးကောသလ္လ ဆရာတော်တို့နှင့် မိုးကုတ် အမှုဆောင် အဖွဲ့သားများက မိုးကုတ်မြို့မှ သပိတ်ကျင်းမြို့သို့ မော်တော်

ကားဖြင့်လည်းကောင်း၊ သပိတ်ကျင်းမြို့မှ မန္တလေးမြို့သို့ မီးသင်္ဘော ဖြင့်လည်းကောင်း အခမ်းအနား၊အဆောင်အယောင်ဘွဲ့ဖြင့် ပင့်ဆောင် ခဲ့ပြီး၊ မန္တလေးမြို့ စိန်ပန်းရပ် ဦးတော် ဆောက်လုပ် လှူဒါန်းသော ဝိဇ္ဇာလင်္ကာရကျောင်းတွင် တစ်ရက် ကိန်းဝပ်လျက် မန္တလေး မြို့သူ မြို့သားတို့၏ အပူဇော်ကိုခံလေသည်။

ထိုကျောင်းမှတစ်ဆင့် မန္တလေးမြို့ ဗဟိုအမျိုးသား အထက် တန်း ကျောင်းကြီး (ယခုအခါ အစိုးရ အမှတ်—၂ အထက်တန်း ကျောင်းကြီး) သို့ ပင့်ဆောင်ကာ သုံးရက်ခန့် ကိန်းဝပ်လျက် မြို့သူ မြို့သားများ၏ အပူဇော် အဖူးမြော်ကို ခံတော်မူပြီး စိန်ဖူးတော်အား မီးရထားဖြင့် ပင့်ဆောင်ကြလျက် ရန်ကုန်မြို့ ရွှေတိဂုံစေတီကုန်းတော် ပေါ်တွင် ကိန်းဝပ် စမ္မာယ်ကာ ရန်ကုန်မြို့သူ မြို့သားများ၏ ပူဇော် သက္ကာရကို ခံယူစေတော်မူလေသည်။ တစ်ဖန် ဦးဝိနယာလင်္ကာရ ဆရာ တော်နှင့် ဦးကေသဝလ္လ ဆရာတော်နှစ်ပါး ဦးဆောင်၍ မိုးကုတ်မြို့မှ လိုက်ပါလာကြသော အမှုဆောင် အဖွဲ့သား အချို့တို့သည် စိန်ဖူး တော်ကို ပင်လယ်ကူး သင်္ဘောကြီးဖြင့် ရန်ကုန်မြို့မှ သီဟိုဠ် မင်္ဂလာ စေတီတော်အထိ ခမ်းနားသိုက်မြိုက်စွာ ပင့်ဆောင်ပြီး စိန်ဖူးတော်ကို တင်တော်မူကြလေသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးမှာ နောက်မှ သီဟိုဠ်သို့ တိုက်ရိုက် လေယာဉ်ပျံဖြင့် ကြွရန် အစီအစဉ် ရှိပါသော်လည်း အကြောင်းမညီညွတ်သဖြင့် မကြွနိုင်တော့ပါ။

**မှတ်ချက်။** ။၁၃၁၈-ခုနှစ် တော်သလင်းလတွင် စာရေးသူသည် အမရပူရမြို့၌ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ခြေတော် ရင်းတွင် တရားအားထုတ်နေစဉ် သီဟိုဠ်မဟာစေတီတော်နှင့် ဆရာတော်တို့ အကြောင်း အကျိုး ဆက်ပုံ၊ စိန်ဖူးတော် ဖြစ်မြောက်ရေးအတွက် အလှူခံပေးပါရန် ပန်ကြားလှာ မရ ခင်ကပင် မကြုံစည် မတွေးတောမိဘဲ အထက်က ဖော်ပြခဲ့ သည့်အတိုင်း ဆရာတော်ဘုရားကြီး၊ အိပ်မက် မြင်မက်ပုံတို့ကို စာရေးသူနှင့် ဝတ်ဖြည့်နေကျမြဖြစ်သော ဦးချစ်စိန်၊ ဦးလှ

ဘုန်းနှင့် ဆရာညှိုတို့အား မိန့်ကြားခဲ့ဖူးပါသဖြင့် တင်ပြအပ်ပါသည်။

## (၁၁)နှစ်တိုင်တိုင် မိုးကုတ်မြို့၌သာ သီတင်းသုံးတော်မူခြင်း

ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် အမရပူရမြို့ မင်းကွန်း၊ မိုးကုတ်ချောင်၊ ညောင်လေးပင်မြို့နှင့် မိုးကုတ်မြို့များသို့ နှစ်စဉ်လှည့်လည်၍ သီတင်းသုံးလျက် သတ္တဝါဝေနေယျတို့အား စာပေမေ့ အဝဝဖုံလင်ရမလအောင် သွန်သင်ဆုံးမ ဟောပြောပြသလျက်နေရာမှ သက္ကရာဇ် ၁၂၉၉ ခုနှစ်လောက်မှစ၍ ဒုတိယကမ္ဘာစစ်မီးကြီးသည် အတိုင်းတိုင်း အပြည်ပြည်ကို လောင်စပြုလာလေသည်၊ ထိုအချိန်က မြန်မာပြည်၌လည်း ဗိုလ်ချုပ်အောင်ဆန်းနှင့် ရဲဘော်သုံးကျိပ်တို့သည် ဂျပန်နှင့် ပူးပေါင်း၍ ဗြိတိသျှနယ်ချဲ့တို့ကို မြန်မာနိုင်ငံမှ တွန်းလှန်တိုက်ထုတ်နေသော အချိန်ဖြစ်သဖြင့် တိုင်းပြည်၏ အခြေအနေမှာ တစ်နေ့တခြား ဆူပူဆိုဝါးလာလေသည်။

ထိုအခါ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည်ဘေးရန်အန္တရာယ်ကို ရှောင်တိမ်းသော အနေဖြင့် မိမိ အမြဲ သီတင်းသုံးတော်မူရာ အမရပူရမြို့ မဂ်လာဘိုက်မှ ငှင်းမြို့ ပွဲတော်ရပ်သို့ ရွှေကြွရောက်သီတင်းသုံးတော်မူလေသည်၊ ထိုပွဲတော်ရပ်မှတစ်ဖန် မင်းကွန်းမိုးကုတ်ချောင်သို့ ကြွကာ သီတင်းသုံးတော်မူလေသည်၊ စစ်ဒဏ်မှာလည်း တောမီးလောင်ဘိသကဲ့သို့ ဆူပူမှုအခြေအနေများ ပျံ့နှံ့လာသောအခါ မိုးကုတ်မြို့မှ ကျောင်းတကာကြီး ဦးလယ်ကိုယ်တိုင် မင်းကွန်းသို့လိုက်လာပြီး ကျေးဇူးရှင် ဆရာတော်ဘုရားကြီးအား မိုးကုတ်မြို့သို့ ကြွရောက်သီတင်းသုံးပါရန် ပင့်လျှောက်သဖြင့် သက္ကရာဇ် ၁၃၀၃-ခုနှစ်တွင် ဆရာတော်ဘုရားကြီးသည် မိုးကုတ်မြို့သို့ ကြွရောက်တော်မူပြီး သုသာန်ကျောင်း၌ သီတင်းသုံးတော်မူလေသည်။

မိုးကုတ်မြို့သို့ ရောက်ရှိပြီး မျှားမကြာမီ ကျောင်းတကာကြီး ဦးလယ်၊ ဦးဘိုးလုံနှင့် ဘော်ဘာတန်းရွာမှ ဒေါ်ကြီးတို့ ပင့်လျှောက်ချက်အရ မိုးကုတ်မြို့မှ ၄ မိုင်ခန့်ဝေးသော ဘော်ဘာတန်းရွာ ဒေါ်ကြီး၏ တဲကျောင်းသို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူလေသည်၊ အဆို

ဘော်ဘတန်းရွာကလေးမှာ ပေ(၄၀၀၀)ကျော်မြင့်သော တောင်ပေါ်တွင်တည်ရှိ၍ကျောက်လိုဏ်ဂူများမှာလည်း သဘာဝအလျောက်တည်ရှိနေရကား တရားဘာဝနာအားထုတ်နေထိုင်လိုကြသော သူတော်ကောင်း သူမြတ်လောင်း တို့အတွက် "နတ်တို့ဖန် ရေကန်အသင့်ဥအသင့်" ဆိုဘိုသကဲ့သို့ နှစ်လိုဖွယ် နေရာများပင် ဖြစ်နေပေသည်၊ ထိုနောက် ဘော်ဘတန်းရွာ ကျောက်လိုဏ်ဂူ အနီးတွင် ခေတ္တယာယီတဲကျောင်းထိုး၍ သီတင်းသုံးသည်၊ ထိုစဉ်က နံနက်(၈)နာရီအချိန်တွင် ယာဂုကပ်ချိန်၊ (၇)နာရီအချိန်တွင် ဆွမ်းကွမ်းလှူချိန်ကို ဦးဘိုးလုံ-ဒေါ်ကူးတို့က အမြဲကပ်လှူခဲ့လေသည်။

ဆရာတော်ဘုရားကြီးမှာလည်း ဘော်ဘတန်းရွာသို့ ရောက်ရှိချိန်မှစ၍ ဆွမ်းဘုဉ်းပေးချိန် ရေချိုးချိန်နှင့် တကာ တကာမများအား တရားဓမ္မပေးခြင်း၊ ဆုံးမဩဝါဒပေးခြင်း စသောအချိန်များမှအပ ထို ကျောက်ဂူအတွင်း၌သာ တရားအားထုတ်ခြင်းဖြင့်သာ မွေ့လျော်တော်မူလေသည်၊ ညဖိုင်းတွင် ဦးဘိုးလုံ ဒေါ်ကူးတို့အား တရားဟော ဆုံးမလေ့ရှိသည်။

ထိုသို့ ဆရာတော်ဘုရားကြီး ဘော်ဘတန်းရွာ၌ သီတင်းသုံးနေကြောင်း သတင်းကောင်းကို ကြားသိရသော ကျောင်းတကာကြီး ဒေါ်ဒေါ်အုံး၊ ဒေါ်ဒေါ်ဖုံတို့ မိသားစုလည်း မိမိတို့တိမ်းရှောင်နေထိုင်သော ဒေသမှ ဆရာတော်သီတင်းသုံးရာ ဘော်ဘတန်းရွာသို့ ပြောင်းရွှေ့လာကြပြီး ဆရာတော်ဘုရားကြီးအား နေ့စဉ် (၁၈)နာရီ အချိန်တွင် ချိုချဉ်ခဲဖွယ်များ ဆက်ကပ် ပြုစုရင်း ဘုရားနှင့်, တရားအားထုတ်ခြင်းဖြင့် အချိန်ကုန်ဆုံးစေလေသည်၊ ထိုသို့ ပြည်သို့လှစွာ သဒ္ဒါတရား ထက်သန်လှစွာ ဆွမ်း-ကွမ်း တာဝန်ထမ်းဆောင်ရသည်မှာလည်း လွယ်ကူလှသော အလုပ်မဟုတ်ပေ၊ စစ်အတွင်းဖြစ်ရကား ဆရာတော်ဘုရားကပ်လှူရန် ဆန်, ဆီ, ဆေး, ဆား စ၍ အခက်အခဲများစွာရှိပေသည်၊ ၎င်းပစ္စည်းများ ရရှိရေးအတွက် ဒေါ်ဒေါ်ဖုံ၏သား ဦးမြင့်တို့ကိုယ်တိုင် သပိတ်ကျင်းနှင့်တကွ နီးစပ်ရာ မြို့ရွာများသို့ သူခိုးဓားပြ သားရဲတိရစ္ဆာန်ထူပြောသော ဘေးရန်များကို မကြောက်မရွံ့ သွားရောက်ရှာဖွေဝယ်ယူကာ ဆင်းရဲပင်ပန်းလှစွာ ခြေလျင်ခရီးဖြင့် ကိုယ်တိုင်ထမ်းပိုးသယ်ယူပြီး ဆပ်လှူ

ကြရကြောင်း သိရှိရပါသည်၊ ဆရာတော်ဘုရားလည်း စစ်ကြီးပြီး သည့် နောက်ပိုင်းအထိ တရားကျင့်ကြံအားထုတ်ရန် အထူးကောင်း မွန်သော ဘော်ဘတန်းရွာကျောက်ဂူမှာပင် ဆက်လက်သီတင်းသုံး တော် မူလေသည်၊ ဘုရားတကာ—ကျောင်းတကာ သူဌေးကြီး ဦးဘိုးလုံတို့ အိမ်သားစုများလည်း ထင်းရှူးခြံရပ်ရှိ မိမိအိမ်သို့ ပြန် လည်နေထိုင်ကာ ဆရာတော်ဘုရားကြီးအား ဆည်းကပ်လျက် မြန်မာ ပြည်အရပ်ရပ် ကုသိုလ်ကောင်းမှု အများဆုံးပြုလုပ်ခဲ့သော ပုဂ္ဂိုလ် ကြီးတစ်ဦး ဖြစ်ကြောင်းသိရှိရပါသည်။

မိုးကုတ်မြို့ပေါ်မှ တကာ—တကာမများက အတန်တန်ပင့် ဖိတ်ကြသဖြင့် တရားနာ ပရိသတ်များအား ငဲ့ညှာသောအားဖြင့် မိုးကုတ်မြို့သို့ ပြန်လည် ကြွရောက်တော်မူပြီး သုသာန်ကျောင်းတွင် သီတင်းသုံးကာ ယခင်အတိုင်းပင် စည်ကားများပြားလှသော လူမျိုးစုံ တရားနာပရိသတ်ကြီးအား တရားရေအေး အမြိုက်ဆေးကို အချိန်မှန် တိုက်ကျွေးတော်မူလေသည်။

ဆရာတော် သီတင်းသုံးတော်မူခဲ့သော ဘော်ဘတန်းရွာ ဒေါ်ကြီး၏ တဲကျောင်းနှင့် တရားအားထုတ်ရာဂူကို ဓာတ်ပုံနှင့် တကွ ဖော်ပြအပ်ပါသည်။

## ဒုတိယကမ္ဘာစစ်ကြီးအပြီး အမရပူရမြို့သို့ပြန်လည် ကြွရောက်ခြင်း

စာသံ ပေသံ တညံ့ညံ့ တရားဓမ္မသံ မစဲခဲ့သော အမရပူရမြို့ မင်္ဂလာတိုက်ကြီးတွင် ဒုတိယ ကမ္ဘာစစ်ကြီး၏ ဒဏ်ကို အလူးအလဲ ခံခဲ့ရပြီး တောင်ပြေးမြောက်ရှောင် အယောင်ယောင် အမှားမှားဖြင့် နေခဲ့ရ၍လည်းကောင်း၊ ကျေးဇူးရှင် ဆရာတော်ဘုရားကြီးမှာလည်း မိုးကုတ်မြို့ ဘော်ဘတန်းရွာတွင် သွားရောက် သီတင်းသုံးနေခြင်း ကြောင့်လည်းကောင်း တရားသံ ပျောက်ကာ စာသံပေသံ ခြောက်၍ နေခဲ့သည်မှာ ကြာမြင့်လေပြီ။

ယခုအခါ စစ်ကြီးကလည်းပြီးဆုံး၍ တိုင်းပြည်၏ အခြေအနေမှာလည်း တစ်စတစ်စ သာယာဝပြောလာပြီဖြစ်ရာ မင်္ဂလာဘိုက်၌ ယခင်ကကဲ့သို့ ဓမ္မသဘင်များဖြစ်ထွန်းရန် လိုလားတောင့်တအပ်သော တကာရင်း တကာမရင်းတို့က ကျေးဇူးရှင်ဆရာတော်ဘုရားအား အမရပူရမြို့သို့ ပြန်လည်ကြွရောက်ပြီး သီတင်းသုံးပါရန် ပင့်လျှောက်ကြလေသည်။

ယင်းသို့ ပင့်လျှောက်ရာတွင် ကမကထပြုသူမှာ အမရပူရမြို့ အိုးတော်ရပ်နေ ရက်ကန်းထောင်နှင့် စက်ပိုင် ဦးအောင်မြင့်ဇနီးဒေါ်သိန်းမြတို့၏မိခင် ကျောင်းအမကြီး ဒေါ်သက်ရင် ဖြစ်ပေသည်။ ၎င်းဒေါ်သက်ရင်မှာ သက္ကရာဇ် ၁၂၉၃-ခုနှစ်လောက်မှစ၍ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ ပစ္စည်း ၄-ပါး ဒါယိကာမကြီးဖြစ်ပြီး နှစ်စဉ် ဝါဆိုသင်္ကန်းကို ကိုယ်တိုင်ယက်လုပ်၍ ဆက်ကပ်လှူဒါန်းသူဖြစ်သည်၊ နှစ်ပေါင်း ၄၀ ကျော် ရဟန်းဘဝမ်ရောက်မီကပင် ဆည်းကပ်ကိုးကွယ်ခဲ့သူတစ်ယောက် ဖြစ်ခဲ့ပါသည်။

**မှတ်ချက်။** ။ဒေါ်သက်ရင်ကဲ့သို့ ဆရာတော်ဘုရားကြီးအား နှစ်ပေါင်း ၄၀ ကျော် ၅၀ အထိ သာမဏေဘဝကပင် ဆည်းကပ်ကိုးကွယ်ကြသူ အများအပြားပင် ရှိနေသေး၍ နာယကဆရာတော် ဦးသာဂရကိုယ်တိုင် လိုက်လံတွေ့ဆုံပေးပါသဖြင့် သက်ကြီးဝါကြီး ပုဂ္ဂိုလ်ကြီးများထံမှ မိုးကုတ်ဆရာတော်ဘုရားကြီး၏ သာမဏေဘဝ ဖြစ်စဉ်များကို သိရှိရပါသည်။

ဒေါ်သက်ရင်၏သားဖြစ်သူ ဦးအောင်မြင့် ဇနီးဒေါ်သိန်းမြတို့လည်း ဆရာတော်ဘုရားကြီးအား မိဘသဖွယ် ကြည်ညိုအားကိုးလျက် နေ့စဉ် ဝတ်ကြီးဝတ်ငယ်တို့ကိုပြုလျက် တရားအားထုတ်နေသူများ ဖြစ်ကြပါသည်။

သက္ကရာဇ် ၁၃၁၄-ခုနှစ်တွင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် အမရပူရမြို့သို့ ပြန်လည်ကြွရောက်လာပြီး ယခင်ကဲ့သို့ပင် စာပေပို့ချခြင်းများကို အစပြုလေသည်။ နေ့စဉ် နံနက် ၉-နာရီ

အချိန်တွင် ကျောင်းအမကြီး ဒေါ်သက်ရင်တိုက်သို့ကြွ၍ လက်ဖက်ရည် စသည်တို့ကို ဘုဉ်းပေးတော်မူပြီး ဆွမ်းကပ်လာကြသော စက်ရှင်မင်းကြီး ဦးကံလင်း၊ သင်ပန်းကုန်းရပ်မှ ရက်ကန်းထောင် စက်ပိုင်ရှင် ဦးကြွယ် ဇနီး ဒေါ်သန်း မန္တလေးမှ [illegible]က်ပိုင် ဦးစံရီ ဇနီး ဒေါ်မယ်၊ စိအိုးအို ဦးဘကြည်၊ ဆိကုန်သည်ကြီး ဦးအုန်းခိုင်၊ ဇနီး ဒေါ်စက်တင်နှင့် အမရပူရမြို့မှ တကာရင်း တကာမရင်းများအား တရားပြခြင်း၊ ဩဝါဒပေးခြင်းတို့ကို ပြုတော်မူလေသည်။ နေ့ (၁၁)နာရီခွဲလောက်တွင် ထိုတိုက်၌ပင် ရေချိုးတော်မူပြီး မွန်းတည့် (၁၂)နာရီအချိန်တွင် မင်္ဂလာတိုက်သို့ ပြန်ကြွတော်မူလေသည်။

ဆရာတော်ဘုရားကြီးအား မိုးကုတ်မြို့မှ ပြန်လည်ကြွရောက်လာသည့်နေ့မှစ၍ စာပေပရိယတ်ကို လိုလားတောင့်တနေကြသော ရဟန်း သံဃာတော်များနှင့် ဆရာတော်ဘုရားကြီး၏ ဆုံးမဩဝါဒကို နာကြားဖူးပြီး စစ်ကြီးအတွင်း ဒုက္ခအမျိုးမျိုး သောကအဖုံဖုံတို့နှင့် တွေ့ကြုံခဲ့ကြရပြီး သံဝေဂ တရားများ လက်တွေ့ရရှိကြကာ ဆရာတော်ဘုရားကြီး၏ တရားဓမ္မသံများကို လိုလိုလားလား တောင့်တနေကြသော တရားနာပရိသတ်အပေါင်းမှာလည်း ပန်းသတင်း လေညှင်းဆောင်သကဲ့သို့ မင်္ဂလာတိုက်ကြီး၌ ယခုအခါတွင် အရပ်လေးမျက်နှာမှ တရားနာပုဂ္ဂိုလ်များ၊ တရားအားထုတ်လာကြသော ပုဂ္ဂိုလ်များဖြင့် စည်ပြည်လာပေတော့သည်။

## ရန်ကုန်မြို့ ဗိုလ်တထောင်စေတီ စိန်ဖူးတော်လှူရန် ဆောင်ရွက်ခြင်း

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီးသည် ရှေ့ပိုင်းက ဖော်ပြခဲ့သည့်အတိုင်း သီဟိုဠ်ကျွန်း မဟာစေတီ စိန်ဖူးတော်ဖြစ်မြောက်ရေးအတွက် ကမကထ ဆောင်ရွက်ခဲ့သည်သာမက မြန်မာသက္ကရာဇ် ၁၃၁၈-ခုနှစ်၊ ခရစ်သက္ကရာဇ် ၁၉၅၆-ခုနှစ် တွင်လည်း ရန်ကုန်မြို့ ဗိုလ်တထောင်စေတီ စိန်ဖူးတော်ဖြစ်မြောက်ရေးအတွက် အဖိုးတန်ရတနာထွက်ရာ မိုးကုတ်မြို့မှ တကာရင်း တကာမရင်းတို့၏ အကူအညီဖြင့် ဆောင်ရွက်ရာတွင်လည်း ဦးဆောင်ခဲ့လေသည်။

အဆိုပါစိန်ဖူးတော်ကို မိုးကုတ်မြို့ ကျောင်းအမကြီးဒေါ်အုံ၊ ဒေါ်ဖုံ၊သား ဦးမြင့်နှင့် စိန်ဖူးတော်ဖြစ်မြောက်ရေး အဖွဲ့သားများက မိုးကုတ်မြို့မှ သပိတ်ကျင်းမြို့ သင်္ဘောဆိပ်သို့ ကား များဖြင့် လည်းကောင်း၊ သပိတ်ကျင်းမြို့မှ မန္တလေးမြို့ ဂေါဝိန်ဆိပ်သို့ မီး သင်္ဘောဖြင့်လည်းကောင်း၊ တစ်ဖန်မန္တလေးမြို့မှ အမရပူရမြို့ မင်္ဂလာ ကျောင်းတိုက်သို့ ကားများဖြင့်လည်းကောင်း၊ အဆင့်ဆင့်ခမ်းနား သိုက်မြိုက်စွာ ပင့်ဆောင်ကြလေသည်။အဆိုပါစိန်ဖူးတော်ကို မိုးကုတ် ကျောင်းအမကြီး ဒေါ်အုံ၊ ဒေါ်ဖုံ သားသမီးတစ်စုတို့က ဆောက် လုပ်လှူဒါန်းထားသော မိုးကုတ်ကျောင်းကြီးတွင် သတ္တဝါဝေနေယျ အများ အပူဇော်ခံရန် ထားရှိပါသည်။

ထိုသို့သတ္တဝါဝေနေယျအများ အပူဇော်ခံရန်ထားရှိပြီးနောက် အဆိုပါစိန်ဖူးတော်ကို အမရပူရမြို့မှ မန္တလေးမြို့သို့ ပြင်ဆင်မွမ်းမံ ထားသော ကားများဖြင့် ခမ်းနားစွာပင့်ဆောင်ခဲ့ပြီး မန္တလေးမှတစ် ဆင့် ဒေါ်အုံ၊ ဒေါ်ဖုံ သားသမီးတစ်စုတို့က လေယာဉ်ပျံစင်းလုံး ငှားလျက် ရန်ကုန်သို့ ပင့်ဆောင်ကြပါသည်။ ယင်းသို့ လေယာဉ်ဖြင့် စိန်ဖူးတော်ကိုပင့်ဆောင်ရာတွင် မိုးကုတ်မြို့မှလိုက်ပါလာသော ဦးမြင့် နှင့် အဖွဲ့သားများသာမက အမရပူရမြို့မှ ဆရာတော်ဘုရားကြီး၏ တပည့်ရင်းများဖြစ်ကြသော ဦးဘတုတ် ဦးအုန်းမောင်စသည်တို့လည်း လိုက်ပါကြပါသည်။ ရန်ကုန်မြို့ မင်္ဂလာဒုံလေဆိပ်သို့ ရောက်သောအခါ လေဆိပ်တွင် အသင့် စောင့်နေကြသော ဗိုလ်တထောင်စေတီတော် ဂေါပကလူကြီးများနှင့် ရန်ကုန်မြို့မှကြိုဆိုရေးအဖွဲ့သားများက စိန်ဖူး တော်အား လှပစွာပြင်ဆင်ထားသော ကားကြီးကားငယ် အသွယ် သွယ်တို့ဖြင့် လည်းကောင်း၊ အတီး၊ အမှုတ်၊ အကအခုန် တို့ ဖြင့် လည်းကောင်း ရန်ကုန်လေဆိပ်မှ ဗိုလ်တထောင် စေတီတော်သို့ ကြီးကျယ်ခမ်းနားစွာ ပင့်ဆောင်ကြလေသည်။

၎င်းစိန်ဖူးတော်ကြီးမှာ သုံးတန်စေတနာ ပြဋ္ဌာန်းကာဖြင့် မိုးကုတ်မြို့နေ ဒေါ်အုံ၊ ဒေါ်ဖုံ၊ သား သမီး မြေးများက လှူဒါန်း သော နှစ်ပေါင်းများစွာ အဓွန့်ကြာမှ တစ်ခါတရံသာ ရရှိနိုင်သော ပမာဏအားဖြင့် အချင်းထိပ်ဝ (၅)လက်မ၊ လုံးပတ်တော် (၁၅) လက်မ၊ အမြင့်ဉာဏ်တော်(၁၈)လက်မ၊ အချိန်အားဖြင့် (၂)ပိဿာရှိ

မိုးကုတ်တွင်းထွက် ကျောက်မြတ်ရတနာစစ်ဖြစ်သော ကျောက် သလင်း စိန်ဖူးတော်ကြီးကို ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီး၏ ဦးစီး နှိုးဆော် ဆောင်ရွက်ချက်ဖြင့် [illegible]လ်တထောင် စေတီတော် ဂေါပက အဖွဲ့သို့ ပေးအပ် လှူဒါန်းလိုက်ပါသည်။

## မန္တလေးမြို့သို့ ကြွရောက် တရားချီးမြှင့်ခြင်း

စစ်ပြီးခေတ် ၁၃၁၆-ခုနှစ်တွင် သက်တော်(၅၅)နှစ် သိက္ခာ တော်(၃၅)ဝါ ရှိပြီဖြစ်သောအခါ ပရိယတ်စာပေ ပို့ချမှုကို မပြုတော့ဘဲ နေ့စဉ်အချိန်မှန် နေ့တရား ညတရားတို့ကို သူတော်ကောင်းတရား ခုနစ်ပါးတို့နှင့် မွေလျော်ကြသော တရားနာ ပရိသတ်တို့အား ခန္ဓာအရှိ, ဉာဏ်အသိနှင့် ကိုက်လေအောင် ဟောကြားတော် မူလေသည်။ ထိုအချိန်မှစ၍ ညောင်လေးပင်မြို့နှင့် မင်းကွန်း မိုးကုတ်ချောင်များသို့ မကြွတော့ဘဲ အမရပူရမြို့နှင့် မိုးကုတ်မြို့ (၂)မြို့တည်းသာ လှည့်လည်၍ တရားရေအေး အမြိုက်ဆေး တိုက်ကျွေးတော်မူလေသည်။

ထိုကဲ့သို့ အမရပူရမြို့ မင်္ဂလာတိုက်၌ ဓမ္မသဘင်ကြီး ဆင်ယင်ကျင်းပနေကြောင်း သတင်းကောင်းကို ကြားသိကြသော သူတော်စင်အပေါင်းတို့သည် နီး-ဝေး ရပ်ရွာ မြို့တကာမှ ကြားနာ ကျင့်ကြံအားထုတ်ရန် အစဉ်မပြတ်ရောက်ရှိခဲ့ကြလေသည်၊ ထိုသို့အားထုတ်ရန် ဦးစွာရောက်ရှိလာကြသော မန္တလေးမြို့မှ ပုဂ္ဂိုလ်ကြီးများမှာ ကုန်သည်ကြီးများဖြစ်သော ဦးထွန်းအောင်, ဦးလှ, ဦးထွန်းဦး, ဦးဝင်း, ဦးဘအုန်း, စီအီးအို—ဦးဘကြည်၊ သစ်စက်ပိုင်များဖြစ်ကြသော ဦးချစ်ခ,ဦးသာမြေး, ဦးစံရီ, ဦးဇံရင်၊ ပွဲစားကြီး ဦးသိုက်, စက်ရှင်မင်းကြီး ဦးကံလင်း, ရဲမင်းကြီးဟောင်း ဦးခင်မောင်တို့ ဖြစ်ကြပါသည်။

ထိုနောက် ကုန်သည်ကြီး ဦးထွန်းအောင် အကြောင်းပြု၍ နောက်ထပ် မန္တလေးမြို့မှ ရောက်ရှိလာကြသော ပုဂ္ဂိုလ်ကြီးများမှာ စခမ်းသာပွဲရုံပိုင်ရှင် ဦးချစ်ဆွေ၊ ရွှေမြင်းပွဲရုံပိုင်ရှင် ဦးထွန်းလှိုင်၊ လက်ဖက်ခြောက်ကုန်သည်ကြီး ဦးသင်း၊ ကုန်သည်ကြီး ဦးအုန်းခိုင်၊

ပွဲစားကြီးဦးပေါက်ကျော်၊ဘိ—အို စီ ဦးမောင်ကို စသည်တို့ ဖြစ်ကြ ပါသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ထိုကဲ့သို့သော သတ္တဝါ ဝေနေယျတို့အား တရားဓမ္မဟောပြောချီးမြှင့်တော်မူနေရာမှ ၁၃၁၆—ခု နှစ်တွင် မကျန်းမမာဖြစ်တော်မူလာ၍ တရားဟောမှုကိုခေတ္တရပ်ဆိုင်း ထားရလေသည်၊ အမရပူရမြို့မှ တကာရင်း, တကာမရင်းတို့က ကျေးဇူးတော်ရှင်ဆရာတော်ဘုရားကြီး၏ရောဂါကို ဆရာဝန်ကြီးများ ဖြင့် အထူးဂရုစိုက်၍ ကုသကြပါသည်၊ သို့ပါသော်လည်း မန္တလေးမှ ဆရာဝန်ကြီးများအား ပင့်ဆောင်ရာတွင် တစ်ခါတရံ အခက်အခဲ ရှိနေပါသဖြင့် စခမ်းသာ ပွဲရုံပိုင်ရှင် ပွဲစားကြီး ဦးချစ်ဆွေ— ဒေါ်ဒေါ်မတို့က မန္တလေးမြို့သို့ ပင့်ဆောင်ကာ ရွှေလုံရပ်ရှိ ၎င်းတို့ ပိုင် အိမ်ကြီး၏ အရှေ့ပိုင်းကို ကျောင်းအဖြစ်ဖြင့် သီတင်းသုံး၍ နေ နိုင်အောင် လှူဒါန်း၍ မန္တလေးမြို့မှ ဆရာဝန်ကြီးများနှင့် ကြပ်မတ် ကုသရာ မကြာမီပင် ကျန်းမာတော်မူလေသည်။

ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် ထိုသို့ ကျန်းမာတော် မူပြီးနောက် ဦးချစ်ဆွေ—ဒေါ်ဒေါ်မတို့နှင့်တကွ ရင်းနှီးသော ဒါယ ကာ ဒါယိကာမများအား တရားဓမ္မဟောကြား ဆုံးမတော်မူလေ သည်။ထိုနှစ်ကား သက္ကရာဇ် ၁၃၁၇-ခုနှစ်ဖြစ်၍ မန္တလေးမြို့တွင် ပထမဦးစွာတရားဟောတော်မူခြင်း ဖြစ်လေသည်။ တပည့်ဒါယကာ ဒါယိကာမများ၏ တောင်းပန်လျှောက်ထားမှုကြောင့် နောက်နှစ်များ တွင် နှစ်စဉ် နတ်တော်လမှ တပေါင်းလအထိ မန္တလေးမြို့သို့ ကြွ ရောက်ကာ တရားပွဲများကို ညစဉ်(၇)နာရီမှ (၈)နာရီအထိ ကျင်းပ ခဲ့သည်။ ဆရာတော်ဘုရားကြီးမှာ တရားဓမ္မဟောကြားရာတွင် ပြက တေ့ အောင်မြင်ပြတ်သားသော အသံ, တိကျရှင်းလင်းသော ဥပ မေယျဝတ္ထုပုံပြင်, ပါဠိမဘက်မြန်မာစကားသက်သက်ဖြင့် အဓိပ္ပာယ် ပေါ်လွင် ထင်ရှားအောင် ဟောပြောနိုင်စွမ်းရှိသောကြောင့် တရား နာ ပရိသတ်ကြီးမှာ တစ်ညထက်တစ်ည တစ်စတစ်စ များပြား လာရာ, အလွန်ကျယ်ဝန်းသော ခြံဝိုင်းကြီးနှင့် မဆံ့အောင့် စည် ကားခဲ့လေသည်။

ထိုတရားနာ ပရိသတ်အတွင်း၌ ဝန်ကြီး၊ ဝန်ကလေး၊စစ်ဘက် ရဲဘက်၊ နယ်ဘက်မှ အထက်တန်းပုဂ္ဂိုလ်ကြီးများစွာပင် ပါဝင်တရား နာကြကြောင်း တွေ့ရှိရပေသည်။ တရားနာလူထု၏ ယာဉ်၊ ရထား၊ ကားများမှာလည်း အဆမတန် များလေရကား ရှင်းလင်းစောင့်ကြပ် ပေးရန် ပော်တော်ယာဉ်ဌာနမှ ရဲအရာရှိများပင် တာဝန်ယူကာ ရှင်း လင်းစောင့်ကြပ်ပေးရပုံကို တွေ့ရှိရပါသည်။

## မင်္ဂလာ မဂ္ဂင်ရိပ်သာ ဖြစ်ထွန်း ပေါ်ပေါက်လာခြင်း

ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး၏ သီလ၊ သမာဓိ၊ ပညာ၊ သိက္ခာဂုဏ်သိရ် ကြီးမားကျော်ကြားလှသဖြင့် စာသင်သား သံဃာတော်များလည်း အထူး များပြားလှပေသည်။ မင်္ဂလာတိုက် အတွင်း၌လည်း ပုညကြိယာ ဆယ်ဖြာသောကုသိုလ်တို့၌ မွေ့လျော် ကြကုန်သော တကာ-တကာမတို့၏ မွန်မြတ်သောစေတနာ၊ထက်သန် သောဒါနဖြင့် ဆောက်လုပ် လှူဒါန်းကြသော ဇရပ်၊ တန်ဆောင်း၊ ကျောင်းကန်များဖြင့် မင်္ဂလာတိုက်ဝင်း အတွင်းဝယ် ကွက်လပ်ပင် မကျန်ရအောင် ပြည့်ညပ်လျက် ရှိလေသည်။ထိုတွင်းဝယ် ဆရာတော် ဘုရားကြီး၏ တပည့်ခံမှ အဆုံးအမ ခံယူလိုသော တရားအားထုတ် လိုကြသော သီလရှင်ပုဂ္ဂိုလ်၊ ယောဂီပုဂ္ဂိုလ်၊ တရားနာပရိသတ်များ ပါ များပြားလာသဖြင့် ဆရာတော်ဘုရားကြီး၏ ဆန္ဒတော်အရ မင်္ဂလာတိုက်အနီးတွင် မြေရာသစ်ကိုရှာဖွေ၍ သက္ကရာဇ် ၁၃၁၆– ခုနှစ်တွင် မန္တလေးမြို့ ပန်းဆိုးတန်းရပ် ရွှေမြင်း လက်ဖက်ခြောက် ပွဲရုံပိုင်ရှင် ဦးထွန်းလှိုင်၊ ဇနီး ဒေါ်သိန်း သားသမီးများနှင့် အမရ ပူရမြို့ အိုးတော်ရပ်၊ ဦးဘတုတ်၊ ဇနီး ဒေါ်ခင်ငြိမ်းတို့က ရိပ်သာ တည်ထောင်ရန်အတွက် မြေနေရာကို ပေါင်းစပ်လှူဒါန်းကြပြီး ၎င်း မြေပေါ်တွင် ဦးထွန်းလှိုင် ဇနီး ဒေါ်သိန်းနှင့်တကွ ဒါယကာ ဒါယိကာမအပေါင်းက ကမ္မဋ္ဌာန်းကျောင်းများနှင့် အကာအရံ အုတ်တံတိုင်းများကို ဆောက်လုပ်လှူဒါန်းကြပြီး 'မင်္ဂလာ မဂ္ဂင်ရိပ် သာ' ဟု အမည်နာမတပ်ကာ ဆရာတော်ကြီးအား ရေစက်သွန်းချ လှူဒါန်းကြလေသည်။

ရှင်းရိပ်သာအတွင်း၌ သီတင်းသုံးနေထိုင်ကြသော သီလရှင် ှ်ယောဂီပုဂ္ဂိုလ်များ သောက်သုံးရန်အတွက် ဦးထွန်းလှိုင်၊ ဒေါ် န်း သားသမီးများကပင် အဝီစိ ရေတွင်းတစ်တွင်း တူးဖော်ကာ တ်ကန်ကြီးနှင့်တကွ လှူဒါန်းကြလေသည်။

သက္ကရာဇ် ၁၃၁၇-ခုနှစ်တွင် မန္တလေးမြို့ ဝါးတန်းရပ် ခမ်းသာပွဲရုံပိုင်ရှင် ဦးချစ်ဆွေ-ဒေါ်ဒေါ်မ သားသမီးတစ်စုက ထို ပ်သာအတွင်း၌ ဓမ္မသဘင် ဆင်ယင် ကျင်းပရန် မီး၊ ရေ၊ ပန်ကာ ည့်စုံစွာနှင့် ဓမ္မာရုံကြီးတစ်ဆောင် ဆောက်လုပ်လှူဒါန်းလေသည်။

## စာရေးသူသည် ဆရာတော်ဘုရားကြီးထံ တရားအားထုတ်ရပုံ

မြန်မာသက္ကရာဇ် ၁၃၁၈-ခုနှစ် တော်သလင်းလဆန်း(၁၀)ရက်၊ အင်္ဂါနေ့၌ ကျွန်တော်သည် အင်းဝတံတားဦးမြို့မှ အရီးဖြစ်သူ ပွဲစားကြီး ဒေါ်သိန်းနှင့်အတူ သင်္ကန်းကပ်လှူရန် ဆရာတော်ဘုရားကြီးထံ သွားရောက်ဖူးမျှော်ခဲ့ရာ ဆရာတော်ဘုရားကကျွန်တော်အရီးနှင့်ခေတ္တမျှ အလာပ သလာပပြောပြီး ကျွန်တော့်အား ကြည့်လျက် 'မင်းလဲ မလာတာကြာပြီ၊ တရားအားထုတ်ဖို့ အချိန်တော်နေပြီ၊ အသေက ဦးသွားမယ်' ဟု မိန့်တော်မူပါသည်။ ကျွန်တော်ကလည်း လာရောက်တရားအားထုတ်မည့်အကြောင်း ပြန်လည်လျှောက်ထားပြီးနောက် တစ်နေ့တွင် ဆရာတော်ထံမှောက်သို့ ရောက်သွားပါတော့သည်။ ရောက်လျှင်ရောက်ခြင်းပင် ဆရာတော်ဘုရားကြီးက စတင်ကာ....

ဆရာတော်။ မင်း တရားအားထုတ်ဖို့ ရောက်လာပြီလား....။

စာရေးသူ။ မှန်လှပါ၊ တပည့်တော် တရားအားထုတ်ဖို့ ရောက်လာကြောင်းပါ ဘုရား....။

ဆရာတော်။ အေး မင်း တရားအားထုတ်ဖို့ကိစ္စကို မင်းရဲ့ သားမယား ဆွေမျိုးများက သဘောတူ ခွင့်ပြုရဲ့လား....။

စာရေးသူ။ ခွင့်ပြုကြပါတယ်ဘုရား....။

ဆရာတော်။ မင်းကကော တရားအားထုတ်လာတာ ဘာကြောင့်လဲ၊ ငါခေါ်လို့ လာရတာလား။

စာရေးသူ။ မှန်လှပါ၊ သံသရာဝဋ်မှ ကျွတ်လွတ်ချင်လို့ တရားအားထုတ်ရန် လာရောက်ရခြင်းပါဘုရား။

ဆရာတော်။ မင်းရဲ့စိတ်ကကော သဒ္ဓါထက်သန်ရဲ့လား။

စာရေးသူ။ တပည့်တော်စိတ်ကလဲ သဒ္ဓါထက်သန်ပါတယ် ဘုရား။

ဆရာတော်။ အေး.... ဒီလိုဆိုရင် မင်းရဲ့စိတ်ကို ဒီလိုဆုံးဖြတ်၊ငါသည် ရခဲလှသော လူ့ဘဝ၊ ကြုံကြိုက်ခဲလှသော ဘုရားသာသနာတော်ကြီးကို တွေ့ကြုံနေတဲ့ အချိန်အတွင်း ယခု ဆရာဘုန်းကြီးပေးမည့် ဝိပဿနာ အကျင့်မြတ်ကို ကျင့်ကြံအားထုတ်ရလို့ရှိရင် အို,နာ,သေ,မွဲ,ကွဲ ဆိုတဲ့ သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်တော့မယ်လို့ မင်းရဲ့ စိတ်စေတနာသဒ္ဓါ အလွန်ထက်သန် ရွှင်လန်းပြီး ဆရာသမားပေးတဲ့ အလုပ်ကို လုပ်တော့မယ်လို့ ဆုံးဖြတ်။

စာရေးသူ။ မှန်လှပါ ဘုရား။

ဆရာတော်။ မောင်ကျော်သိန်း မင်းရဲ့ စိတ်ကို ထပ်ပြောင်းလိုက်ပါအုန်း၊ မင်းရဲ့ အရောင်းအဝယ်အလုပ်အကိုင်ကို လုံးဝစိတ်မရောက်ရဘူး၊ ပစ္စည်းဥစ္စာနဲ့ သားမယားကို တစ်ခါတည်း ဉာဏ်နဲ့ စွန့်ပစ်ထားပါ။

စာရေးသူ။ မှန်လှပါဘုရား၊ စွန့်ပစ်ထားပါ့မယ် ဘုရား။

ဆရာတော်။ မင်း အဓိပတိ သုံးပါးကို အားထားပြီး တရား အားထုတ်ရမည်။

စာရေးသူ။ မှန်လှပါ၊ အဓိပတိ သုံးပါးဆိုတာ အဓိပ္ပာယ်ရှိပါ ဘုရား။

ဆရာတော်။ အေး... မှတ်ထား ငါပြောမယ်၊ အဓိပတိသုံးပါးဆိုတာ ...

(၁) မိမိကိုယ်ကို အားထားပြီး တရားအားထုတ်ရမယ်၊ ငါဟာ စားစရာမရှိလို့ တရားအားထုတ်နေတာ မဟုတ်ဘူး၊ နေထိုင်စရာမရှိလို့ တရားအားထုတ်နေတာ မဟုတ်ဘူး၊ ဆေးဝါးကုစရာမရှိလို့လဲ မဟုတ်ဘူး၊ အိုဘေး, နာဘေး, သေဘေး၊ မွဲ ကွဲဘေးတည်းဟူသော သံသရာဝဋ်ဆင်းရဲတို့မှ လွတ်မြောက် နိုင်အောင်လို့ တရားအားထုတ်ခြင်း ဖြစ်တယ်၊ အဲဒါ အတ္တာဓိပတိလို့ ခေါ်တာပဲ။

စာရေးသူ။ မှန်လှပါ ဘုရား။

ာတော်။ (၂) လောကကြီးကိုလဲ အဓိပတိထားပြီး တရား အားထုတ်ရမယ်၊ ငါသည် တရားအားထုတ်တယ်လို့ အမည်ခံပြီး တရားအားထုတ်ချိန်မှာ လောဘ–ဒေါသ–မောဟတရားတွေ ဖုံးလွှမ်းပြီး အရေးအဝယ်ကိစ္စတွေ စဉ်းစားတွေးတောပြီး မနေနဲ့၊ ထိန မိဒ္ဓ ဖြစ်လဲ မနေနဲ့၊ ပျင်းလဲမနေနဲ့ အိပ်ပျော်လဲမနေနဲ့၊ စိတ်ကလဲ လေလွင့်မနေနဲ့၊ မလျော်ကပ်တဲ့ အပြု အလုပ်မျိုး လုပ်နေရင် ကိုယ့်ကိုယ်စောင့်နတ်ကလဲသိတယ်၊ တခြား သမ္မာဒေဝ နတ်ကောင်းနတ်မြတ်များကလဲ သိတယ်၊ အဘိညာဉ်ရတဲ့ ပုဂ္ဂိုလ်များကလဲ သိကြတယ်၊ ဒါကြောင့် လောကကြီးကို ရှက်ကြောက်ပြီး လောကကို အဓိပတိထားပြီး အားထုတ်ရမယ်။

စာရေးသူ။ မှန်လှပါ ဘုရား....။

ဆရာတော်။ (၃) တရားတော်ကို အဓိပတိထားပြီး တရားအားထုတ်ရမယ်၊ တရားတော်ကို ရိုသေလေးစားပြီး ဝိပဿနာဉာဏ်နှင့် မမြင် မြင်အောင် ကြည့်ရမယ်၊ တရားမမြင်တာဟာ တရားမပေါက်ရောက်တာဟာ တရားကမရှိလို့ မဟုတ်ဘူး၊ ငါက တရားတော်ကို မလေးစားလို့ မမြင်တာလို့ ဆုံးဖြတ်ချက်ချပြီး တရားကို အဓိပတိထားပြီး

အားထုတ်ရမယ်၊ အဲဒါကို "ဓမ္မာဓိပတိ"လို့ ခေါ်တယ်။

စာရေးသူ။ မှန်လှပါ၊ အရှင်ဘုရားအမိန့်ရှိတဲ့ အဓိပတိသုံးပါးကို အဓိကထားပြီး တရားအားထုတ်ရင် ဒီဘဝမှာပဲ တစ်မဂ်တစ်ဖိုလ် ရနိုင်ပါ့မလား ဘုရား။

ဆရာတော်။ မင်း ပဥ္စာနန္တရိယ ကံကြီးငါးပါး မကျူးလွန်ခဲ့မိဘူး မဟုတ်လား၊ ရဟန္တာကော မင်း သတ်ဘူးသလား။

စာရေးသူ။ မသတ်ဘူးပါ ဘုရား။

ဆရာတော်။ အမိ အဖကော သတ်ဘူးသလား။

စာရေးသူ။ မသတ်ဘူးပါ ဘုရား။

ဆရာတော်။ သံဃာကော ဂိုဏ်းကွဲအောင် လုပ်ခဲ့ဘူးသလား။

စာရေးသူ။ မလုပ်ခဲ့ဘူးပါ ဘုရား။

ဆရာတော်။ အေး ဘုရားကိုတော့ ဒီအချိန်မှာ မရှိလို့ မမေးတော့ဘူး၊ ဒီကံတွေ လွတ်လို့ရှိရင် မင်း ကြိုးစားသာ အားထုတ်၊ အလွန်ဉာဏ်ထိုင်းရင် ခုနစ်နှစ် ဉာဏ်အလတ်စားဆိုရင် ခုနစ်လ၊ ဉာဏ်ထက်ရင် ခုနစ်ရက်နဲ့ ရနိုင်တယ်၊ အားမထုတ်ဘဲနဲ့တော့ မရနိုင်ဘူး၊ သဒ္ဓါ–သတိ–သမာဓိ–ဝီရိယ–ပညာနဲ့သာ ကြိုးစားပြီး လုပ်ရမယ်။

စာရေးသူ။ ။မှန်လှပါဘုရား၊ အမိန့်ရှိတဲ့အတိုင်း ကြိုးစားလိုက်နာပါ့မယ်။

ဆရာတော်။ ။အေး ဒီလိုဆိုရင် မင်း ရှစ်ပါးသီလ အမြဲယူထားလိုက်တော့။

မှတ်ချက်။ ဆရာတော်ဘုရားကြီးထံ အမြဲတမ်း သီလယူပြီးနောက် "ယုံကြည်ကျွန်းမာ, စိတ်ဖြောင့်စွာဖြင့်, လွန်စွာအားထုတ်, နာမ်နှင့်ရုပ်ကို, ဖြစ်ချုပ်ဉာဏ်မြင်, ဤငါးအင်မှန်ပင်,မဂ်ရကြောင်း"။

''ဖြစ်ပျက်သမျှ သင်္ခါရ,ဒုက္ခသစ္စာမှတ်,ဖြစ်ပျက်မှုတွင်, ငါကောင်ထင်, ခင်မင်သမုဒယ, ရုပ်နာမ်အားလုံး, ဖြစ်ပျက်သုဉ်း, ချုပ်ဆုံး နိဗ္ဗာန်မှတ်, ချုပ်ဆုံးမှုတွင်,ဉာဏ်သက်ဝင်, မဂ်ပင် အဟုတ်မှတ်''။

သူတော် ဆည်းကပ်, မြတ်တရားနာ, လျော်စွာကျင့်, မဂ်ဖိုလ်ခွင့်, ရလင့်ကေန်သာ။

ပဓာနအလုပ်, ကြိုးအားကုတ်, အဟုတ် ကျင့်ခါတွင်၊ ကာမ–ဗျာပါ, ဝိဟိံသာ, သုံးဖြာ ဝိတက်ပင်၊ဝိတက်ဝင်က, မိပတေဃျ, ခွင်းရ လက်နက်ပင်၊ မိပတိသုံးပါး,လက်ကိုင်ထား,တရားရမြန်လျှင်ဆိုသည့်ဆောင်ပုဒ်များကို အရကျက်မှတ်ရန် ပေးပြီးနောက် အဆိုပါ လက်ာ အနက်အဓိပ္ပာယ်အတိုင်း တိကျစွာ လိုက်နာဆောင်ရွက်ရပါသည်။



## ပဋ္ဌာကိစ္စ ငါးပါး

ဆရာတော်။ မင်း တရားအားထုတ်တဲ့အချိန်မှာ....

၁။ မင်းခန္ဓာကိုယ်ကို ဘုရားမှာ လှူထားလိုက်။

၂။ 'ငါသည် မိုက်မဲတွေဝေခဲ့သည့်အလျောက် ဆရာ,မိဘပုဂ္ဂိုလ်သူမြတ်တို့အား ကံသုံးပါးဖြင့် ပြစ်မှားမိသည်ရှိသော်, ထိုအပြစ်တို့မှ ပျောက်ပါစေခြင်း အကျိုးငှာ တောင်းပန်ဝန်ချကန်တော့ပါ၏'လို့ ရှိခိုးတောင်းပန် ကန်တော့လိုက်ပါ။

၃။ 'ကိုယ်စောင့်နတ်, အိမ်စောင့်နတ်, မြို့စောင့်နတ်, သာသနာတော်စောင့်နတ်များနှင့်တကွ ရှိရှိသမျှသက်ရှိသတ္တဝါတို့အား အသက်ထက်ဆုံး ဘေးမသီ ရန်မခို ကျန်းမာချမ်းသာ ရှိကြပါစေ'လို့ မေတ္တာစိတ်ကို ပြန့်ပွားပေးရမည်။

၄။ ‘ငါသည် ရှေးဘဝ ယခုဘဝ ပြုပြုသမျှ ငါ၏ဒါနစသော ကုသိုလ်တို့သည် ငါအလိုရှိအပ်သော မဂ်ဖိုလ်နိဗ္ဗာန်ကိုရခြင်း, ရောက်ခြင်းအကျိုးငှာ လျင်မြန်စွာကျေးဇူးပြုပါစေသတည်း’ လို့ အဓိဋ္ဌာန်ပြုပါ။

၅။ မရဏာနုဿတိ—ငါသည် ဘဝများစွာ ခန္ဓာ ပျက်ကြွေသေခဲ့ရသည့်ဘဝတွေ များလှပေပြီ၊ ယခုဘဝမသေခင် အသေက မဦးခင် ‘တရားကိုအားထုတ်မှ’ပဲလို့ အားထုတ်မှုကို အရှိန်ပြင်းထန်လာအောင် မိမိကိုယ်ကို တိုက်တွန်းပါ၊ သဘော ပေါက်ကဲ့လား။

စာရေးသူ ။ မှန်လှပါ ဘုရား။

ဆရာတော်။ မင်း ရုပ်နာမ်ကော ခွဲတတ်ကဲ့လား။

စာရေးသူ ။ စာ သိလောက်ပဲ ရှိပါတယ်ဘုရား။

ဆရာတော်။ အေး—အေး ငါပြောပြမယ်၊ မင်း,မြင်စရာ အဆင်းနဲ့ မြင်တဲ့မျက်စိက ရုပ်၊ သိမှုက နာမ်လို့ခေါ်တယ်၊ ‘စက္ခု၊ သောတ၊ ဃာန၊ ဇိဝှာ၊ ကာယ၊ မန’ဆိုတဲ့ ဒွါရ ၆ ပါးမှာလည်း အဲဒီလိုပဲ ရုပ်နဲ့နာမ်ဟာ အမြဲတွဲနေတာပဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ (၁) ဉာတ ပရိညာ—ဖြစ်ဆဲ ရုပ်နာမ်ကို ဒီဟာကရုပ်, ဒီဟာက နာမ်ဆိုတာ ခွဲခြားပြီး သိသိသွားရမယ်။
(၂) တီရဏပရိညာ—ဖြစ်ဆဲ ရုပ်နာမ်တို့ရဲ့ အနိစ္စ,ဒုက္ခ, အနတ္တ ပိုင်းခြားပြီး သိရမယ်။
(၃) ပဟာနပရိညာ—ရုပ်နာမ်တို့ အပေါ်မှာ ငါ့ရုပ်တဏှာစွဲ ရုပ်ဟာ ငါပဲဆိုတာ မာနစွဲ၊ ဒီရုပ်ဟာ ငါ့ကိုယ် ဆိုတာ ဒိဋ္ဌိစွဲ၊ ဒီအစွဲတွေကို မင်းသိအောင် လုပ်ပြီး ပြုတ်အောင် ဖြုတ်ရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ။မင်း ရုပ်နာမ်ကို ပိုင်းခြား ရမယ်၊ ပြီးတော့ ဈာန်လမ်းကို မလိုက်ဘဲနဲ့ ဒီခန္ဓာဝဋ်ကြီးကကျွတ်ချင် လွတ်ချင်လို့ မဂ်ဖိုလ်ကို လိုချင်တဲ့ယောဂီဟာ သမာဓိ ရလောက်ရုံ သမထကိုထူထောင်ပြီး သမာဓိရလာတာနဲ့ ဘစ်ပြိုင်တည်း ဝိပဿနာကိုပြောင်းပြီး လုပ်ရမယ်။

စာရေးသူ။ မှန်ပါဘုရား။

ဆရာတော်။ ဝိပဿနာကို ပြောင်းတယ်ဆိုတာ မီးရထားခေါင်းတွဲ လမ်းလွှဲလိုက်သလို သမာဓိလမ်းကဝိပဿနာပညာလမ်းကို စိတ်ညွှတ်ပြီး ရုပ်နာမ်တို့ရဲ့ ဖြစ်ပျက်နေတဲ့လက္ခဏာကို ဆင်ခြင်တာပါပဲ၊ ဒါ ဉာဏ်က ဦးစီးတာနော် မှတ်ထား။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ မင်း အာနာပါန ကမ္မဋ္ဌာန်းကိုအရင်လုပ်ပါ၊ အာနာပါနဆိုတာ "ထွက်လေ ဝင်လေ"ကို ခေါ်တယ်၊ ဒီထွက်လေဝင်လေကို ရှူရမှာလေကိုဝအောင်ရှူ၊ လျှော့ပြီးလဲ မရှူရဘူး၊ သိပ် ပြင်းပြင်းထန်ထန်လဲ မရှူရဘူး၊ မှန်မှန်ဘဲ ရှူရှိုက်ရမယ်၊ထွက်လေကိုလဲ မှန်မှန်ထုတ်ပါ။

စာရေးသူ။ မှန်လှပါ ဘုရား။

ဆရာတော်။ မင်းစိတ်ကို နှာသီးဖျား အထက်နှုတ်ခမ်း၊ ရင်ညွန့်ကြိုက်ရာ တစ်နေရာမှာ ထားပါ၊ သတိနဲ့ ကပ်ထားရမယ်၊ မလစ်စေရဘူး၊ နှာသီးဖျားမှာ ထားတာက ပိုကောင်းတယ်၊ (အာနာပါန) ရှူရှိုက်တဲ့ အခါမှာ နှာသီးဖျားမှာ ထိတာကို သိရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ **အာနာပါနာနုဿတိဆိုတာ ထွက်သက် ဝင်သက် လေကို အာရုံပြု၍ဖြစ်သော သတိကိုခေါ်တယ်၊ ဒီအာနာပါနာနုဿတိကို ပွားများအားထုတ်နေတဲ့ ယောဂီဟာ စိတ်ကို သန်သန်ခိုင်ခိုင်ထားပြီး ထွက်လေ ဝင်လေကို မနှေးမမြန် မပျော့မပြင်း ရှုရှိုက်လျက် ပထမ စိတ်ကို (နှာခေါင်းပေါက်မှာ) နှာသီးဖျားမှာ ထားရမယ်၊ သတိနဲ့ လေ ဝင်ထွက်နေတာကို သိရမယ်။**

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ **သူ့သဘောအတိုင်း မှန်မှန် ထွက်သက် ဝင်သက်ကို သိနေတဲ့ အာရုံမှတစ်ပါး ဘာတစ်ခုမှ အာရုံမပြုရဘူး။**

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ အာနာပါန လုပ်ပြီး သမာဓိ အားကောင်းလာတဲ့ ယောဂီဟာ သူ့ငါ့ယောကျ်ား မိန်းမ မဟုတ်၊ သတိနဲ့ ယှဉ်ပါ၊ ရုပ်နာမ်နှစ်ပါး ခန္ဓာငါးပါး ဆိုတာလဲ သိနေရမယ်၊ ဒီလိုသိပြီးရင် သတိနဲ့ ယှဉ်တဲ့ စိတ်ဟာ နာမ်ပါလားလို့ သေသေသေ ချာချာ ထပ်ပြီး သိရမယ်၊ ဒီနာမ်ရဲ့မှီရာဟာ (ဟဒယဝတ္ထု) နှလုံးအိမ်ပဲ၊ အာနာပါန အလုပ်တရား ထိုင်နေတာက ရုပ်ပဲလို့ ဟုတ်တိုင်း မှန်ရာကို ထပ်ပြီး သိလာလိမ့်မယ်၊ ဒီလို ရုပ်နာမ် နှစ်ပါး ပိုင်းခြားပြီးရင် (၁) ရုပ် ၂၈ ပါးသည်ကား ရူပက္ခန္ဓာ၊ (၂) သိစိတ်ကား ဝိညာဏက္ခန္ဓာ၊ (၃) ဝေဒနာ စေတသိက် သတိစိတ်နဲ့ ယှဉ်တဲ့ ခံစားမှုကား ဝေဒနက္ခန္ဓာ၊ (၄) သညာ စေတသိက်၊ မှတ်သားမှုကား သညာက္ခန္ဓာ၊ (၅) သတိနှင့်တကွ ဝေဒနာ သညာမှ ကြွင်းသော ဖဿ စေတနာ စသော စေတသိက်(၅၀)ကား သင်္ခါရက္ခန္ဓာဟု ဟုတ်တိုင်း မှန်ရာ သိရလိမ့်မယ်။

စာရေးသူ။ မှန်လှပါဘုရား။

ရာတော်။ မင်းကို အာနာပါနနှင့် ရုပ်နာမ်နှစ်ပါး ခန္ဓာငါးပါး အကြောင်းတို့ကို ထခြား ယောဂီတွေလို တောက်လျှောက်ပြောရုံနဲ့ သိမှာမဟုတ်ဘူး။

ာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ နောက်ထပ် ပဋိစ္စသမုပ္ပါဒ်နည်းနဲ့လဲ အကြောင်း အကျိုးခွဲပြီး ဒိဋ္ဌိခွာရအုံးမယ်၊ ခုပြောခဲ့တာတွေ နားလည်ရဲ့လား။

ာရေးသူ။ မှန်ပါ၊ တော်တော်လေး သဘောပေါက်ပါပြီဘုရား။

ဆရာတော်။ အေး....ဒီလို သိမှုကို အရင်ပေးပြီးမှ အလုပ်ကို ပေးလို့ဖြစ်မယ်။

စာရေးသူ။ မှန်လှပါဘုရား။

**ဆောင်ပုဒ် မှတ်ချက်**။ ဖောက်ပြန် ခံစား, မှတ်သား ပြုပြင်, သိဝိညာဉ်, ငါးအင် ခန္ဓာမှတ်။

ဆရာတော်။ အဲဒီလို ခန္ဓာငါးပါး ပိုင်းခြား သိမြင်ပြီးလျှင် ရုပ်နာမ် ခန္ဓာ ဖြစ်စေတတ်တဲ့ ရှေးဖြစ်ပြီးတဲ့ အဝိဇ္ဇာ တဏှာ တို့ဟာ (အကြောင်းတရား)၊ ဒီ ရုပ်နာမ် ခန္ဓာတို့ဟာ (အကျိုးတရား)လို့, အကြမ်းအားဖြင့် မင်း သိမြင်ရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ကဲ– မင်း တရားအားထုတ်ဖို့ ကမ္မဋ္ဌာန်း တောင်း, လိုက်ဆို။

**ကမ္မဋ္ဌာန်းတောင်း**

ကမ္မဋ္ဌာနံ မေ ဘန္တေ ဒေထ သံသာရဝဋ္ဋ ဒုက္ခတော မောစနတ္ထာယ။

"ဘန္တေ– အရှင်ဘုရား၊ မေ– တပည့်တော်တို့အား၊ သံသာရဝဋ္ဋ ဒုက္ခတော မောစနတ္ထာယ–သံသရာ ဝဋ်ဆင်းရဲမှ ကျွတ်လွတ် ထွက်မြောက် ပါစေခြင်း

အကျိုး၄၊ ကမ္မဋ္ဌာန်း—မဂ်ဉာဏ်ဖိုလ်ပေါက် နိဗ္ဗာန် ရောက်ကြောင်း အကောင်းဆုံးဖြစ်တဲ့ ကမ္မဋ္ဌာန်း တရားကို၊ ဒေထ—ကရုဏာရှေးရှု ပေးသနားတော်မူပါ ဘုရား။" ၃ ခေါက်ဆိုပါ။

ဆရာတော်။ ကဲ—မင်းအခု (၇)နာရီရှိပြီ၊ (၉)နာရီအထိ ငါသင်ပြ ထားသလို အာနာပါန ကမ္မဋ္ဌာန်းကို သွားပြီး အား ထုတ်ချေတော့။

စာရေးသူ။ မှန်လှပါဘုရား။

ကျွန်တော်သည် ဆရာတော်ဘုရားအား ဝတ်ချကာ ကျွန်တော့် အတွက် နေထိုင်ရန် ခွင့်ပြုထားသော ဆရာတော် သိတင်းသုံးသည့် အခန်းခြေရင်းဘက်ရှိ ကျွန်တော့်နေရာသို့ ပြန်လည်၍ တရားအား ထုတ်ခြင်းကို အစပြုရပါတော့သည်၊ ကျွန်တော်လဲ ဆရာတော် အမိန့် ရှိသည့်အတိုင်း အာနာပါနကို ကြိုးစားအားထုတ်သော်လည်း ပထမ နာရီဝက်လောက်အထိ စိတ်ထိန်း၍ မရပါ၊ ဆရာတော်အား ဝတ်ဖြည့် နေကြသည့် ဦးလှဘူး၊ ဦးတင်၊ ဆေးဆရာ ဆရာညိုတို့အား ဆရာတော် ဘုရားက ဆုံးမစကားပြောနေသည့် အသံများသာ ကြားနေရပါ သည်၊ ဝတ်ပြုနေသူ ဆေးဆရာ ဆရာညိုက တောင်သာဆေးကျမ်း အကြောင်းကို လျှောက်ထားနေစဉ်, မေတ္တာ၏အစွမ်းက ဆေးထက်ပင် စူးရှပုံများကို အမိန့်ရှိသောအခါ ကျွန်တော် ဘယ်လိုမှ စိတ်ကို မထိန်း သိမ်းနိုင်ဘဲ အဝေးသို့သာ လုစ်ခနဲ လုစ်ခနဲ ပျံ့လွင့်နေပါသည်၊ ထိုအခါ ဆရာတော်ဘုရားက ဝတ်ဖြည့်ခြင်း ခံတော်မူရာမှ....

"မောင်ကျော်သိန်း မင်း သတိလက်လွတ်ထားတာကိုး၊ မင်း စိတ်ကို တည်အောင်ထား" ဟု လှမ်း၍ ဆုံးမလိုက်ရာ ကျွန်တော့်မှာ ထိတ်ခနဲ တုန်လှုပ်သွားပါတော့သည်၊ ကျွန်တော် အားထုတ်နေသည့် နေရာမှာ ဆရာတော် သိတင်းသုံးသည့်အခန်း တစ်ခုလုံး ခြားနေပါ လျက် ကျွန်တော့်စိတ်က အာရုံပေါင်းစုံရှိနေရာက် လိုက်၍ ပျံ့လွင့်နေ သည်ကို ဆရာတော်က မည်ကဲ့သို့ သိလိုက်သည်ဟု အဲဒီအချိန်က မစဉ်းစားတတ်ပါ၊ ကြက်သီးများပင် ထမိပါသည်၊ သည့်နောက်ပိုင်း

ဘာ့ စိတ်ကို အလစ်မပေးရဲတော့ပါ၊ ထွက်လေ ဝင်လေကို မှန်မှန် တိနဲ့ထားပြီး အားထုတ်နေရပါသည်၊ ဝီရိယကိုလည်း မြှင့်တင်ပြီး တိမလွတ်အောင် ကြိုးစားရပါသည်၊ အချိန် မည်မျှ ကြာသည် သိရ၊ ဦးလှဘူး လာခေါ်မှ (၁၀)နာရီ ထိုးပြီဖြစ်ကြောင်း သိရပြီး ဆရာတော်ရှေ့မှောက်သို့ ရောက်ခဲ့ရပါသည်။

**ဆရာတော်။** မောင်ကျော်သိန်း၊ မင်း ငါခိုင်းတဲ့အတိုင်း အားထုတ် ကဲ့လား။

**စာရေးသူ။** မှန်လှပါ၊ ဆရာတော်အမိန့်ရှိတဲ့အတိုင်း စိတ်ကို သတိနဲ့ ယှဉ်ပြီး ရင်ညွန့်မှာထားပြီး အားထုတ်ပါတယ်ဘုရား။

**ဆရာတော်။** ထားတဲ့ နေရာမှာကော နေရဲ့လား။

**စာရေးသူ။** မှန်လှပါ၊ ပထမ (၁)နာရီလောက်မှာ မနေပါဘုရား၊ နောက်ပိုင်းအချိန်ကျမှ နေပါတယ်ဘုရား။

**ဆရာတော်။** အဲဒီလို အာနာပါနကို အားထုတ်တာတစ်နာရီလောက် သမာဓိရတယ်ဆိုတာ ဇွဲမရှိဘဲနဲ့လဲ ဒီတစ်နာရီလောက် မထိုင်နိုင်ဘူး၊ အဲဒါ ဝီရိယပေါ့၊ ဒီဝီရိယကြောင့် တစ် နာရီလုံးလုံး ထိုင်နိုင်တာဟာ "သမ္မာဝါယာမ" လို့လဲ ခေါ်တယ်၊ မင်းစိတ်က လေကို ရှူတိုင်းရှူတိုင်း ရင်ညွန့် ကို ရောက်တိုင်းရောက်တိုင်း သိရဲ့လား။

**စာရေးသူ။** သိပါတယ်ဘုရား။

**ဆရာတော်။** အေး.... မင်း သိ-သိနေတယ်ဆိုတာက သတိကို လက် မလွှတ်လို့ သိတာ၊ အဲဒါ "သမ္မာသတိ"လို့ ခေါ်တယ်။

**စာရေးသူ။** မှန်လှပါဘုရား။

**ဆရာတော်။** မင်း အာနာပါန အားထုတ်နေတုန်း မင်းစိတ်ဟာ အိမ်ကို ရောက်နေသလား၊ ဘယ်ကို ရောက်နေသလဲ။

**စာရေးသူ။** ဘယ်မှ မရောက်ပါဘုရား၊ စိတ်ဟာ ထားသည့် ရင်ညွန့် မှာပဲ ရှိပါတယ်ဘုရား။

ဆရာတော်။ အေး.... အာရုံဟာ အခြားတစ်ပါးသို့ ပြေးမသွားတာက သမ္မာသမာဓိလို့ ခေါ်တယ်၊ စိတ်က ကိုယ်ထားတဲ့နေရာမှာ တည်နေတာပေါ့။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ အေး....မင်း သမာဓိတော့ရပါပြီ၊ ဒါပေမယ့် ဒါထက် သမာဓိ ကောင်းကောင်းကြီး ရဖို့ အားထုတ်ရန် လိုနေသေးတယ်၊ ထွက်လေ ဝင်လေ ရှူတဲ့အခါ နှာခေါင်းကပဲ ရှူရမယ်၊ ပါးစပ်က မရှူရဘူး၊ နှာခေါင်းကရှူပြန်ရင်လဲ ဘယ်ဘက်က ရှူတယ်၊ ညာဘက်က ရှူတယ်ဆိုတာတွေ လိုက်နေဖို့ မလိုဘူး၊ သမာဓိရဖို့ပဲအရေးကြီးတယ်၊ တခြား သမထလမ်းတွေကို လိုက်စရာ မလိုဘူး၊ သမာဓိရဖို့ပဲ အရေးကြီးတယ်၊ နှာခေါင်းက ရှူရင် ရှူတာ သိရမယ်၊ ရှိုက်ရင် ရှိုက်တာ သိရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ မင်းကို ပဌမအာနာပါန အားထုတ်ခိုင်းစဉ်က စိတ်ကို ရင်ညွန့်မှာ အကပ်ခိုင်းထားတယ်၊ အခုတစ်ခါ အားထုတ်ရမှာက (နှာသီးဖျား, ရင်ညွန့်, ချက်) ရောက်တိုင်း ရောက်တိုင်း ဝင်လေ ရှူလိုက်တဲ့အခါမှာ နှာသီးဖျားအစ၊ ရင်ညွန့်အလယ်၊ ချက်အဆုံး။ ထုတ်လိုက်တဲ့အခါမှာလဲ ချက်အစ၊ ရင်ညွန့်အလယ်၊ နှာသီးဖျားအဆုံး ထွက်တာကို သိလိုက်ရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ပွတ်ကြိုးဆွဲ ယောကျ်ား,ဖိုထိုးသမားများလို ထွက်သက် ဝင်သက် လေကို သိနေရမယ်၊ မြန်မြန် ရှူရှိုက်ရင် မြန်တာ သိရမယ်၊ ဖြည်းဖြည်းရှူရှိုက်ရင် ဖြည်းဖြည်းရှူမှန်း သိရမယ်၊ တိုရင် တိုတာ သိရမယ်၊ ရှည်ရင် ရှည်တာ သိရမယ်၊ ဒါပေမယ့် လေဝင်ထွက်တာ

အတန်းလိုက် လိုက်ပြီး ရှုစရာ မလိုဘူး၊ လှုတိုက်ယောကျ်ားလို (လှုသွား) သွားရာကို လိုက်မရှုဘဲ လှုသွား ထိရာကိုသာ စိတ်ထားသည့် နေရာကိုသာ (နှာသီးဖျားမှာထားရင် နှာသီးဖျားကိုသာ)ထွက်လေ ဝင်လေ သိရမယ်၊ ရှုရမယ်။

ဒါရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီလို အားထုတ်ပြီး အသိလိုက်သွားရင် အာရုံ တခြားထွက်မသွားဘဲ သမာဓိကောင်းကောင်းကြီး ရနိုင်တယ်၊ နောက် အလေ့အကျင့် ကောင်းကောင်း ရသွားရင် (၁၅)မိနစ်လောက်နဲ့ သမာဓိ ထူထောင်နိုင်ရမယ်။

ဒါရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ မင်း သိဖို့ရာက....၊ မင်း.... အခု ရှူရှိုက်နေတာက ရုပ်၊ ဒီ ရှူရှိုက်နေတာကို သိတာက နာမ်၊ အဲဒီလို ရုပ်နာမ် နှစ်ပါး ပိုင်းခြားသိတဲ့အခါ နာမရူပပရိစ္ဆေဒဉာဏ်၊ ဝိသုဒ္ဓိလို ပြောရရင် ဒိဋ္ဌိဝိသုဒ္ဓိ တစ်ပေါင်းတည်း ဖြစ်လာတယ်၊ မြဲမြဲမှတ်ထားနော်။

စာရေးသူ ။ မှန်လှပါ ဘုရား။

ဆရာတော်။ မင်း ကမ္မဋ္ဌာန်း ဝင်တဲ့အခါမယ် သတိထားဖို့ရာက....

(၁) အာရုံနဲ့ သိမှတ်တဲ့ စိတ် ၂ မျိုး မှတ်ထားရမယ်။

(၂) အာရုံနဲ့သိမှတ်စိတ်ဟာ တည့်တည့်နေအောင် ရှုရမယ်။

(၃) အာရုံထဲက စိတ် ထွက်မသွားအောင် သတိပြုရမယ်။

(၄) ကမ္မဋ္ဌာန်းဝင်တဲ့အခါ စိတ်က ဘာတစ်ခုမှ မစဉ်းစားနဲ့၊ ဘာအာရုံမှ ဝင်မလာစေနဲ့၊ မင်းဟာ စိတ်တစ်လုံးကို နိုင်အောင်ဆုံးမနိုင်ရင် ကိလေသာ နုနာ အမြစ်ပြတ်နိုင်တယ်၊ စိတ်တစ်လုံး မနိုင်ရင်တော့ လောကီအလိုလဲ

မင်း ချမ်းသာရာရမှာ မဟုတ်ဘူး၊ လောကုတ္တရာအလို နဲ့လဲ ထောင့်ငါးရာ ကိလေသာနူနာ အမြစ်ပြတ်မှာ မဟုတ်ဘူး။

**စာရေးသူ။** မှန်လှပါ ဘုရား။

**ဆရာတော်။** မင်းစိတ်ကို နိုင်အောင် ဒီလိုဆုံးမ၊ ငါ ဥပမာပြမယ်၊ (၁) နွားကျောင်းသားဟာ နွားရိုင်းကို ဆုံးမချင်ရင် ချည်တိုင်ကို ခိုင်ခိုင်စိုက်, နွားရိုင်းကို နဖားကြိုးထိုး၊ ချည်တိုင်မှာ မြဲမြဲချည်ပြီး ဆုံးမသလိုပဲ မင်းရဲ့ကမ္မဋ္ဌာန်း အာရုံတည်းဟူသော ချည်တိုင်မှာ နွားရိုင်းနဲ့တူတဲ့ စိတ် ရိုင်းကို ကြိုးနှင့်တူသော သတိတရားဖြင့် တင်းတင်း ကျပ်ကျပ် ချည်ပြီး ဆုံးမရမယ်၊ မင်းစိတ်ကို ဒီအတိုင်း ဆုံးမ၊ ဆုံးမတတ်ပြီလား။

**စာရေးသူ။** မှန်လှပါ ဆုံးမနိုင်ပါလိမ့်မယ် ဘုရား။

**ဆရာတော်။** (၂) ကဲကွာ.... မင်းကို နောက်တစ်မျိုး ထပ်ပြောရ အုံးမယ်။

အပေါက်ခြောက်ပေါက်ရှိတဲ့ တောင်ပို့ကြီးမှာ ရှိနေတဲ့ ဖွတ်သတ္တဝါတစ်ကောင်ကို အမိဖမ်းချင်ရင် အပေါက် ငါးပေါက်ကို လုံအောင်ပိတ်လိုက်ပါ၊ ကျန်နေတဲ့ တစ် ပေါက်ကနေပြီး စောင့်ဖမ်းရင် ဒီဖွတ်ကို အမှန်ဖမ်းမိ သလို၊ မင်းရဲ့ နား မျက်စိ နှာခေါင်း ကိုယ် လျှာ အစရှိတဲ့ ငါးပေါက်ကိုပိတ်ပြီး ကျန် မနောစိတ်ဆိုတဲ့ အပေါက်က စောင့်ဖမ်း၊ မင်းရဲ့ ဖွတ်နဲ့တူတဲ့ စိတ်ကို မိရောပေါ့၊ ရှင်းရဲ့လား။

**စာရေးသူ။** မှန်လှပါ ရှင်းပါပြီဘုရား။

ကဲ-ကဲ.... မင်း ဒါတွေထားပါဦး, သမာဓိကိုပဲ ကောင်းကောင်း ရအောင် ထပ်ပြီး အားထုတ်ချေဦး, ပြီးရင် အိပ်တော့ဟု အမိန့်ရှိလိုက်

ြင့် ကျွန်တော်မှာ ဆရာတော်အား ဦးချကာ တစ်ဖန်ထပ်၍ းထုတ်ရပြန်ပါသည်။

နောက်တစ်နေ့ တော်သလင်းလဆန်း (၁၃) ရက်နေ့ နံနက် ာ်တက် (၅) နာရီအချိန်တွင် ဆရာတော်ဘုရားကြီးအား ဝတ်ပြု းက ယာဂုဆက်ကပ်ပြီးနောက် တရားအားထုတ်သူများအား တော်က အသီးသီး တရားများစစ်မေးတော်မူလေသည်။ အခြား ာ ယောဂီပုဂ္ဂိုလ်များမှာ တရားအတော်အတန် ပေါက်ရောက်ပြီး သဖြင့် ဆရာတော်မေးသမျှကို ပြန်၍လျှောက်ထားကြပြီးနောက် တော့်အလှည့်သို့ ရောက်သောအခါ တစ်ခါမှ တရားအားထုတ် မဟုတ်၍ အထူးဂရုစိုက်ပြီး စစ်ဆေးမေးမြန်း၍ စိတ်ရှည် ာ်ရှည် ရှင်းလင်းအောင် မိန့်တော်မူသည်မှာ....

ဆရာတော်။ မောင်ကျော်သိန်း မင်း မနေ့ညက ဘယ်အချိန်ကစပြီး တရားထိုင်သလဲ, ဘယ်အချိန်မှာ တရားချသလဲ။

ရေးသူ ။ တပည့်တော် (၁၁) နာရီခွဲက တစ်နာရီအထိ ထိုင်ပါတယ် ဘုရား။

ဆရာတော်။ သမာဓိကော ကောင်းကောင်းရရဲ့လား။

ာရေးသူ ။ မှန်လှပါ, သမာဓိ ခပ်ကျဲကျဲပဲ ရပါတယ်ဘုရား။

ဆရာတော်။ ဘာကြောင့် ခပ်ကျဲကျဲပဲရပြီး တန်းခံနေရသလဲ။

ာရေးသူ ။ မှန်လှပါ, ထိန မိဒ္ဓ ဝင်ပါတယ်ဘုရား။

ဆရာတော်။ မင်း တယ်ချော်တာကိုး၊ အဲဒါ မင်း ဝီရိယလွန်တာပဲ၊ ဝီရိယလွန်တော့လဲ ထိန မိဒ္ဓ ဝင်တာပဲ၊ အဲဒီအချိန် မင်း ထိုင်တဲ့ ဣရိယာပုထ်ကို ဖျက်ပြီး လမ်းလျှောက်ရင်း အားထုတ်ရတယ်။

ာရေးသူ ။ မှန်လှပါ ဘုရား။

ဆရာတော်။ အာနာပါနကမ္မဋ္ဌာန်း အားထုတ်စ ယောဂီများအတွက်တော့ ဣရိယာပုထ် ပြောင်းနိုင်ပါတယ်၊ နောက် သမာဓိအားကောင်းလာတော့ ဣရိယာပုထ် မပြောင်းဘဲ ထိန မိဒ္ဓ ဝင်လာရင် နိုင်အောင်ရှုနိုင်ရမယ်။

စာရေးသူ ။ ဘယ်လိုလုပ် ရှုရမှာလဲဘုရား၊ အိပ်ချင်လာရင် ဣရိယာပုထ် မဖျက်ဘဲနဲ့ မရှုတတ်ပါဘူး။

ဆရာတော်။ မင်း အိပ်ချင်လာတော့ အသက်ရှူမြန်ပြီး ပြင်းလာသလား, နှေးပြီး ပျော့လာသလား။

စာရေးသူ ။ နှေးပြီး ပျော့လာပါတယ် ဘုရား။

ဆရာတော်။ အေး.... အသက်ရှူနှေးလာပြီး ငိုက်လာမယ်၊ ငိုက်လာလို့ရှိရင် သတိရှိသေးသလား, သတိလက်လွှတ် နေပါသလား။

စာရေးသူ ။ သတိလက်လွှတ်နေပါတယ်ဘုရား။

ဆရာတော်။ "သော သတောဝ အဿသတိ, သတောဝ ပဿသတိ" လို့ မဟာသတိပဋ္ဌာနသုတ်မှာ ဟော တော် မူ တယ်၊ အာနာပါနကို အားထုတ်သော အာဒိကမ္မိကယောဂီ ပုဂ္ဂိုလ်ဟာ သတောဝ--သတိရှိ၍သာလျှင် သတိ ပညာနှင့် သိလိုက်၍သာ၊ အဿသတိ—ထွက်သက် ရှူရမည် သတောဝ—သတိရှိ၍ သာလျှင်၊ ပဿသတိ—ဝင်သက် ရှိုက်ရမည်တဲ့၊ မင်းက သတိလက်လွှတ်တော့ တရား အားထုတ်နေတဲ့လူ မဟုတ်တော့ဘူး၊ "သတိ အဝိဟန္တော" သတိကို ဘယ်အခါမှ လက်မလွှတ်ရဘူး။

စာရေးသူ ။ တပည့်တော် သတိလက်လွှတ်နေပါတယ်ဘုရား။

ဆရာတော်။ တစ်ဖန် ဝင်လေကို ဝအောင်ရှူ, ရှူသလောက်ထွက်သက်ကို ထုတ်ပစ်၊ ဒီနည်းနဲ့ လုပ်မယ်ဆိုရင် သိပ်မပင်ပန်းဘဲနဲ့ ထိန မိဒ္ဓရော ဝိဘက်ပါ ငြိမ်းမယ်၊ သတိ

တော့ ဘယ်တော့မှ လက်လွှတ်လို့မရဘူး၊(၁၀)မိနစ် (၁၅) မိနစ်လောက်လုပ်ရင် ရနိုင်ပါတယ်။

စာရေးသူ ။ မှန်လှပါဘုရား,သိပါပြီဘုရား။

ဆရာတော်။ နောက်တစ်ခုလဲ မင်းစိတ်ဆိုးနေတဲ့အခါ အသက်ရှူတာ ရှူးကဲ ရှူးကဲနဲ့ မြင်းပြီး မြန်မလာဘူးလား။

စာရေးသူ။ မှန်လှပါ, မြင်းပြီး မြန်လာပါတယ် ဘုရား။

ဆရာတော်။ အေး—ဒါ ဘာ့ကြောင့် အသက်ရှူ မြင်းပြီး မြန်လာတာလဲ။

စာရေးသူ ။ မလျှောက်တတ်ပါဘုရား။

ဆရာတော်။ မောင်ကျော်သိန်း မှတ်ထား, မင်း ဒေါသဖြစ်နေတဲ့ အချိန်မှာ နှလုံးသွေးဟာ နိုရဲပူဆူလာပြီး ဒီနှလုံးဟာ အကြိမ်များများ အလုပ်လုပ်ရတော့ (ဓောဇောခုတ်) ခွန်အားခတ်လိုလာလေလေ အသက်မြင်းမြင်း ရှူပေးရလေလေပဲ။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ကဲ—မင်းဒေါသလဲ ပြေသွားရော မင်းရဲ့ ကိုယ်ခန္ဓာကြီးဟာ ကိုယ်ပစ် လက်ပစ်ဖြစ်ပြီး မောဟိုက်မသွားဘူးလား။

စာရေးသူ ။ ကိုယ်ပစ် လက်ပစ် ဖြစ်ပြီး မောဟိုက် သွားပါတယ် ဘုရား။

ဆရာတော်။ ဒါ ဘာ့ကြောင့်လဲ။

စာရေးသူ။ မသိပါဘုရား။

ဆရာတော်။ ဒီနှလုံးသွေးဟာ အလုပ်လုပ်ရလွန်းလို့ ပင်ပန်းပြီး သွားတာကိုလွန်မှ မင်းအသိဉာဏ်က သိရတာ၊ မလွန်

ခင်က မသိဘူးနော်၊ မသိရလို့ ဒေါသကြီးပြီး ခန္ဓာကိုယ်ကြီးက လွန်ပြီးမှ ပင်ပန်းမှန်းသိရတာ။

စာရေးသူ ။ မှန်လှပါဘုရား, တပည့်တော် ကိုယ်တွေ့ပါ၊ သိပ်မှန်ပါတယ် ဘုရား။

ဆရာတော်။ တစ်ခါတလေများ မင်းတို့ တဏှာလောဘဘက် လိုက်နေတဲ့အခါများ ပြောကြသေးတယ်လေ၊ မောရမှန်းမသိ၊ ပန်းရမှန်းမသိ။

စာရေးသူ ။ မှန်လှပါ ပြောပါတယ်ဘုရား။

ဆရာတော်။ ဒါ မင်း ဉာဏ်ဦးစီးရာမလိုက်ဘဲ တဏှာဦးစီးရာ လိုက်လို့ပဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ မင်း....အာနာပါန အားထုတ်တဲ့အခါ မင်းရဲ့ ခန္ဓာကိုယ်တစ်ကိုယ်လုံးရှိ (ကြွက်သားတွေ) ကိုယ်လက်အင်္ဂါအကြောတွေ လျှော့ထားပါ၊ ဒါမှ အသက် မှန်မှန်ရှူလို့ ကောင်းမယ်၊ နည်းမှန်မယ်၊ ဘုရားသခင်က "ပဿမ္ဘယံ ကာယသင်္ခါရံ" "မနေးမမြန်၊ မပျော့မပြင်း မှန်မှန် ဝင် ထွက်စေရာ၏"လို့ ဟောတော်မူခဲ့တယ်။

စာရေးသူ ။ မှန်လှပါဘုရား၊ အမိန့်ရှိတဲ့အတိုင်း အားထုတ်ပါမယ်ဘုရား၊ ဘာကို အထူး ဂရုစိုက်ပြီး အားထုတ်ရမှာလဲဘုရား။

ဆရာတော်။ မင်း မြဲမြဲမှတ်ထား၊ ဂရုစိုက်ဖို့ရာက သတိသာ လွန်တယ်လို့ မရှိတာ၊ သဒ္ဓါ၊ သမာဓိ၊ ဝီရိယ၊ ပညာဆိုတာကို တစ်ပြိုင်တည်းလွှတ်ရမယ်၊ တစ်ပြိုင်တည်း တစ်ညီတည်းဖြစ်အောင် အားမထုတ်နိုင်ရင် ဥဒ္ဓစ္စဖြစ်ဖြစ်, ထိနမိဒ္ဓဖြစ်ဖြစ် တစ်ခုခုတော့ဝင်မှာပဲ၊ အခု အားထုတ်ခိုင်းတာက သမာဓိရရုံခိုင်းတာ၊ အခြား ဘာနဲ့မှမရော စေနဲ့အုံး။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ မင်း....အခု ယာဂုသောက်ပြီးရင် ထပ်အားထုတ်ပါ အုံး၊ ဒါမှ သမာဓိအား ကောင်းလာမှာ၊ မင်း တရား အားထုတ်တဲ့အချိန်မှာ စောစောကပြောသလို သဒ္ဓါ၊ ပညာ၊ သမာဓိ၊ ဝီရိယတို့ကို အပိုအလိုမရှိ၊ မလျော့ မတင်း စောင်းကြိုးညှင်းသလို အားထုတ်ရမယ်၊ မင်းက တစ်ခါမှ အားမထုတ်ဘူးလို့ ငါက ဒါလောက် အချိန်ကုန်ခံပြီး ပြောပြနေရတာ၊ ဒီအာနာပါနထွက် လေ ဝင်လေ ရှူရှိုက်ပြီး အားထုတ်ရတာ ဘာခက် တာလိုက်လို့၊ ကဲ....အကျင့်ရအောင် သွားအားထုတ် စမ်း၊ သမာဓိ ကောင်းကောင်းရမှ ငါ့ဆီလာခဲ့။

ဟု မိန့်တော်မူပြီး ကြွသွားသဖြင့် ကျွန်တော်လည်း ယာဂု ...ား စားသောက်ပြီး နံနက်(၆)နာရီမှ (၈)နာရီအထိ ကြိုးစား၍ သမာဓိအားကောင်းအောင် အားထုတ်ရပါသည်။

ထိုအခါကတရားအားထုတ်ချိန်ကြာသော်လည်း သမာဓိမတည် ...်ပါသဖြင့် အကြိမ်ကြိမ် အဖန်ဖန် နည်းမျိုးစုံဖြင့် ခိုင်းခြင်းဖြစ် ...ါသည်။

(၈)နာရီထိုးပြီး နောက်ပိုင်းဝယ် ဆရာတော်ထံ ဆွမ်း, ကွမ်း ...ာရောက်လှူဒါန်းကြသော တကာ, တကာမများနှင့် ရောနှော ကာ ဆရာတော်၏ ဆွမ်း, ကွမ်း ကိစ္စများကို ဆောင်ရွက်ပေးရ ပါသည်။ (၉) နာရီ ထိုးသောအခါ ဆွမ်း, ကွမ်း ကိစ္စ အဝဝ ...ြီးဆုံးလျှင် ဆရာတော်ထံသို့ သွားရောက်၍ တရားစစ်ဆေးခြင်းကို ခံယူရာ—

ဆရာတော်။ ကဲ့နှယ်လဲဟေ့ မောင်ကျော်သိန်း၊ မင်း သမာဓိ ကောင်းကောင်းရပြီလား။

ာရေးသူ ။ မှန်လှပါ၊ ခုတော့ သမာဓိ ကောင်းကောင်းရပါပြီ ဘုရား။

ဆရာတော်။ ဘယ်လို ဣရိယာပုထ်နဲ့ အားထုတ်သလဲ။
စာရေးသူ။ မှန်လှပါ၊ ပထမ တစ်နာရီလောက်မှာ ထိုင်တဲ့ဣရိယာပုထ်နဲ့ အားထုတ်ပါတယ်ဘုရား၊ ကျန်တဲ့အချိန်ပိုင်းမှာ စင်္ကြံနဲ့ အားထုတ်ပါတယ်ဘုရား။

ဆရာတော်။ သမာဓိ ကောင်းတယ်သာပြောတာ မင်းရဲ့ရုပ်လက္ခဏာက သမာဓိကောင်းကောင်းရတဲ့ ရုပ်လက္ခဏာ မဟုတ်သေးဘူး။
စာရေးသူ။ အရှင်ဘုရား၊ ရုပ်လက္ခဏာကြည့်ရုံနဲ့ သမာဓိ ရ-မရ သိနိုင်ပါသလား ဘုရား။

(ဆရာတော်ဘုရားသည် ပြုံးလျက်) ''ဟ...မောင်ကျော်သိန်းရ သမာဓိရတဲ့ ရုပ်လက္ခဏာနဲ့ မရသေးတဲ့ ရုပ်လက္ခဏာဟာ အပုံကြီး ခြားနားတယ်ဆိုတာ နောက်တော့ မင်းကို ငါ ရှင်းပြီးပြောပြမယ်၊ မင်းအခု ထမင်းစားပြီး ရေချိုးပြီးသည့်နောက် ခန္ဓာဝန်ကို ပြည့်စုံအောင်ဆောင်ရွက်၊ တရားထိုင်ချိန်ကျမှ အခင်းကြီး အခင်းလေး ကိစ္စတွေ မပေါ်စေနဲ့၊ ဒီကိစ္စတွေဟာ အများကြီး အနှောင့်အယှက် ဖြစ်ထယ်''။

မိန့်တော်မူရာမှ ကျွန်တော်၏ ချို့ယွင်းချက်များကို ပြန်လည်စဉ်းစားမိပါတော့သည်။ ပြီးခဲ့သော (၆)နာရီ တရားထိုင်ချိန်က ယင်းကိစ္စများကို မဆောင်ရွက်ခဲ့မိသဖြင့် အနည်းငယ်အနှောင့်အယှက်ဖြစ်ခဲ့ရပါသည်။ ကျွန်တော်လည်း ဆရာတော် အမိန့်ရှိသည့်အတိုင်း ကိစ္စအဝဝကို ဆောင်ရွက်ပြီး နောက်နေ့ (၁၂)နာရီတွင် တရားစ၍ထိုင်ကာနေ့ (၂) နာရီအချိန်တွင် ဆရာတော်ဘုရား ရှေ့မှောက်သို့ သွားရောက်ပါသည်။

**မှတ်ချက်။** ။ဆရာတော်ဘုရားသည် ကျွန်တော်သား ပထမ စ၍ တရားအားထုတ်သူဖြစ်သောကြောင့် အချိန်မရွေး ဆရာတော် သီတင်းသုံးရာ အခန်းသို့ ဝင်ထွက်ခွင့် မေးမြန်းခွင့် ပြုထားပါ

သည်၊ အခြားပုဂ္ဂိုလ်များအား အချိန်မဟုတ်ဘဲ ဝင်ထွက်ခွင့် မပြုပါ၊ကျွန်တော်အား သနားတော်မူသဖြင့် အထူးကြပ်မတ်ကာ ကျွန်တော်နားလည်နိုင်လောက်သော စကားလုံးများဖြင့် မိန့်ကြားသွန်သင်တော်မူပါသည်။

ဆရာတော်။ မင်း သမာဓိကောင်းကောင်း ရပြီလား။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ အေး....မင်းအခုတော့ သမာဓိရပြီ၊ ဒါပေမယ့် သမာဓိဆိုတာ (ပြဒါးချိန်များ)လိုပဲ၊ အတက်အကျ ရှိတယ်၊ တရားအားထုတ်တဲ့အချိန်မှာ တက်တယ်၊ အာရုံကြမ်းနဲ့ တွေ့တဲ့အချိန်မှာတော့ ကျတယ်၊ ဒါကို သေသေချာချာ မှတ်ထား၊ ကြားရဲ့လား။

စာရေးသူ။ မှန်လှပါဘုရား၊ အခုတော့ သမာဓိကောင်းကောင်း ရပါပြီဘုရား။

ဆရာတော်။ အေး.... ဒါလောက်ဆိုရင် တော်လောက်ပါပြီ၊ ဒီတစ်ခါ ဝိပဿနာကို ရှုရမယ်၊ ပထမအချိန်မယ် သမာဓိအား ကောင်းအောင် ထူထောင်ရမယ်၊ သမာဓိ ရလောက်ရင် ဝိပဿနာဘက်ပြောင်းပြီး ရှုရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ (သမာဓိ) အလုပ်ခိုင်းတာဟာ သမထ လုပ်စေချင်လို့ ခိုင်းတာမဟုတ်ဘူး၊ စိတ်တည်ငြိမ်ရုံ သမာဓိရရုံလုပ်ပြီး သမာဓိရလာတဲ့အခါ အာနာပါနကို လွှတ်ပြီး ဝေဒနာပေါ်ရာကို မလွှတ်တမ်း သတိနဲ့ရှုလိုက်တော့ ရုပ်များလာရင် ဝေဒနာကို မတွေ့တော့ဘဲ ဖြစ်ပေါ်လာပြီး ပျက်စီးသွားတာကိုပဲ တွေ့ရမယ်၊ ဒီသုခ ဒုက္ခ ဥပေက္ခာ ဝေဒနာတွေဟာ အနိစ္စအဖြစ်သာ ရောက်ရှိသွားတယ်လို့ သိလိုက်ရမယ်၊ ဝေဒနာရှုတဲ့အခါ ဝေဒနာပေါ်လာမယ်၊ နောက် ပညာနဲ့ ရှုကြည့်တဲ့အခါမယ် အနိစ္စ မမြဲ

တာကိုသာ တွေ့ရမယ်၊ အဲဒီဉာဏ်ပေါ်လာရင် ဝေဒနာ ချုပ်သွားပြီ၊ ဝေဒနာကျော်သွားပြီလို့ မှတ်ရမယ်၊ အဲဒီဉာဏ်မပေါ်သေးရင်, မပျက်သေးရင် ဝေဒနာ မချုပ်သေးလို့ မှတ်ရမယ်၊ "တရားထိုင်နေတဲ့ အားထုတ်နေတဲ့ ယောဂီဟာ ဝေဒနာကျော်သွားအောင်, ချုပ်သွားအောင် အားထုတ်နိုင်ခဲ့ရင် တရားထိုင်ပြီးတဲ့ အချိန်မှာ တရားလွှတ်ပြီးတဲ့အချိန်မှာ ခန္ဓာကိုယ် တစ်ခု လုံးဟာ ပေါ့ပါးသွက်လက်ပြီး လန်းဆန်းစွာ ရှိနေရ မယ်"၊ ဒါကြောင့် ဝေဒနာကိုကျော်အောင် ရှုထား ရမယ်၊ ထွက်သက် ဝင်သက် (အာနာပါန) သမထလုပ် တာဟာ စိတ်မပြေးရုံ တည်ငြိမ်ရုံထိန်းထားတာ၊ နိဗ္ဗာန် ကိုတော့ မရနိုင်ဘူးဆိုတာ သတိပြုပါ။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ဝိပဿနာဆိုတာက ပညာလမ်းကို စိတ်ညွှတ်ပြီး ရုပ် နာမ် လက္ခဏာ ဖြစ်ပေါ်လာတာတွေကို ဆင်ခြင်တာ ပါပဲ၊ ယခုလက်ရှိ ခန္ဓာကြီးဟာ ပဋိသန္ဓေမှ စပြီး သေသည့်တိုင်အောင် မပြတ်မစဲ ထပ်တလဲလဲ ဖြစ်ပျက် နေကြတယ်၊ အနိစ္စ ဒုက္ခ—အနတ္တ လက္ခဏာရေး သုံး ပါးတို့သာ မချကေန် ဖြစ်ပျက်နေကြတာပါကလားလို့ သိမြင်ရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ရုပ်နာမ်နှစ်ပါးတို့ကား မမြဲဆင်းရဲ ငါလဲမဟုတ် နာမ် ရုပ်တွေ အနတ္တဟု ထင်မြင်မှု များလာတဲ့အခါ ဖြစ် လိုက် ချုပ်လိုက်နဲ့ ချုပ်ချုပ်နေကြတာ အပျက်တစ်ခု, နောက် အဖြစ်တစ်ခု, အပျက်တစ်ခု တွေ့မြင်တဲ့အခါ (ဥဒယဗ္ဗယဉာဏ်) ရောက်တယ်လို့ သိရမယ်၊ မှတ်မိပြီ လား၊....နားကော လည်ရဲ့လား။

စာရေးသူ။ နားလည်ပါပြီဘုရား။

ဆရာတော်။ သေသေချာချာလဲ ရှင်းမှ၊ တရား မထိုင်ခင်က အသိ ဉာဏ်နဲ့ ဒီလို ရှင်းမလာရင် ခရီးရောက်မှာ မဟုတ်ဘူး၊ အဲဒီတော့ ဒိဋ္ဌိဝိစိကိစ္ဆာကို ထပ်ပြီး ပယ်ပေးရအုံးမယ် မောင်ကျော်သိန်း မင်း သောတာပန် ဖြစ်ချင်လို့ရှိရင် ဘာကို အရင်ပယ်ရမလဲ။

စာရေးသူ။ မှန်လှပါ၊ ဒိဋ္ဌိဝိစိကိစ္ဆာကို အရင် ပယ်ရပါမယ်ဘုရား။

ဆရာတော်။ အေး....ဒိဋ္ဌိဝိစိကိစ္ဆာ ဆိုတာ ဘယ်မှာ ကပ်နေတာလဲ။

စာရေးသူ။ မသိပါဘုရား။

ဆရာတော်။ ဒိဋ္ဌိဝိစိကိစ္ဆာ ဆိုတာ ခန္ဓာငါးပါးမှာ ကပ်နေတယ်၊ ငြိနေတယ်၊

စာရေးသူ။ မှန်လှပါ, သိပါပြီဘုရား။

ဆရာတော်။ ဒီ ခန္ဓာငါးပါးမှာ ငြိနေတာတော့ သိပြီ၊ အဲဒီ ခန္ဓာ ငါးပါးက ဘယ်ကဖြစ်လာတာလဲ၊ ဘယ်လိုလုပ်ပြီး ဖြစ်ပျက်နေတာလဲဆိုတာ မသိလို့ရှိရင် ခုတင်ကပြောတဲ့ ကပ်နေတာ တွယ်နေတာ ငြိနေတာ ဒိဋ္ဌိဝိစိကိစ္ဆာ ဘယ်လိုနည်းနဲ့မှ မခွာနိုင်ဘူး, မပယ်နိုင်ဘူး။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ခန္ဓာငါးပါးဆိုတာ စာထဲပါတာတွေဖူးလို့ ဖတ်ဖူးလို့ ဆရာသမားပြောတာ ကြားဖူးလို့ ရူပက္ခန္ဓာ—ဝေဒ နက္ခန္ဓာ—သညာက္ခန္ဓာ— သင်္ခါရက္ခန္ဓာ— ဝိညာဏက္ခန္ဓာ လို့ မင်းတို့ သိကြရတာ၊ အဲဒီတော့ ခန္ဓာရဲ့ဖြစ်ကြောင်း ချုပ်ကြောင်းကို မသိခဲ့လို့ရှိရင် ခန္ဓာငါးပါးကို မင်း တို့ ဘယ်လိုပဲ သိနေပေမယ့် ဒိဋ္ဌိက ကပ်အုံးမှာပဲ၊ အဲဒါကြောင့် ခန္ဓာငါးပါးကို သိချင်လို့ရှိရင် ပဋိစ္စ သမုပ္ပါဒ်ကို အရင် သိအောင်လုပ်၊ ဒါကြောင့် မင်းကို ပဋိစ္စသမုပ္ပါဒ် အရင်ပြရလိမ့်မယ်၊ (တင်ပါ)၊ မင်း ငါ့အခန်းထဲက ပဋိစ္စသမုပ္ပါဒ် ပုံစံကတ်ပြားသွားယူ

ချေစမ်း၊ ခန္ဓာပဋိစ္စသမုပ္ပါဒ်ကို အတော် မှတ်မိသေး ရဲ့လား။

စာရေးသူ။ တင်ပါဘုရား၊ တပည့်တော် နည်းနည်း လောက်ပဲ မှတ်မိပါတယ်ဘုရား။

ဆရာတော်။ အေး....မင်းရွှေမှာ ချကြည့်၊ ငါပြမယ်၊ မင်းအရင်က ပဋိစ္စသမုပ္ပါဒ် သင်ခဲ့ဖူးတယ်ဆိုတာ စာသိ။

စာရေးသူ။ စာပဲ သင်ခဲ့ဖူးပါတယ်ဘုရား။

ဆရာတော်။ ပဋိစ္စသမုပ္ပါဒ် နားမလည်ရင် ဘယ်နည်းနဲ့မှ ခန္ဓာ မသိနိုင်၊ ခန္ဓာ မသိရင် ဒိဋ္ဌိ ကပ်မယ်၊ ဒါကြောင့် ပဋိစ္စ သမုပ္ပါဒ်နည်း နားလည်အောင် လုပ်ရမယ်၊ စာသိ သိရုံနဲ့ မဖြစ်နိုင်သေးဘူး။

စာရေးသူ။ မှန်လှပါ၊ ပဋိစ္စသမုပ္ပါဒ် နားလည်အောင် လုပ်ပါ မယ်ဘုရား။

ဆရာတော်။ အေး....ရကော ရသေးသလား။

စာရေးသူ။ ရပါသေးဘယ်ဘုရား။

ဆရာတော်။ အေး....ဒါဖြင့် အကျယ်မချဲ့တော့ဘူး၊ မင်းနားလည် ရုံ စာထဲမှာပါတဲ့ ပဋိစ္စသမုပ္ပါဒ်က တစ်မျိုး၊ ခန္ဓာ ကြီးမယ် ချဖြစ်ပျက်နေတဲ့ ပဋိစ္စသမုပ္ပါဒ်က တစ်မျိုး၊ ၂ မျိုးရှိတယ်လို့ မှတ်ထားလိုက်ပါ၊ ဒီပဋိစ္စသမုပ္ပါဒ် နားလည်ရုံလောက်နဲ့တော့ မင်း ခရီး မပေါက်ဘူး၊ မင်းခန္ဓာကြီးမှာ ဖြစ်ပေါ်နေတဲ့ ပဋိစ္စသမုပ္ပါဒ်ကို နားလည်မှ သဘောပေါက်မယ်၊ ရှင်းပြီလား။

စာရေးသူ၊ မှန်လှပါဘုရား။

ဆရာတော်။ ဒါကြောင့် ခန္ဓာငါးပါးဖြစ်ကြောင်း၊ ချုပ်ကြောင်း ကို ပြရမယ် (အဝိဇ္ဇာ ပစ္စယာ၊ သင်္ခါရာ၊ ပုံစံလဲ ကြည့်)။

မင်းတို့ ဟိုအတိတ်ဘဝက လုပ်လိုက်တဲ့ အဝိဇ္ဇာ သင်္ခါရ တွေကြောင့် သင်္ခါရ ပစ္စယာ ဝိညာဏံ ဒီဘဝခန္ဓာ ကြီး ဖြစ်လာရတယ်ဆိုတာ သိပြီလား။

စာရေးသူ။ သိပါပြီဘုရား။

ဆရာတော်။ ဒါဟာ လွန်ခဲ့ပြီးသွား ကိစ္စတွေမို့ လို့ မင်းတို့နဲ့မဆိုင် တော့ဘူး၊ အတိတ်ပဋိစ္စသမုပ္ပါဒ်မို့ မဆိုင်တော့ဘူး ပေါ့၊ နောက်ဖြစ်မယ့် အနာဂတ် ပဋိစ္စသမုပ္ပါဒ်ကိုလဲ မရောက်သေးလို့ မင်းနဲ့မဆိုင်ဘူး၊ အရေးကြီးတာက ခု ပစ္စုပ္ပန်ပဋိစ္စသမုပ္ပါဒ်ကို နားလည်ဖို့ပဲ၊ နားလည်ရဲ့ လား။

စာရေးသူ။ မှန်လှပါ၊ နားလည်ပါတယ် ဘုရား။

ဆရာတော်။ ဘယ်ပဋိစ္စသမုပ္ပါဒ်က မင်းနဲ့ဆိုင်သလဲ။

စာရေးသူ။ ပစ္စုပ္ပန်ပါ ဘုရား။

ဆရာတော်။ အတိတ်ကော။

စာရေးသူ။ မဆိုင်ပါဘုရား။

ဆရာတော်။ အနာဂတ်ကော။

စာရေးသူ။ မဆိုင်ပါဘုရား။

ဆရာတော်။ ဒီဋ္ဌိဝိစိကိစ္ဆာကော ဘယ်မှာ ကပ်သလဲ။

စာရေးသူ။ ခန္ဓာငါးပါးမှာ ကပ်ပါတယ်ဘုရား။

ဆရာတော်။ အေး....ခန္ဓာငါးပါးမှာ ကပ်တယ်၊ ဒါ ဘယ်သူ့ ဆံပင် လဲဆိုရင် ငါ့ဆံပင်လို့ မင်းဖြေမှာပဲ၊ ဆံပင်ဆိုတဲ့ ရူပက္ခန္ဓာမှာ သွားခိုတယ်၊ ငါလက်ဖက်ရည်သောက်လို့ ကောင်းလိုက်တာဆိုရင် ဝေဒနက္ခန္ဓာ သွားခိုတယ်။ ဒီစာကြောင်းလေး ငါရေးထားတယ်၊ ငါမှတ်ထား

တယ်ဆိုရင် သညာမှာ သွားပြီး ခိုတယ်၊ ငါ ရက်ကန်း ခတ်တာ ရှာမှရှားဆိုတာ သင်္ခါရက္ခန္ဓာမှာ ငါသွား ခိုတယ်၊ ငါ့စိတ် မစမ်းနဲ့ဆိုတာ ဝိညာဏက္ခန္ဓာမှာ ငါ သွားခိုတယ်၊ ဒါတွေဟာ ခိုစရာ ကပ်စရာဌာန ဆိုတာ သဘောကျပြီလား။

စာရေးသူ ။ ကျပါပြီ ဘုရား။

ဆရာတော်။ သဘောကျရင် ခန္ဓာနဲ့ ဒိဋ္ဌိဝိစိကိစ္ဆာ ခွာရလိမ့်မယ်၊ စာ အနေနဲ့ကတော့ ရုပ်နာမ်ကွဲရင် ဒိဋ္ဌိဝိစိကိစ္ဆာကွာတယ်လို့ ရေးကြလိမ့်မယ်၊ တစ်ဆင့် ကျန်နေသေးတယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ပဋိစ္စသမုပ္ပါဒ် ဖြစ်ကြောင်းကိုလဲ နားလည်မှ ပဋိစ္စ သမုပ္ပါဒ် ချုပ်ကြောင်းကိုလဲ နားလည်မှ ဒိဋ္ဌိရော၊ ဝိစိကိစ္ဆာရော ကွာမယ်၊ ခန္ဓာ ဖြစ်ကြောင်း မသိရင် ဒိဋ္ဌိဝိစိကိစ္ဆာ ကပ်မယ်၊ ခန္ဓာဖြစ်ကြောင်းကိုသိရင် ဒိဋ္ဌိ ဝိစိကိစ္ဆာ သေမယ်၊ ခန္ဓာဖြစ်ကြောင်းကိုမသိရင် ဒိဋ္ဌိ ကပ်မယ်၊ ခန္ဓာဖြစ်ကြောင်းကြောင့် အကျိုးဖြစ်လာ တာလို့ သိရင် ဒိဋ္ဌိ သေမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ အကြောင်းနဲ့ အကျိုးပဲ ရှိတယ်—ရှိတယ်လို့ သိရင် ဒိဋ္ဌိဝိစိကိစ္ဆာ သေသွားပြီ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ပုဂ္ဂိုလ်သတ္တဝါ မရှိတော့ဘူး၊ ရှိသေးသလား။

စာရေးသူ ။ မရှိတော့ပါဘုရား။

ဆရာတော်။ မင်း အလုပ်ခွင်ဝင်ရမယ့် ပဋိစ္စသမုပ္ပါဒ်က ပစ္စုပ္ပန် ပဋိစ္စသမုပ္ပါဒ်ပဲ၊ ဒီနေ့ တစ်နေ့လုံး ဆိုလိုတာမဟုတ်

ဘူး၊ ခုမြင်တဲ့အခိုက်, ကြားတဲ့အခိုက် ပေါ်တဲ့ ပဋိစ္စ သမုပ္ပါဒ်၊ ခု တရားထိုင်မယ့် အချိန်မှာ ပစ္စုပ္ပန် တည့်တည့်ရှုဖို့ရာ အရေးကြီးတယ်၊ အတိတ်လဲ ပြန် မစဉ်းစားနဲ့၊ အနာဂတ်လဲ လှမ်းမမျှော်နဲ့၊ ဖြစ်တုန်း ဖြစ်ဆဲ စောင့်ကြည့်ဖို့ပဲ၊မင်းအခု အသက် ဘယ်လောက် ရှိပြီလဲ။

ာရေးသူ။ ၄၀—ပါ ဘုရား။

ာရာတော်။ အေး....အသက် လေးဆယ်သ ဆိုတယ်၊ မင်းငယ်ငယ် တုန်းကလဲ ကိုယ့်ကိုယ်ကို ဒီရုပ် ဒီရည်ပဲ၊ ခုကြီးလာ တော့လဲ ဒီရုပ် ဒီရည်ပဲ၊ ငါ ငယ်ငယ်ကအတိုင်း ရုပ် မကျဘူးလို့ ဆိုလို့ရှိရင် သဿတ ဒိဋ္ဌိ ဖြစ်နေတယ်။

ာရေးသူ ။ မှန်လှပါဘုရား။

ာရာတော်။ အဲဒီလိုဆက်ပြီး တည်တယ်လို့လဲ မယူရဘူး၊ ငါ ပိုက်ဆံများများ ရမယ်ဆိုရင် ဘယ်အရပ်ဖြစ်ဖြစ်, ဘာအလုပ်ဖြစ်ဖြစ် သွားရပါတယ်၊ လုပ်ရပါတယ်၊ (သေရင်လဲ ပြီးတာပဲ)၊ သေရင်ပြီးတာပဲ ဆိုလို့ ရှိရင် ဥစ္ဆေဒဒိဋ္ဌိ ဖြစ်နေတယ်၊ ဒီလိုလဲ အပြတ်မယူ ရဘူး၊ နားလည်ရဲ့လား။

စာရေးသူ ။ နားလည်ပါတယ်ဘုရား။

ဆရာတော်။ ဒီ သဿတနဲ့ ဥစ္ဆေဒဒိဋ္ဌိ ၂—ပါးကို တရားအားမ ထုတ်ခင် စင်အောင် လုပ်ပါ။

စာရေးသူ ။ မှန်လှပါဘုရား, လုပ်ပါမည်ဘုရား။

ဆရာတော်။ အပျက်သိရင် သဿတဒိဋ္ဌိ စင်တယ်၊ အဖြစ်သိရင် ဥစ္ဆေဒဒိဋ္ဌိ စင်တယ်။

စာရေးသူ။ သဿတနဲ့ ဥစ္ဆေဒဒိဋ္ဌိ စင်ပါပြီဘုရား။

ဆရာတော်။ အေး .. ဒါက အသိနဲ့ စင်ရှိရှိသေးတယ်၊ ရှင်းကော ရှင်းရဲ့လား၊ ရုပ်နာမ်ကို ငါစွဲမစွဲနဲ့။

စာရေးသူ ။ ရှင်းပါတယ် ဘုရား၊ မစွဲတော့ပါ ဘုရား။

ဆရာတော်။ ကဲ....ဒီလောက်ဆို တော်လောက်ပြီ၊ မင်း ဆိတ်ငြိမ်တဲ့ နေရာသွားပြီး အလုပ်ထိုင်ပါ၊ သမထကိုတော့ သမာဓိ ကောင်းကောင်းရအောင် အားထုတ်ပေါ့၊ ခန္ဓာကိုယ်ကို တည့်တည့်ထိုင်ပါ၊ ဝင်လိုက်တာလဲ သိ၊ ထွက်လိုက်တာလဲ သိ၊ သမာဓိအား ကောင်းလာလိမ့်မယ်၊ အဲဒီအချိန်မှာ ဝီရိယကိုလဲ အလျှော့မပေးရဘူး၊ သတိနဲ့ ပညာလဲ တစ်ပါတည်း ကပ်လိုက်ပါ၊ ခန္ဓာကိုယ်ကြီးဟာ ဖောက်ပြန်ပြီး ဝေဒနာတွေ ပေါ်လာလိမ့်မယ်၊ ပေါ်လာတဲ့ ဝေဒနာကို ကျော်အောင်ရှုပါ၊ စိတ်ကိုရှုရင်လဲ ပေါ်လာတဲ့ စိတ်တွေကို သိလိုက်ပါ၊ ဒီလိုသိနေတဲ့ကြားထဲက အသံတစ်ခုခု ကြားလိုက်ရင်လဲ ကြားလိုက်ပြန်ပြီဟု သိလိုက်ပါ။

စာရေးသူ ။ မှန်လှပါဘုရား၊ သတိထားပြီး အသိလိုက်ပါမယ် ဘုရား။

ဆရာတော်။ အေး.... သိပြီးရင် မင်း အသိဉာဏ်က ဘဝင် ဟဒယ ဝတ္ထုမှာ ရှိတယ်လို့မှတ်၊ ဘဝင်အသိဉာဏ်ကနေပြီး လေကိုသွင်းတဲ့စိတ်၊ လေကိုထုတ်တဲ့စိတ် အမြဲရှုနေပါ၊ အဲဒါ အိမ်သည်စိတ် ၂ ပါးပဲလို့မှတ်၊ နောက် ဒီလိုရှုနေရင် အသံကြားလိုက်ရင် အသံကြားစိတ်၊ နှာခေါင်းက အနံ့အသက်နံ့ရင် နံ့စိတ်၊ လျှာပေါ်မှာ စားစိတ်၊ မျက်စိဖွင့်လိုက်လို့ မြင်ရင် မြင်စိတ်၊ ကိုယ်ပေါ်မှာ တစ်ခါတလေတွေ့ထိလို့ ခံသာတဲ့စိတ်၊ တစ်ခါတလေ တွေ့ထိရင် မခံသာတဲ့စိတ် ပေါ်တယ်၊ "ဒုက္ခသဟဂတံ ကာယဝိညာဏံ၊ သုခ သဟဂတံ ကာယဝိညာဏံ" ဆိုတော့ ကိုယ်ပေါ်မှာ တစ်ခါတလေ မခံသာတဲ့စိတ် ရယ်လို့ ပေါ်မယ်၊ တစ်ခါတလေ ကျတော့ ခံသာတဲ့

စိတ်ရယ်လို့ ၂ မျိုးပေါ်မယ်၊ အားလုံးခြောက်မျိုး ပေါ်မယ် မှတ်ထားပါ။

ဒကာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီစိတ်ခြောက်မျိုးဟာ အမြဲပေါ်နေတာလား။

ဒကာရေးသူ ။ မပေါ်ပါဘုရား။

ဆရာတော်။ တစ်ခါတလေမှ ပေါ်တော့ အပြင်ဉ္စသည် ခြောက် ယောက်လို့ မှတ်ပါ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ တစ်ခု ပေါ်တုန်းမှာ ကျန် ငါးခု မပေါ်ပါဘူး၊ အိမ်သည်စိတ်ကို ရှုနေရင်း ခြင်ကိုက်လိုက်လို့ မခံသာ တဲ့စိတ်၊ ယားတဲ့စိတ် ပေါ်လာရင် ဒီ ယားတဲ့စိတ်ကို ရှုပါ။

စာရေးသူ ။ မှန်ပါ။

ဆရာတော်။ အားလုံး အပြင်ဉ္စသည် ဘယ်နှစ်မျိုးရှိသလဲ။

စာရေးသူ ။ ခြောက်မျိုးပါဘုရား။

ဆရာတော်။ ကောင်းပြီ ဒီစိတ်ဟာ အမြဲပေါ်သလား။

စာရေးသူ ။ မပေါ်ပါဘုရား။

ဆရာတော်။ နောက် လောဘစိတ်၊ ဒေါသစိတ်၊ မောဟစိတ်၊ အလောဘစိတ်၊ အဒေါသစိတ်၊ ဒီ ငါးခုက ဟဒယ ဝတ္ထုပေါ်မှာပေါ်လို့ အတွင်းဉ္စသည် ငါးယောက် လို့ မှတ်၊ အမောဟစိတ်ကို မထည့်ဘူး၊ သူက ပေါ် သမျှ ရှုရမည့်စိတ် ဖြစ်နေလို့ပဲ၊ ဒါကြောင့် အတွင်း ဉ္စသည် ငါးယောက်နှင့် အပြင်ဉ္စသည် ခြောက် ယောက်ကို အဇ္ဈတ္တိကာယတန-ဗဟိရာယတနလို့ ခေါ်

တယ်၊ စာလိုသုံးမနေပါနဲ့၊ ဒီဒေါသည် တစ်ဆယ့်တစ်ယောက်ထဲက ပေါ်ရာကိုရှုပါ၊ တစ်ခုပေါ်ရင် ကျန်တဲ့ဒေါသည်စိတ်က မပေါ်ပါဘူး၊ ပေါ်တာကို ရှုပါ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ကောင်းပြီ ဒါတွေ ဘာမှမပေါ်လို့ ရှိရင် လေကိုသွင်းတဲ့စိတ်၊ လေကိုထုတ်တဲ့စိတ် ဒီစိတ်နှစ်ပါးကို အမြဲမပြတ် ရှုနေရုံပဲ၊ ဒီစိတ်နှစ်ပါးက အိမ်သည်စိတ် နှစ်ပါးလို့ မှတ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ နောက်တစ်နည်းကတော့ မင်းတို့လို တရားအားထုတ်တဲ့ယောဂီများဟာ ပင့်ကူများလို အမြဲကျင့်သုံးရမယ်၊ ပင့်ကူများဟာ သူ့ဒွါရက အမျှင်ကလေးတွေထုတ်ပြီး ကွန်ယက်အဝိုင်းကြီး (ပင့်ကူအိမ် ဖွဲ့လုပ်ထားပြီး အလယ်ဗဟိုချက်က စောင့်ရင်း ပေါ်ရာကို) လာသမျှ ပိုးမွှားမိရာကို လိုက်စားပြီးရင် အလယ်ဗဟိုချက် ပြန်ထိုင်သလိုပဲ၊ ဘာမျှမမိသေးရင် အလယ်ဗဟိုမှာထိုင်ပြီး ပိုးမွှားများကို (အစာ) စောင့်နေသလို မင်းတို့ကလဲ ဘာမှမပေါ်သေးရင် ထွက်လေ ဝင်လေကို (ပြန်ရှုပါ) ပြန်ထိုင်ပါ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ စိတ်ကိုရှုတဲ့အခါ မထိုင်ခင် ပထမ တရားထိုင်တော့မယ်လို့ စိတ်ကူးလိုက်ရင်ပဲ အရင်ဆုံးထိုင်ချင်တဲ့စိတ်ကလေး ပထမ ပေါ်လာမယ်၊ အဲဒီပေါ်လာတဲ့ ထိုင်ချင်တဲ့စိတ်ကလေးကို ရှုလိုက်စမ်းပါ၊ ဖြစ်ပေါ်လာပြီး ပျက်သွားတာကို တွေ့ရမယ်၊ ကိုယ့်သန္တာန်မှာ ပေါ်လာတဲ့ ထိုစိတ်ကလေးဟာ ထိုင်လဲပြီးရောမရှိတော့ဘူး။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒါကို ဉာဏ်နဲ့ မြင်အောင်ကြည့်၊ ကြည့်တော့ ထိုင်ချင်တဲ့စိတ်ကလေး မရှိတော့ဘူးလို့ သိတယ်၊ ဒီလိုသိတာ "ယထာဘူတဉာဏ်"ပဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဘာမှမပေါ်ရင် ခုတင်ကပြောထားတဲ့ လေကိုထုတ်တဲ့စိတ်၊ လေကိုသွင်းတဲ့စိတ်ကို တစ်လှည့်စီ ရှုရှုပေးပါ၊ ဒါကိုမိအောင်ရှုပေးဖို့ အရေးကြီးတယ်၊ မျှားမျှားရှုမိရင် မြန်မြန်တက်မယ်၊ နဲနဲရှုမိရင် အတက်နှေးမယ်၊ ရှုစိတ်ကြားမှာ ကိလေသာခိုနေရင် မရနိုင်ဘူး၊ ကိလေသာ ကြားမခိုအောင် လုပ်ပါ၊ ရှုစရာမရှိဘူးဆိုပြီး မရှုဘဲနေရင် အဝိဇ္ဇာဝင်လာမယ်၊ ဒါကို မင်းတို့ သတိထားရမယ်၊ နားလည်ပြီလား၊ ကဲ.... သွား တရားထိုင်ချေတော့။

**မှတ်ချက်။** ။ဆရာတော်ဘုရားကြီး သင်ကြားပေးသောဆောင်ပုဒ်၊ ညှော်သည် အိမ်သည်၊ စိတ်နှစ်သွယ်၊ ကိုယ်ဝယ်အမြဲလှည့်။ အကြောင်းတိုက်ခါ၊ ပေါ်ထွက်လာ၊ စိတ်မှာညှော်သည်နှံ့။ ရှုရှိုက်စိတ်မှာ၊ အိမ်သည်လာ၊ မှန်စွာမြဲတည်ဘိ။ ညှော်သည်ခြောက်ယောက်၊ စိတ်ကြံပေါက်၊ လာရောက်ခိုဝင်၏။

ညှော်သည်ထွက်ဝင်၊ သတိယှဉ်၊ ဉာဏ်မြင် ရှုမှတ်ကြည့်။ အရှုများခါ၊ ပျက်မြင်လာ၊ ပြွတ်ကွာမျိုးဒိဋ္ဌိ။

ထိုသို့ အမိန့်ရှိသဖြင့် ဆရာတော်အပါးမှ ခွာခဲ့ရပါသည်၊ ကျွန်တော်လဲ ဆရာတော်အမိန့်ရှိသည့်အတိုင်း နေ့ (၂)နာရီမှ ညနေ (၄) နာရီတိုင် တရားထိုင်ပြီး ညနေပိုင်း (၄) နာရီတွင် များပြားလှသော ပရိသတ်များအား တရားဟောချိန်ကျသဖြင့် အများနှင့်ရောကာ ဆရာတော်၏ တရားများကို နာယူရပါသည်၊ ထိုမှတစ်ဖန် ည (၈) နာရီအချိန်တွင် ကျောင်းကြီးပေါ်သို့ သွားရောက်၍ တရားအစစ်ခံရာ ဆရာတော်ဘုရားကြီးက ဝတ်ဖြည့်ခံတော်မူရင်း....

ဆရာတော်။ မင်း သမာဓိကောင်းကောင်း ရရဲ့လား။

စာရေးသူ ။ ရပါတယ်ဘုရား၊ အလင်းရောင်လဲမြင်ရပါတယ်ဘုရား။

ဆရာတော်။ အို.... ဒါတွေ ဂရုမစိုက်ပါနဲ့၊ ဒီလိုသမာဓိရလာရင် ပညတ်နိမိတ် အာရုံအမျိုးမျိုး၊ ပရမတ်နိမိတ် အာရုံ အမျိုးမျိုးကို တွေ့မြင်ရမယ်၊ ဒါတွေကို ဆက်မလိုက်နဲ့။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဝေဒနာကော တွေ့ရဲ့လား။

စာရေးသူ ။ တွေ့ပါတယ်ဘုရား။

ဆရာတော်။ ဘယ်လိုတွေ့တာလဲ။

စာရေးသူ ။ ကြာကြာ ဖိထိုင်လိုက်တော့ ထုံကျင်ကိုက်ခဲလာပါတယ် ဘုရား။

ဆရာတော်။ အဲဒါကို မင်းဆက်လိုက်သလား။

စာရေးသူ ။ လိုက်ပါတယ်ဘုရား။

ဆရာတော်။ မင်းဟာ ဝေဒနာကို တမင်တကာ လုပ်ယူသလို ဖြစ်နေ တယ်၊ ထိုင်နည်း လိုသေးတယ်။

စာရေးသူ ။ မှန်လှပါဘုရား၊ တပည့်တော် ထိုင်ပုံထိုင်နည်း သေသေ ချာချာ မသိသေးပါဘူးဘုရား။

ဆရာတော်။ ထိုင်တဲ့အခါ တင်ပလ္လင်ခွေ ထိုင်ပါ၊ ခါးကို ဖြောင့် ဖြောင့် မတ်မတ်ထား၊ ရှေ့လဲမငိုက်နဲ့၊ ဘေးလဲမစောင်း နဲ့၊ ခေါင်းကလဲ ဘယ်ဘက်မှ မစောင်းနဲ့၊ မင်း ခါး အထက်ပိုင်း ကိုယ်ကြီးဟာ ရှေ့ နောက် ဘေး ယိမ်း ယိုင်နေရင် အရိုးအဆစ်တွေ အဆက်ချင်း တည့်တည့် မနေတဲ့အတွက် မကြာခင် နာလာလိမ့်မယ်၊ ဝေဒနာ ကို တွေ့ဖို့ရာထားအုံး၊ သမာဓိကို ရအောင်တောင် မထိုင်နိုင်ဘဲ နေမှာစိုးရတယ်၊ ခါးအောက်ပိုင်းကလဲ သိပ်တင်းကျပ်ပြီး ခြေထောက်ချင်း ဖိမထားရဘူး၊ ဖိထားခဲ့လို့ ရှိရင် သွေးလွှတ်ကြော သွေးပြန်ကြော ကိုက်ခဲလာမယ်၊ ဒီတော့ ထိုင်နည်းမမှန်ရင် ဝေဒနာကို

တမင်လုပ်ပြီးယူရတာကျတယ်၊ နားလည်ရဲ့လား၊ ဒီအချက်တွေဟာ မင်းတို့လိုတရားထိုင်စ ယောဂီတွေအတွက် အရေးကြီးတယ်။

မှတ်ချက်။ ဆရာတော်ဘုရားသည် တရားအားထုတ်သော ယောဂီများကို မိမိတို့ကြိုက်သော ဣရိယာပုထ်ဖြင့် အားထုတ်နိုင်ကြောင်း အမိန့်ရှိပါသည်၊ သို့သော် ထိုင်ခြင်း ဣရိယာပုထ်ဖြင့် အားထုတ်မှု ပိုမိုနှစ်သက်ကြောင်း အမိန့်ရှိပါသဖြင့် ထိုင်ဣရိယာပုထ်သည် စိတ်တည်ငြိမ်မှု ရရှိလွယ်သောကြောင့် ထိုင်မှုကို ခိုင်းပါသည်၊ တရားကို လုံးဝအားမထုတ်ဖူးသူအတွက် (၁) ကျန်းမာရေး၊ (၂) ယောဂီများ တရားသဘော သိရှိနားလည်ရေးအတွက် စကားအသုံးအနှုန်းများကို ယောဂီစရိုက်အလိုက် သုံးစွဲခြင်းဖြစ်ပါသည်၊ ဆရာတော်ဘုရားကြီးသည် ညတိုင်း ဝတ်ဖြည့်ပေးခြင်းကို ခံတော်မူစဉ် ဆုံးမဩဝါဒပေးတော်မူသော တရားများကို မှတ်တမ်းမှ ပြန်လည်တင်ပြရပါသဖြင့် အမှားအယွင်းပါရှိပါက စာရေးသူ၏တာဝန်သာဖြစ်ပါသည်။

ဆရာတော်။ ဝင်သက် ထွက်သက်ကို မှန်မှန်ရှူရှိုက်ရမယ်၊ သိပ်ပြင်းပြင်းထန်ထန် မြန်မြန်ဆန်ဆန် ရှူရှိုက်လိုက်လို့ရှိရင် ကိုယ့်ကိုယ်ကို ညှဉ်းဆဲရာကျမယ်၊ မင်းအခုနှာခေါင်းမှ ဝင်သက်ရှူလိုက်တဲ့အခါ လေထဲမှာရှိတဲ့ တေဇောဓာတ် အသက်ရှူရာမှာပါသွားပြီး အာခေါင်အပေါက်နားက အဆုတ် လေသွင်းပြွန်ထဲ ရောက်ပြီးသကာလ ညာဘက်အဆုတ်ကို လေပြွန်တစ်ချောင်း၊ ဘယ်ဘက်အဆုတ်ကို လေပြွန်တစ်ချောင်း ခွဲဝင်ရတယ်၊ နောက်ဆုံး အဆုတ်မှာရှိတဲ့ လေအိတ်ငယ်ကလေးပေါင်း များစွာရှိတဲ့နေရာ ရောက်ရှိတဲ့အခါ ခန္ဓာကိုယ်သက်ဆိုင်ရာကိုအပူခွန်အား(တေဇောဓာတ်) ရရှိတယ်၊ ဒါကြောင့် အဆုတ်ရောက်အောင် အသက်ရှူလိုက်တဲ့အခါတိုင်း အဆုတ်ဟာ ကျယ်ပြန့်သွားနိုင်

အောင် ခန္ဓာကိုယ်အထက်ပိုင်းကို တရားထိုင်တဲ့အခါ တည့်တည့်မတ်မတ် ထားရမယ်၊အဲဒီလိုထားရင်အဆုတ် လေအိတ်ကလေးတွေ လေပြည့်နေမှ မိမိတို့ ခန္ဓာကိုယ် ကြီးကို နာရီများများ တရားထိုင်နိုင်မယ်၊ အဆုတ် ကို လေအပြည့် မသွင်းနိုင် မထုတ်နိုင်တော့ မောလာမယ်၊ ပန်းလာမယ်၊ ဒီအချက်ဟာ တရားထိုင် တဲ့ ယောဂီများအတွက် အရေးကြီးတယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ မင်းတို့ တစ်ခါရှူလိုက်ရင် နှလုံးဟာ လေးကြိမ် လေးခါ လှုပ်ရှားရမယ်၊ ညှစ်ထုတ်ရမယ်၊ တစ်မိနစ်မှာ ၁၆ ကြိမ်မှ ၁၈ ကြိမ်အထိ အသက်ရှူရ ရှိုက်ရတယ်၊ နှလုံးကတော့ ၆၄ မှ ၇၂ ကြိမ် အထိ လှုပ်ရှားညှစ် ထုတ်ရတော့ အသက်အလွန်အမင်း သိပ်ပြီး မြန်မြန် ပြင်းပြင်း ရှူလိုက်ရှိုက်လိုက်ရင် နှလုံးဟာ ဘယ် လောက် အလုပ်များပြီး ပင်ပန်းမလဲ၊ တရားမရဘဲ ရောဂါရဖို့ သေချာတယ်။

စာရေးသူ ။ မှန်လှပါ့၊ တရားမရဘဲ ရောဂါရဖို့ သေချာပါတယ် ဘုရား။

ဆရာတော်။ တရားအားထုတ်တဲ့ ယောဂီဟာ ဒုက္ခခပ်သိမ်း ကင်း ငြိမ်းတဲ့ နိဗ္ဗာန်ကိုရောက်ချင်လို့ အားထုတ်တာ၊ သိပ် အပင်ပန်းခံအားထုတ်လို့ရှိရင် မရနိုင်ကြောင်းကို ဘုရား သခင်ကိုယ်တော်မြတ်ကြီးက ‘ငါဘုရားသည်ပင် ဒုက္ကရ စရိယာ ကျင့်စဉ်က အလွန်ပင်ပန်းတဲ့အကျင့်ကိုကျင့်ပါ လျက်နှင့် မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို မရခဲ့ဘူး’’လို့ ဝန်ခံ ထားတယ်၊ ဒါကြောင့် (မဇ္ဈိမပဋိပဒါ) အလယ် အလတ်ပဲ ကြိုးစားရမယ်။

စာရေးသူ ။ မှန်လှပါ့၊ အလယ် အလတ်ပဲ အားထုတ် ပါ့မယ် ဘုရား။

ဆရာတော်။ အေး....ဒီနေဝက် ခန္ဓာကိုယ် ဖွဲ့စည်းထားပုံ ဆက်ပြောရမယ်။
အဆုတ်ရဲ့ အင်အားနဲ့ ယူဆောင်လာတဲ့ ဝေဇောဓာတ်က အစာအိမ် အူသိမ် အူငယ်များကို ပြုပြင်စီမံ ပေးလိုက်တော့ ကြေညက်ပြီး အာဟာရတို့ကို (အဖြစ်သဘော)ခန္ဓာကိုယ်တစ်ခုလုံး ပြုလုပ်ပေးတယ်၊ ထိုမှတစ်ပါး ဒီသွေးဟာ ခန္ဓာကိုယ် အစိတ်အပိုင်းအသီးသီးတို့မှ ဘေးဖြစ်စေတဲ့ အညစ်အကြေးအဆိပ်အတောက် အပျက်အစီးများကို သက်ဆိုင်ရာ အစိတ်အပိုင်းများမှတစ်ဆင့် ချွေး၊ အခိုးအငွေ့၊ ကျင်ကြီး ကျင်ငယ်၊ (အပျက်သဘောဖြင့်) အပြင်ထုတ်ရတယ်၊ အဆုတ်မှ အဆိပ်အတောက်နဲ့ မကောင်းတဲ့အခိုးအငွေ့များပါတဲ့လေကို အပျက်သဘော ထွက်သက်လေဖြင့် ထုတ်ပစ်ရမယ်၊ သွေးဟာ နှလုံးတုန်ခြင်း အားဖြင့် သွေးကြောထဲမှ ဖြစ်လိုက်ပျက်လိုက်နဲ့ လည်ပတ်ပြီး မကောင်းတဲ့ သွေးညိုသွေးပုပ်တွေကိုနှလုံးထဲကအဆုတ်ထဲ တွန်းထုတ် လိုက်တော့ မကောင်းတဲ့ သွေးမှာ ဝေဇောဓာတ်အသစ် တစ်ဘက် နှလုံးထဲမှ သွေးနီအကောင်းပြန်လည်ရရှိတာပဲ၊အဲဒီကတစ်ဖန် မကောင်းတဲ့ အညစ်အကြေး အဆိပ်အတောက် အပျက်အစီးများကို ချွေး၊ ကျင်ငယ်၊ အငွေ့အသက်ဖြင့် ပြန်ထုတ်ပြီး တစ်ပတ်လည်နေလို့ ငါတို့မင်းတို့ အသက်ရှင်နေတယ်လို့ ခေါ်ရတာပဲ။

စာရေးသူ ။ မှန်လှပါ၊ အရှင်ဘုရား အမိန့်ရှိမှ ဘယ်လိုလုပ်ပြီး အသက်ရှင်နေရတယ်ဆိုတာ သိရပါတယ် ဘုရား။

ဆရာတော်။ တို့ရဲ့ ဒီနှလုံးဟာ လက်သီးဆုပ်ပမာဏရှိတယ်၊အဆင်းကတော့ နီခြောက်ခြောက်ရှိပြီး အတွင်းမှာအခေါင်းကြီး ရှိတယ်၊ ဒီအခေါင်းကြီးအတွင်းမှာ တစ်ဆုပ်စာလောက် အသစ် အသစ်ဖြစ်နေတဲ့ နှလုံးသွေးနီ (တော်

ဇော)ဟာ ရှိနေတယ်၊ အဲဒီကောင်းတဲ့သွေးကိုအသက်တစ်ခါရှူရင် တစ်ကိုယ်လုံးနှံ့အောင် လေးကြိမ်ညှစ်ပို့ရတယ်၊ နှလုံးသားကို ပိတ်ပါး၊ ပင့်ကူမှေးနဲ့တူတဲ့ ဖြူချော ပါးလှပ်တဲ့ အမြှေးလွှာနဲ့ ဖုံးအုပ်ထားတယ်၊ ဒီနှလုံးသားရဲ့ ညာဘက်ခန်းကတော့ မကောင်းတဲ့ သွေးညှိတွေကို အဆုတ်ထဲ တွန်းပို့ရတယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီလက်တစ်ဆုပ်စာဆိုတဲ့ အချင့်အတွက်ကတော့ သာမန် လူတစ်ယောက် စပါးပုံကို လက်ညှိုးဖြင့်ကော်၍ ယူရသော စပါးကို တစ်လက်ဆွမ်းလို့ ခေါ်တယ်၊ ဒီတစ်လက်ဆွမ်း လေးခုကို တစ်ဆုပ်လို့ ခေါ်တယ်၊ လေးဆုပ်ကို တစ်လက်ခုပ်၊ လေးလက်ခုပ် တစ်စလယ်၊ လေးစလယ် တစ်ခွက်၊ နှစ်ခွက် တစ်ပြည်၊ လေးပြည် တစ်စိတ်၊ လေးစိတ် တစ်တင်း၊လေးတင်းတစ်တောင်း၊ လေးတောင်း တစ်ဘို၊ လေးဘို တစ်ဘုတ်၊ လေးဘုတ် တစ်ကပ်၊ လေးကပ် တစ်ကျပ်၊ လေးကျပ် တစ်ကျီလို့ ခေါ်တယ်၊ ဒါက ကြုံကြိုက်လို့ ပြောပြတာပါ။

စာရေးသူ ။ မှန်ပါဘုရား။

ဆရာတော်။ မင်း သိရအောင် ခုတင်ကပြောခဲ့တဲ့ လက်တစ်ဆုပ်စာရှိတဲ့ နှလုံးသွေးကို ဟဒယရုပ်က မှီနေတယ်၊ ဒီဟဒယဝတ္ထုရုပ်ဟာ မနောဓာတ်၊ မနော ဝိညာဏဓာတ် စိတ်စေတသိက်တို့ တည်ရာဌာနပဲ၊ မနော ဝိညာဏဓာတ်၊ စိတ်တို့က စေခိုင်းရာကို တို့ရုပ်တွေ လိုက်လိုက် လုပ်နေရတာဘဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒါကြောင့် ပုဂ္ဂိုလ် သတ္တဝါ မဟုတ်၊သူ ငါ မဟုတ်၊ ဘုရားသခင်က "အသရီရံ ဂုဟာသယံ"ဟူ၍ လည်းကောင်း၊ "မစ္စုဝေဒသာ ဂုဟာသယော"ဟူ၍ လည်း

ကောင်း ဓမ္မပဒ ပါဠိတော်, သတ္တင်္ဂုတ္တရ ပါဠိတော်တို့မှာ ဟောတော်မူတယ်၊ ဒါဟာ "ဆ ဓာတုဝိဘင်္ဂ" ကမ္မဋ္ဌာန်းကို ဟောနေတာ။

စာရေးသူ။ နားလည်ပါပြီဘုရား။

ဆရာတော်။ ဘိက္ခဝေ—ရဟန်းတို့၊ ဣဒံ စိတ္တံ—ဤစိတ်သည်၊ အသရီရံ—ဝတ္ထု အထည်ကိုယ် မရှိ၊ ဂုဟာသယံ—နှလုံးတည်းဟူသော ဗူးလိုဏ်၌ ကိန်း၏၊ ဘိက္ခဝေ—ရဟန်းတို့၊ သေ ကောခေ—ဤအမျက်ဒေါသသည်၊ ဂုဟာသယော—နှလုံး ဗူးတွင်း လိုဏ်တွင်း၌ ကိန်း၏၊ မစ္ဆုဝေသော—သေမင်းနှင့် တူ၏၊ မြတ်စွာဘုရားသခင်က ဟောတော်မူခဲ့တယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ စိတ်စေတသိက်တို့ရဲ့ အစွမ်း အာနုဘော်ကြောင့် နှလုံးဗူးတွင်းရှိတဲ့ တစ်ဆုပ်စာမျှရှိ နှလုံးသွေးဟာ အဆင်းအမျိုးမျိုး ဖြစ်ပေါ်လာရတယ်၊ ရာဂ အားကြီးစွာဖြစ်ပေါ်လာတဲ့အခါ ဟင်္သာပြဒါးရည်ကဲ့သို့ နီနီရဲရဲဖြစ်ပေါ်လာတယ်၊ ဒေါသအားကြီး ဖြစ်ပေါ်လာတဲ့အခါ မဲပုပ်ပုပ်ဖြစ်ပေါ်လာတယ်၊ မောဟ အားကြီးသောအခါ အမဲသား ဆေးထားတဲ့ ရေလို နီကျဲကျဲဖြစ်လာတယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ဝိတက် အားကြီးတဲ့အခါ ပဲပိစပ်ပြုတ်ရေလို နီနောက်နောက် ဖြစ်တယ်၊ သဒ္ဓါအားကြီး ဖြစ်ပေါ်လာတဲ့အခါ ဝါဖြော့ဖြော့နေရာမှ အဖြူရောင် သန်းလာတယ်၊ ပညာအားကြီးတဲ့ အခါ ဆွတ်ဆွတ် ဖြူရာမှ မှန်ကဲ့သို့ ကြည်လင်လာပြီး ဇောတိသယ၊ မဏိဇောတ ပတ္တမြားလို အလင်းရောင်တွေ ထောက်ပလာတယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီနှလုံးက ညှစ်လွှတ်လိုက်တော့ ဗဟို သွေးကြောက တစ်ကိုယ်လုံး ပျံ့နှံ့သွားတော့ ဒေါသဖြစ်နေတဲ့ သူဟာ မဲပုပ်ပုပ်သွေးများ တစ်ကိုယ်လုံး ပျံ့နှံ့ သွား တယ်၊ အသားတွေလဲ ဒေါသဖြစ်လွန်းတော့ နီပြီး တုန်လာတာ တွေ့ရတယ်မဟုတ်လား မောင်ကျော်သိန်းရ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ အေး....နောက်တော့ ညိုပုပ်လာပြီး မကောင်းတဲ့ ဖြစ်မှုမျိုးစုံ ကျူးလွန်တဲ့အထိ ဖြစ်ပေါ်လာတော့တာပေါ့။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဘုရား ရဟန္တာများ ကျတော့ နှလုံးသွေးဟာ အထူးကြည်လင်တော့ ကိုယ်ရောင်ကိုယ်ဝါတွေဟာ တစ်ကိုယ်လုံး တောက်ပလာပြီး ရောင်ခြည်တော် လွှတ်တဲ့အထိ ဖြစ်ပေါ်လာရတယ်။

စာရေး သူ။ မှန်လှပါဘုရား။

ဆရာတော်။ ရှူးသွားတာလဲ့ ဒီနှလုံးသွေးပဲကွ၊ ကြောက်ရွံ့အားကြီးရင် နှလုံးသွေးဟာ အေးပြီး ပျစ်ချွဲလာတော့ တစ်ကိုယ်လုံး အေးစက်လာတယ်၊ အကြောက်လွန်တော့ နှလုံးသွေး အအေးလွန်ကာ ပျစ်ချွဲလာပြီး နှလုံးသွေး ရပ်တော့ သေရတာပေါ့။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီနှလုံးသွေး ထွက်ရာဝင်ရာ အဝမှာ အဆို့ရှင် လိပ်ပြာတောင်ကလေး နှစ်ခုရှိတယ်၊ စိတ္တဇဥပ္ပလ လေကြောင့် ဒီလိပ်ပြာတောင်နှစ်ခုဟာ အချက်ကျကျ ခတ်ပေးလိုက်လို့ ဒီသွေးတွေဟာ ဒိတ်ဒိတ် ဒိတ်ဒိတ်နဲ့ အချက်ကျကျ တစ်ကိုယ်လုံး သွားလာ ပျံ့နှံ့နေတာပေါ့။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီစိတ်ဟာ နှလုံးသွေးကို မှီနေတယ်၊ ဒီနှလုံးသွေး ဖောက်ပြန်ရင် စိတ်လဲ ဖောက်ပြန်လာတယ်၊ သေသေ ချာချာမှတ် ကြားလား၊ ဒီလောက် အပင်ပန်းခံပြီး ပြောနေတာကို လေးလေး စားစား မှတ်ပါ။

စာရေးသူ ။ မှတ်ပါတယ်ဘုရား။

ဆရာတော်။ မင်းတို့ရဲ့ ခန္ဓာကိုယ်တစ်ကိုယ်လုံး အစစအရာရာ ချုပ် ထိန်း စွမ်းဆောင်နိုင်အောင် နှလုံးမှ အကောင်းဆုံး သွေးကို လည်ပင်းကြော နှစ်ခုမှနေပြီး ဦးနှောက်ကို ရောက်အောင် ပို့ပေးနေရတယ်။

စာရေးသူ ။ မှန်လှပါ၊ အကောင်းဆုံးသွေး ဦးနှောက်ရောက် အောင် မပို့နိုင်ရင် ဘယ်လိုဖြစ်မှာလဲ ဘုရား။

ဆရာတော်။ သွေးကောင်းရောက်အောင် မပို့နိုင်ရင် မူးဝေမယ်၊ မေ့မြောနေမယ်၊ ရူးသွပ်သွားနိုင်တယ်၊ နောက်ဆုံး အသက်ဆုံးရှုံးတဲ့အထိ ဖြစ်နိုင်တယ်၊ အဲဒီ ပို့လိုက်တဲ့ သွေး ရောက်မှ အမြင်ဓာတ်ဆိုတဲ့ စက္ခုဝိညာဏ်ကတော့ မျက်စိမှာပေါ်တယ်၊ အကြားဓာတ်ဆိုတဲ့ သောတ ဝိညာဏ်ကတော့ နားမှာပေါ်တယ်၊ ဃာနဝိညာဏ် ဇိဝှာဝိညာဏ်တို့ကတော့ သူ့နေရာနဲ့သူ ပေါ်တယ်၊ ကာယဝိညာဏ်ကျတော့ ကိုယ်ပေါ်မှာ သုခ ဒုက္ခ ပေါ် တယ်၊ မင်းတို့ရဲ့ တကယ့် အသိဉာဏ်ကတော့ (မနော ဝိညာဏ်) ကတော့ ဟဒယဝတ္ထုထဲမှာ ပေါ်ရတယ်၊ ဒါကြောင့် ဟဒယဝတ္ထုထဲမှာ ပစ္စုပ္ပန်တည့်တည့်ကြီး ဖြစ်နေတဲ့နေရာမို့ အလွန်အရေးကြီးတယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဥပမာ ဆောင်ရမယ်ဆိုရင် မင်းတို့နေတဲ့အရပ် မီး လောင်နေတယ် ဆိုကြပါစို့၊ ဒီတော့ မင်းစိတ်မှာ "ငါ့အိမ်လဲ မီးလောင်ရောပါသွားမှာပဲ" ဆိုပြီး ကြားသိ

လျှင် ကြားသိချင်း ထိတ်ကနဲဆိုရင်ထဲကအပူ ခေါင်းထဲ ထိုးရောက်သွားပြီး မူးဝေမေ့လဲမတတ် ပြာလောင်ခတ် မသွားဘူးလား။

စာရေးသူ ။ ပြာလောင်ခတ်သွားပါတယ် ဘုရား။

ဆရာတော်။ ကိုင်း အဲဒါ ဘာကြောင့်လဲဆိုတော့ သောက ပရိဒေဝ တောက်လောင်လိုက်တာ မင်းရဲ့ နှလုံးသွေးဟာ ပူသွား ပြီး ဦးကျောက်ကိုသွေးကောင်းမပို့နိုင်တော့တဲ့ သောက ပူ, ဒေါသပူ စတဲ့ သွေးပူတွေသာ ပို့နေရတော့ ခေါင်း မီးလောင်နေတာပေါ့။

စာရေးသူ ။ တင်ပါ, ခေါင်းမီးလောင်နေမှာပါဘုရား။

ဆရာတော်။ နောက် လူကြုံလာလို့ မေးမြန်းကြည့်မှ ကိုယ့်အိမ်မပါ မှန်း သိလဲသိရော "ရင်ကို အေးသွားတာပဲ အခုမှ ဘဝင်ကျသွားတော့တယ်" လို့ မပြောကြားဘူးလား၊ ဘာကြောင့်လဲဆိုတော့ သောကပူ၊ ဒေါသပူ မရှိတော့ သွေးအေးသွေးကောင်း ပို့နိုင်လို့ပေါ့၊ မင်းတို့ အခု ပြောနေကြတဲ့ စကားရှိသားပဲ "သွေးအေးအေးထား ပါ" ဆိုတာလေ။

စာရေးသူ ။ မှန်လှပါ, အရေးကြီးတဲ့အခါ ပြောလေ့ရှိပါတယ် ဘုရား။

ဆရာတော်။ ဒါကြောင့် နှလုံးသွေးဖောက်ပြန်အောင် မလုပ်ဖို့, သွေးကြောကိုလဲ မထိခိုက်ဖို့ လိုတယ်၊ ကောင်းပြီ လည်ပင်းသွေးကြောနှစ်ခုကို ဖိနှိပ်ထားလိုက်ရင် နှလုံး သွေးကြောနဲ့ တစ်ဆက်တည်း ဖြစ်နေတော့ သွေး ဖောက်ပြန်ပြီး ဘဝင်ကျ မေ့သွားတတ်ပါတယ်၊ မောင် ကျော်သိန်း အခုပြောနေတာတွေ ရှင်းမှဲ့သား, နား မလည်တာရှိရင် မောင်လှဘူးတို့ကို မေးနိုင်တယ်။

စာရေးသူ ။ မှန်လှပါ, ရှင်းပါပြီဘုရား။

ဆရာတော်။ မောင်လှဘူးတို့ကလဲ မောင်ကျော်သိန်း နားမလည်တာရှိရင် ပြောပြလိုက်ပါ။

ဦးလှဘူး။ မှန်လှပါဘုရား။

ဆရာတော်။ ဒါကြောင့် တရားထိုင်ချိန်မှာ လည်ပင်းကို ရှေ့နောက်တေးစောင်းနေရင် အချိန်ကြာမြင့်တော့ ထိုင်းမှိုင်းတွေဝေ မေ့မြောနေတတ်တယ်၊ ဒါဟာ တရား အားထုတ်တဲ့ ယောဂီတွေ ကြပ်ကြပ်သတိထားဖို့ လိုတယ်လို့ အမြဲသတိပေးနေရတာပေါ့၊ တ ရား အား ထုတ် ရင်း ခေါင်းကို ရှေ့နောက်ဝဲယာ အချိန်အကြာကြီးစိုက်စောင်းထားလို့ မေ့မြောနေတတ်တာတာ တရားသဘော မဟုတ်ဘူး၊မောင်ကျော်သိန်း မင်းကတစ်ခါမှ အားမထုတ်ဘူးတော့ ခန္ဓာကိုယ်ကြီးကို ဓာတ်သဘောနဲ့ ဘယ်လို ဖွဲ့စည်းနေတယ်ဆိုတာ ရှင်းအောင်ပြောရတာ၊ ''ကဲ ဒီနေ့ ဒါလောက်ပဲပြောမယ်၊ မင်းလဲ သွားပြီး တရားအားထုတ်ချေတော့''။

ဟု အမိန့်ရှိလိုက်ပါသည်၊ ဆရာတော်ဘုရားကြီး အမိန့်ရှိသည့်အတိုင်း တရားထိုင်ရာ အရင်ရက်များက ထိုင်သည်ထက် (တရားအားထုတ်ရသည်ထက်)အချိန်ကြာမြင့်စွာ ထိုင်နိုင်ကြောင်းကို တွေ့ရှိရပါ၍ လွန်စွာဝမ်းမြောက်ရွှင်လန်း စိတ်ဓာတ်ကပင် အသိဉာဏ်ရင့်သန်ပွင့်လင်းလာပါတော့၏။ နောက်တစ်နေ့ ဆရာတော်ဘုရားထံ ရောက်သောအခါတွင် ဆရာတော်ဘုရားကြီးက....

ဆရာတော်။ မနေ့ကတော့ တရားထိုင်ပုံထိုင်နည်းနဲ့ ခန္ဓာကိုယ်ဖွဲ့စည်းပုံကို ပြောပြပြီးပြီ၊ ဒီနေ့တော့ ဓာတ် (၆) ပါး ရှုပုံရှုနည်းကို ပိုင်းခြားထင်ထင် ဟုတ်တိုင်းမှန်ရာကို သိမြင်နိုင်အောင် ဆဓာတုဝိဘင်္ဂကမ္မဋ္ဌာန်းကို အသေးစိတ်ဟောမယ်၊ သေသေချာချာမှတ်ပါ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဓာတ်ခြောက်ပါးဆိုတာ—
ပထဝီ အာပေါစ တေဇောစ၊ ဝါယောကာသ ဝိညာဏံ၊ နေယသာဟသ္မိ နေတံ မေ၊ ဧဝံ တတ္ထ ဝိရဇ္ဇတိ။ ဧဝံ ဝိရတ္တံ ခေမတ္တံ၊ သဗ္ဗ သညောဇနာတိဂံ၊ အန္ဒေသံ သဗ္ဗဌာနေသု၊ မာရသေနာပိနဇ္ဈဂါတိ၊ (ဆဓာတုဝိဘင်္ဂဓာတ်)လို့ ခေါ်တယ်။
(၁) ပထဝီလို့ခေါ်တဲ့ မြေဓာတ်က (က) ဗဟိဒ္ဓ အပြင် မြေဓာတ်၊ (ခ) အဇ္ဈတ္တ အတွင်းမြေဓာတ်လို့ နှစ်ပါးရှိတယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ (က) ဗဟိဒ္ဓ မြေဓာတ်ဆိုတာ ဗဟိဒ္ဓသန္တာန်မှာ မဟာပထဝီမြေကြီး၊ တော၊ တောင်၊ သစ်ပင်၊ ကျောင်း၊ အိမ်၊ တိုက်တာအစရှိတဲ့ မျက်စိနဲ့မြင်ကောင်းတဲ့ အလုံးစုံ အထည်ဝတ္ထုဟူသမျှကို ခေါ်တယ်။

စာရေးသူ။ တင်ပါ။

ဆရာတော်။ (ခ)အဇ္ဈတ္တမြေဓာတ်ဆိုတာ အသက်ရှိသတ္တဝါသန္တာန်မှ (၁) ဆံပင်၊ (၂) အမွေး၊ (၃) ခြေသည်း, လက်သည်း၊ (၄) သွား၊ (၅) အရေထူ အရေပါး၊ (၆) အသား၊ (၇) အကြော၊ (၈) အရိုး၊ (၉) ရိုးတွင်းခြင်ဆီ၊ (၁၀) အညှို၊ (၁၁) နှလုံး၊ (၁၂) အသည်း၊ (၁၃) အမြှေး၊ (၁၄) အဖျဉ်း၊ (၁၅) အဆုတ်၊ (၁၆) အူမ၊ (၁၇) အူသိမ်၊ (၁၈) အစာသစ်၊ (၁၉) အစာဟောင်း၊ (၂၀) ဦးနှောက် အစရှိသည့် နှစ်ဆယ်သော အစုကို ခေါ်တယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီနှစ်ဆယ်အပြင် မြေဓာတ်နှစ်ခု ရှိသေးတယ်၊ (၁) ကျောက်ကပ်၊ (၂) ကပ်ပယ်အိမ်၊ ဒီမြေဓာတ်

တွေမှာလဲ အဆင်းသဏ္ဍာန် တည်ရာဌာန တစ်ခုနှင့် တစ်ခု မရောယှက်တဲ့ အပိုင်းအခြား ပရိစ္ဆေဒကို လက်ဦးစွာ မှတ်ထား။

**စာရေးသူ။** တင်ပါဘုရား။

**ဆရာတော်။** မင်းရှုမှတ်ဖို့ရာ ဒီလိုလုပ်၊ မင်းရဲ့ ဆံပင် ခြေသည်း လက်သည်းတို့ကို ဉာဏ်နဲ့ယူ၊ လက်တစ်ဘက်မှာထား၊ သင့်တော်ရာ သချိုင်းပုံပေါ်က မြေကြီးခဲကိုယူ၊ အခြား လက်တစ်ဘက်မှာထား၊ ဒီ အဇ္ဈတ္တ ဗဟိဒ္ဓ နှစ်ပါးကို ယှဉ်ထားပြီး ဒီမြေကြီးခဲသည် ငါမဟုတ် ငါ့ဥစ္စာ မဟုတ်၊ ခက်မာခြင်းသဘောရှိတဲ့ မြေဓာတ်ပင်၊ ဒီ ဆံပင် ခြေသည်း လက်သည်းလဲ ငါမဟုတ် ငါ့ဟာ မဟုတ် မြေဓာတ်ပဲ ဘာမှမထူး အတူတူပဲလို့ ကြပ်ကြပ် ရှုပေးပါ။

**စာရေးသူ။** တင်ပါဘုရား။

**ဆရာတော်။** ဥပမာ မင်းရဲ့ အဇ္ဈတ္တဓာတ်ဖြစ်တဲ့ ခြေသည်း လက်သည်းကို လှီးဖြတ် သုတ်သင်လိုက်တာက ဗဟိဒ္ဓ အပြင်ဓာတ်သာ ဖြစ်သွားတယ်၊ ဒီ မြေခဲ ရွှံ့ခဲနဲ့ အတူတူသာ ဖြစ်သွားတော့တယ်၊မင်းတို့ရဲ့ဘိုးဘွားများ သေဆုံးလို့ မြှုပ်နှံထားတဲ့ မြေပုံပေါ်က မြေကြီးခဲ အမှိုက် ထင်း ခြောက်များကို အရပ်သူ အရပ်သားများက လာပြီး တူးရှင်းနဲ့တူး ဓားနှင့်ခုတ် မီးတိုက်သူကတိုက် ထင် သလို ပြုလုပ်ပေမဲ့ ငါ့အဖိုးအဖွားများကို ဓားနှင့် ခုတ် တုတ်နှင့်ရိုက် မီးတိုက်တာကို တားမြစ်လို့ မဖြစ် နိုင်သလို မင်းတို့ရဲ့ အဖိုးအဖွားများ အသားအရေ တို့ဟာ အဲဒီအချိန်မှာ မြေဓာတ်မို့ မြေပဲ တွေ့ရ တော့မယ်၊ မင်းတို့ ဘာမှ ငါ့အဖိုး အဖွားရယ်လို့ မပြောနိုင်ဘူး မဟုတ်လား၊ နောက် ကြာသွားရင် မြေဓာတ်ပဲ မဖြစ်ပေဘူးလား။

စာရေးသူ။ မှန်လှပါ, မပြောနိုင်ပါဘုရား၊ မြေဓာတ်ပဲ ဖြစ်မှာပါဘုရား။

ဆရာတော်။ နောက် (၂) အာပေါ့လို့ခေါ်တဲ့ ရေဓာတ်ဟာလဲ (က)ဗဟိဒ္ဓ အပြင်ရေဓာတ်, (ခ)အဇ္ဈတ္တ အတွင်း ရေဓာတ်လို့ နှစ်ပါးရှိတယ်။
(က) ဗဟိဒ္ဓ အပြင်ရေဓာတ် သဏ္ဌာန်မှာ–သမုဒ္ဒရာရေ၊ အင်း အိုင် ချောင်း မြောင်း ရေ၊ အခိုးအငွေ့မှ တဖြစ်လဲပြီး ကောင်းကင်မှ ကျလာတဲ့ရေ၊ ပေါင်းဖွဲ့ ယိုစီးခြင်း သဘောဖြစ်သော ရေဟူသမျှကို (အပြင် ရေဓာတ်)လို့ခေါ်တယ်။

စာရေးသူ။ မှန်လှပါ။

ဆရာတော်။ (ခ) အဇ္ဈတ္တ (အတွင်းရေဓာတ်) သဏ္ဌာန်မှာ–သက်ရှိသတ္တဝါမှန်သမျှ (၁) သည်းချေ၊ (၂) သလိပ်၊ (၃) ပြည်၊ (၄)သွေး၊ (၅)ချွေး၊ (၆)အဆီခဲ၊ (၇)မျက်ရေ၊ (၈)အဆီကြည်၊ (၉)တံတွေး၊ (၁၀)နှပ်၊ (၁၁) အစေး၊(၁၂)ကျင်ငယ်လို့ တစ်ဆယ့်နှစ်ပါး ပေါင်းဖွဲ့ ယိုစီးခြင်း သဘောရှိတဲ့ အရည်တွေကို အတွင်း ရေဓာတ်လို့ ခေါ်တယ်၊ ပြောခဲ့တဲ့ရေဓာတ် တစ်ဆယ့်နှစ်ပါးရှိတယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီအပြင် နောက်ထပ် (၁)သုက်၊ (၂) နို့ရေနှစ်ပါးလဲ ရှိသေးတယ်။

စာရေးသူ။ တင်ပါဘုရား။

ဆရာတော်။ ကဲ...သက်ရှိ သတ္တဝါတို့ စွန့်ပစ်လိုက်တဲ့ ကျင်ကြီး ကျင်ငယ်၊ နှပ်၊ တံတွေးများဟာ အဇ္ဈတ္တသဏ္ဌာန်မှ, ဗဟိဒ္ဓဓာတ်အဖြစ် ရောက်မသွားပေဘူးလား။

စာရေးသူ။ ရောက်ပါတယ်ဘုရား။

ဆရာတော်။ အဲဒီတော့ မင်း ဉာဏ်ယှဉ်ပြီး ခွက်တစ်ခုနဲ့ အင်းအိုင် ချောင်း မြောင်းက ရေကိုယူပြီးတော့ မင်းတို့ စွန့်ပစ်လိုက်တဲ့ ကျင်ငယ်ရေကိုလဲ ခွက်တစ်ခုနဲ့ ယူ ယှဉ်ထားပြီးတော့ သေသေချာချာ စဉ်းစားကြည့်ပါ၊ ကိုင်း.... ထိုပေါင်းဖွဲ့ယိုစီးခြင်း သဘောရှိတဲ့ ရေဓာတ်နဲ့ အတူတူပဲဆိုတာ တွေ့ရမယ်၊ ဒီရေသည် ငါမဟုတ် ငါ့ရေ မဟုတ်လို့ သိရမယ်။

တရေးသူ ။ မှန်လှပါ။

ဆရာတော်။ (၃) တေဇောဓာတ်ဆိုတာ အပူဓာတ် မီးဓာတ်ကို ခေါ်တယ်၊ ဒီတေဇောဓာတ်မှာလဲ (က)ဗဟိဒ္ဓ အပြင်မီးဓာတ်၊ (ခ) အဇ္ဈတ္တ အတွင်းမီးဓာတ်လို့ နှစ်ပါး ရှိပြန်တယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ (က) ဗဟိဒ္ဓ အပြင်မီးဓာတ်သဏ္ဌာန်မှာ ကမ္ဘာဖျက်မီး၊ အဝီစိငရဲမီး၊ ထမင်းဟင်း ချက်တဲ့ မီး၊ အပူဓာတ်နှင့် တွေ့ထိ၍ဖြစ်တဲ့မီးတို့ ဖြစ်တယ်၊ ကမ္ဘာအစွန်း၌ သက်ရှိ သတ္တဝါတို့ မနေနိုင်လောက်အောင် အေးတဲ့ မီး၊ တောတောင်တွေမယ် ရေတွေ အမြဲတမ်း ခဲခြင်း၊ ပူခြင်း၊ အေးခြင်း စတဲ့ အပူ အအေး ဟူသမျှတို့ကို ဗဟိဒ္ဓ(အပြင်မီးဓာတ်)လို့ ခေါ်တယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ (ခ) အဇ္ဈတ္တ အတွင်းမီးဓာတ်မှာ သက်ရှိသတ္တဝါ များမယ် (၁) ဉသ္မာမီး၊ (၂)ပါစကမီး၊ (၃) သန္တာပနမီး၊ (၄) ဒဟမီး၊ (၅)ဇီရဏမီး ရှိတယ်လို့မှတ်ပါ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ အဲဒီ ငါးပါးရှိတဲ့ အတွင်းမီးဓာတ်တို့ရဲ့ ပူမှု အေးမှု ဟူသော သဘော, လောင်ပုံ ကိစ္စတည်ရာ ဌာနတို့ကို ရှေးဦးစွာ မှတ်အုံး။

"ဥဿုဒမိုး"ဆိုသည်မှာ တစ်ကိုယ်လုံး၌ အတွင်းအပြင် မလပ်၊ လက်နဲ့စမ်းရင် နွေးနွေးတွေ့ရတဲ့ ပကတိ ကိုယ် ငွေ့ကိုခေါ်တယ်၊ ဒီ ပကတိ ကိုယ်ငွေ့ကို ဆိုအပ်တဲ့ ဥဿုဒမိုးဟာ ပူသောဥဏှမိုး ဖြစ်တယ်၊ အရေနှင့်တကွ အရေအတွင်း တစ်ကိုယ်လုံးအနှံ့စွဲပြီး နွေးရုံသာမက၊ လောင်နေတယ်၊ ဒီကိုယ်ငွေ့ ဥဿုဒမိုးဟာ အကြွင်း မရှိ အားလုံးချုပ်ရင် သတ္တဝါသေတယ်လို့ မှတ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ပါစကမိုးဆိုတာ အမျိုးမျိုး အစာ အာဟာရတို့ကို နူးနပ် ကြေစေတတ်တဲ့ ဝမ်းမီးကိုခေါ်တယ်၊ ဒီဝမ်း မီးလို့ ခေါ်အပ်တဲ့ ပါစကမိုးသည်လည်း လျှာခင် အောက် လည်ချောင်းဝမှ စပြီး ဘင်ဝ ဆုံးသည့် တိုင် အောင် တည်ရှိတယ်၊ အဆိုပါမီးသည် အစာအာဟာရ တို့ကို လောင်ချက်စေလျက် အစာသစ်အိမ်မှာ အား ကြီးစွာ စွဲ၍တည်တယ်၊ ဒီပါစကမိုးဟာ အကြွင်းမရှိ အားလုံးချုပ်ရင်လည်း သတ္တဝါ သေတယ်လို့ မှတ်ကြ။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ "သန္တာပနမိုး" ဆိုတာက ဥဿုဒခေါ် ပကတိ ကိုယ် ငွေ့ထက် ထူးချွန် လွန်ကဲပြီး ဖြစ်ပေါ်လာတတ်တဲ့ သူငယ်နာပူ၊ မီးယပ်ပူ၊ ဒူလာပူ၊ နေမကောင်း ထိုင် မသာ ဖျားတဲ့အပူ၊ မန်းရှိန်နဲ့တကွ ဖြစ်ပေါ်လာတဲ့ အပူနာမျိုး၊ဣရိယာပုထ်မပြောင်းလဲဘဲနေလို့ ဖြစ်ပေါ် လာတဲ့အပူ၊ လက်ဝါးနှစ်ခု ပွတ်တိုက်လို့ ဖြစ်ပေါ် လာရတဲ့အပူ၊ နေရှိန် မီးရှိန်သင့်ပြီး ဖြစ်ပေါ်လာတဲ့ အပူ၊ သောကပရိဒေဝအားကြီးလို့ ဖြစ်ပေါ်လာတဲ့ အပူ၊ ဒီလိုအပူမျိုးများကို သန္တာပနမိုးလို့ မောင်လှဘူး တို့ ခေါ်ရမယ်။

ဦးလှဘူး။ မှန်လှပါဘုရား။

အတူတူပဲမှန်းနွေးမှန်းသိပြီး ဒီသံရေသံခဲကိုစွဲပြီးလောင်နေတဲ့ ဗဟိဒ္ဓ မီးဓာတ်ဟာ ငါမဟုတ်၊ ငါ့ဥစ္စာလည်းမဟုတ်၊ ပူခြင်းသဘော၊ လောင်ခြင်းကိစ္စရှိသော မီးဓာတ်ပင်တည်း၊ ထို့အတူ အသည်းနှလုံးသွေးတို့စွဲပြီး လောင်နေတဲ့ အဇ္ဈတ္တမီးဓာတ်လည်း ငါမဟုတ်၊ ငါ့ဥစ္စာမဟုတ် ပူခြင်းသဘော၊ လောင်ခြင်းကိစ္စရှိတဲ့ မီးဓာတ်ပင် ဖြစ်တယ်၊ဒီအဇ္ဈတ္တ၊ဗဟိဒ္ဓ နှစ်ပါးစလုံးသော မီးဓာတ်သည် ငါမဟုတ်ပြီ၊ ငါ့ဥစ္စာလည်းမဟုတ်ပြီ၊ အတူတူ သဘာမျှမထူးကြပြီ၊ မြေဓာတ်၊ ရေဓာတ်တို့ကို စွဲပြီးလောင်နေတဲ့ မီးဓာတ်ပင်တည်းဟု အပြင်မီးဓာတ်နှင့် အတွင်းမီးဓာတ်ကို အတွင်းအပြင် မခြားမနား တစ်ထပ်တည်းတူအောင် ယှဉ်ပြကြည့်ရှုပွားများရမယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ (၄) ဝါယောဓာတ်ဆိုတာ လေဓာတ်ကို ခေါ်တယ်၊ ဒီလေထဲမှာလည်း (က) ဗဟိဒ္ဓ အပြင် လေဓာတ်၊ (ခ) အဇ္ဈတ္တ အတွင်းလေဓာတ်လို့ နှစ်ပါးရှိတယ်၊ (က) ဗဟိဒ္ဓ အပြင်လေဓာတ်ဆိုတာ အထက်ကောင်းကင်မှာ လွင့်တိုက်နေတဲ့လေ၊ အောက်ကောင်းကင်မှာ လွင့်တိုက်နေတဲ့လေ၊ကမ္ဘာဖျက်လေ၊ ဖိုထိုးတဲ့လေ အစရှိတဲ့ အလုံးစုံလွင့်ပါး လှုပ်ရှားခြင်း သဘော ထောက်ကန် တောင့်တင်းခြင်းသဘော ဟူသမျှကို အပြင်လေဓာတ်လို့ ခေါ်တယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ (ခ) အဇ္ဈတ္တ အတွင်းလေဆိုတာ သက်ရှိသတ္တဝါ သန္တာန်မှာ (၁) ထွက်သက်ဝင်သက် အဿာသပဿာသလေ၊ (၂) ဝမ်းတွင်းမှ အထက်လှန်ပြီး အပေါက်ရှိရာ ထွက်တဲ့ ဥဒ္ဓင်္ဂမဝါတလေ၊ (၃) ဝမ်းတွင်းမှ အောက်စုန်ဆင်းတဲ့ အဓောဂမဝါတလေ၊(၄)အတွင်း

မှာ အောင်းနေတဲ့ ကောဋ္ဌာသယဝါတလေ၊ (၅) အပြင်ဘက် ဝမ်းခေါင်း ရင်ခေါင်းထဲမှာ အောင်းပြီးနေတဲ့ ကုစ္ဆိသယဝါတလေ၊ (၆)ဝမ်းခေါင်း ရင်ခေါင်းမှလွတ်ရာ တစ်ကိုယ်လုံးအနှံ့ အင်္ဂါကြီးငယ်ကို လျှောက်သွား လှည့်လည်နေတဲ့ အင်္ဂမင်္ဂါနုသာရီ ဝါတလေ၊ ဒီ(၆) ပါးသော လှုပ်ရှား လွင့်ပါးခြင်းသဘော ထောက်ကန် တောင့်တင်းခြင်းသဘောတွေကို အဇ္ဈတ္တ အတွင်းလေဓာတ်လို့ ခေါ်တယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီလေဓာတ်တွေနဲ့ ပတ်သက်ပြီး (၁) မှ (၄) အထိ လေ ဓာတ်တွေကတော့ မင်းတို့ သိပြီး နားလည်ပြီးသားမို့ အသေးစိတ်မဟောတော့ဘူး၊ (၅) နှင့် (၆) လေဓာတ်တို့နှင့်ပတ်သက်ပြီး ဆိုးဝါးပုံကို ငါ အကျဉ်းမျှ ပြောပြမယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ကုစ္ဆိသယဝါတလေ ပျက်စီး ဖောက်ပြန် ထကြွရင် ဒီအခါ ဝမ်းကို ရင်ကို ဖောက်ပြီး ထွက်တတ်တယ်၊ အထက်အောက် ခြားထားသော အမြှေးလွှာ တို့ကို ဆုတ်ဖြတ် ဖောက်ခွဲတယ်၊ ဒီအခါ သတ္တဝါတို့မှာ သေရတယ်၊ ဒီကဲ့သို့ပြင်းထန် ဆိုးဝါးတဲ့ ကုစ္ဆိသယ ဓာတ်လေသည် ဝမ်းရင်ရဲ့အမြှေးလွှာတို့ကို ဆုတ်ဖြတ် ဖောက်ခွဲတတ်သဖြင့် ဓားငယ်ဦးချွန်းနှင့်တူလို့ လေ ဓားမြှောင်လို့ ခေါ်တယ်၊ (အင်္ဂမင်္ဂါနုသာရီလေ)ဖျက် ဆီးဖောက်ပြန် ထကြွသောင်းကျန်းရင် မျက်စိကြော၊ နားကြော၊ မေးကြော၊ လည်ပင်းကြော၊ ကိုယ်ကြော၊ ခြေထောက်ကြော အစရှိတဲ့ အကြောငယ် အကြော က်တို့ကိုဖြတ်လိုက်ရင် ပါးစပ်ရွဲ့၊ လည်ပင်းစောင်း ကိုယ်တစ်ခြမ်းသေ စပြီး အလွန်ဆိုးဝါးတဲ့ (လေသင်

ခုန်း) လို့ ခေါ်တယ်၊ဒီလေကတော့ မင်းတို့ ငါတို့ကို ဒုက္ခပေးမှာသေချာတယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ အထူးသဖြင့် ငါ့ကို ကုစ္ဆိသယလေနဲ့ အင်္ဂမင်္ဂါနုသာရီ လေတို့က သွေးကြောလေကြောဖြတ်မှာ သေချာပါ တယ်၊ ငါ့ရဲ့ကံက အပြတ်မှာ ဒီလေတွေက ဖြတ်ဖို့ရာ အချိန်ပိုင်းလေးပဲ စောင့်နေတာ မောင်လှဘူးရဲ့။

ဦးလှဘူး ။ မှန်လှပါဘုရား။

ဆရာတော်။ မင်း အခုလို ဘုန်းကြီးဆီကို တရားလာအားထုတ်တာ ဟာ အဖျား ချိတ်မိရုံလေး ချိတ်မိတယ်၊နောက်ပိုင်း ဆိုရင် ကုစ္ဆိသယလေနဲ့ အင်္ဂမင်္ဂါနုသာရီလေတွေက နှိပ်စက်တော့မယ်၊ ဒီလေနှိပ်စက်ရင် သွေးကြောတွေ ဟာ ဖောက်ထွက်ကုန်မယ်ဆိုတာ မောင်ကျော်သိန်း မှတ်ထား။

စာရေးသူ ။ မှန်လှပါ, ဆေးဝါးမှီဝဲရင် မရဘူးလားဘုရား။

ဆရာတော်။ ဟာ....မောင်ကျော်သိန်းရ၊ ဆေးဝါး ဆိုတာ ခဏ ကျားကန် (တားဆီး)ရုံပဲ ရတော့မပေါ့။

စာရေးသူ ။ မှန်လှပါဘုရား။

မှတ်ချက်။ ၁၃၁၈-ခုနှစ်, တော်သလင်းလဆန်း (၁၃)ရက် နေ့ ညက ဆရာတော်ဘုရားကိုယ်တိုင် ခေတ် (၆) ပါး ကမ္မဋ္ဌာန်းကိုဟောရင်း ကုစ္ဆိသယလေနဲ့ အင်္ဂမင်္ဂါ နုသာရီလေတို့ဟာ ငါ့ကို ဖြတ်မယ်၊ သွေးကြောတွေ ပေါက်မယ်—ဟု တိတိကျကျ ဟောခဲ့ပါသည်၊ ၎င်း တရားတော်ကို ဆရာတော် ည အထူးတရား(၈)နာရီ၌ ဟောစဉ်ကအသံကူးခဲ့သဖြင့် ယခု ဈာပနသတင်းကား တွင် တရားဟောခန်း၌ ၎င်းတရားကို ထည့်သွင်း ထားပါသည်။

**မှတ်ချက်။** “သွေးက အခဲ့ လေကအတိုး၊ ငါ့အကြောတွေပြတ်တဲ့အခါ မင်းတို့ကတော့ လေဖြတ်တယ်လို့ ဆိုမှာပဲ၊ မဟုတ်ဘူး၊ ကံဖြတ်တာ, ကံဖြတ်တာ၊ခက်လိုက်တဲ့ဖြစ်ခြင်း” ဆိုတဲ့ ဆရာတော်ဘုရားကြီးကိုယ်တိုင် ဟောခဲ့တဲ့ တရားတွေ စာရေးသူ၏နားထဲမှာ ဘယ်တော့မှ မေ့ပျောက်နိုင်မည် မဟုတ်ပါ၊ ထိုအချိန်က ဘာကို ရည်စူး၍ ဟောကြောင်းကို နားမလည်ခဲ့ပါ၊ ၆-နှစ်ကျော် ကြိုတင်ဟောထားသောတရား ဖြစ်ပါသည်။

**ဆရာတော်။** နှာခေါင်းဝမှ အဿာသ ပဿာသ ထွက်လေဝင်လေနဲ့ ဗိုက်နှတ်သီးဝ ထွက်လေဝင်လေကို လက်ဝါးနဲ့ ခံစမ်းကြည့်၊ တိုးဝှေ့ တိုက်လှင့်ခြင်း ကိစ္စရှိတဲ့ အဟုန်သဘော လှုပ်ရှားသွားလာခြင်း အတူတူဆိုတာ တွေ့လိမ့်မယ်။

**စာရေးသူ ။** မှန်လှပါဘုရား။

**ဆရာတော်။** ဒီနှာခေါင်းက ထွက်လာတဲ့လေဟာ ငါမဟုတ် ငါ ဥစ္စာမဟုတ်, တိုးဝှေ့ တိုက်ခတ်ခြင်းသဘော ဖြစ်တယ်လို့ သိရမယ်။

**စာရေးသူ ။** မှန်လှပါဘုရား။

**ဆရာတော်။** ရှုပုံရှုနည်း ပြောရမယ်ဆိုရင် လေတိုက်ပြီး လှုပ်နေတဲ့ သစ်ပင်ကြီးနဲ့ မင်းတို့ခန္ဓာကိုယ်ကြီးကို ယှဉ်ထားပြီး ကြည့်ပါ၊ ဒီသစ်ပင်ကြီးတစ်ပင်လုံးဟာ မြေဓာတ်ပဲ၊ ဒီမြေဓာတ်ဆိုတာ မိမိဘာသာ မလှုပ်ရှားတတ်၊ နေရာမှ မရွေ့တတ်၊ဒီမရွေ့တတ်တဲ့ ဒီအပင်ရဲ့ အကိုင်းအခက် အရွက်စတဲ့ မြေဓာတ်တွေဟာ လေတိုက်မှ ယိမ်းရတယ်၊ လှုပ်ရတယ်၊ သွက်သွက်ခါရတယ်၊ အဲဒီလိုပဲ မင်းတို့ခန္ဓာကိုယ်ဟာလဲ မြေဓာတ်တွေပဲ၊ ဒီမြေဓာတ်တွေဖြစ်တဲ့ခြေ,လက်,ခေါင်း, ဆံပင်,အမွေး, အရေ, အသား,အကြော, အရိုးအစရှိတဲ့ အင်္ဂါကြီး

ငယ်တွေဟာ အင်္ဂမင်္ဂါနဲ့သာရီလေ တိုက်လှင့်လို့ ယိမ်းရတယ်, လှုပ်ရတယ်, သွက်သွက်ခါရတယ်။

ငါ့ သာဓက တစ်ခုပြမယ်, ဘုရားရှင် လက်ထက်က 'နာဂသမလ' အမည်ရှိတဲ့ မထေရ်မြတ် တစ်ပါးဟာ မြို့တွင်းသို့ ဆွမ်းခံဝင်လာတယ်၊ ဒီအခါမှာ လမ်းဆုံ လမ်းမ လမ်းလေးခွမှာ ရုပ်အဆင်း အင်္ဂါပြေပြစ် ချောမောလှတဲ့ ကချေသည်မ တစ်ယောက်ဟာ လူထု ပရိသတ်ကြီး စွဲငြိ လောက် အောင်, ခါး, ရင်, တင်နှဲ နဲ့၊ အမျိုး မျိုး လှုပ် ရှား ကပြ အသုံးတော်ခံနေတာကို သွားပြီး တွေ့ရတယ်၊ ဒီအခါမယ် နာဂသမလ မထေရ်မြတ်က "အင်း-ရုပ်ရည်ရူပကာကလဲ လှပါပေတယ်၊ အကအခုန်ကလဲ ကောင်းပါပေတယ်၊ ဒါကြောင့်မို့လဲ အန္ဓပုထုဇဉ်တွေကို သူ့ရူပါရုံညွတ်ကွင်းနဲ့ အမိဖမ်းနိုင်တာပဲ" လို့ ဆင်ခြင်ပြီး ယောနိသော မနသိကာရကို ဖြစ်စေလျက် ဒီ ချောမောလှပတာဟာ မာတုဂါမ မဟုတ်, ရုပ်နာမ် ခန္ဓာငါးပါးသာ ဖြစ်တာပဲ၊ ယခုလို လှုပ်ရှားကခုန်နေတာလဲ အတွင်းလေဓာတ် မြေဓာတ် ရေဓာတ်တို့ တိုက်လှင့်နေခြင်းပဲ၊အင်္ဂမင်္ဂါနဲ့သာရီအတွင်းလေဓာတ် တွန်းကန် လှုပ်ရှားနေခြင်းပဲ၊အင်္ဂမင်္ဂါနဲ့သာရီ အတွင်းလေဓာတ်အားဖြင့် မျက်လုံး၊ မျက်တောင်၊ မေး၊ လက်၊ ခြေ လှုပ်ရှားမှုဖြစ်ရတာပဲ၊ ဗဟိဒ္ဓလေ တိုက်ခတ်ခြင်း ခံရတဲ့အခါ သစ်ပင်များ လှုပ်ရှားသကဲ့သို့ ပါကလားလို့ သတိသမ္ပဇဉ်နဲ့ ယှဉ်ပြီး ခန္ဓာဘက်သို့ ဝိပဿနာဉာဏ် လှည့်လိုက်တာ ဆွမ်းခံရင်း တစ်ခဏမှာပဲ ရဟန္တာအဖြစ် ရောက်ရှိသွားတယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ အဲဒီလို အဖြစ်သဘော အပျက်သဘော မသိဘဲ ဓာတ် အကြောင်း နားမလည်တဲ့ မင်းတို့အဖို့တော့ အလွန်

ကြည့်ကောင်းနေမှာပေါ့၊ ဒါကြောင့် မင်းကို ခေတ် ခြောက်ပါး၊ ခန္ဓာငါးပါးတို့ကို ကျကျနန ရှင်းပြော နေတာ၊ ရှင်းပြီလား၊ ဒါတွေဟာ အရေးကြီးတယ် နော်။

ရေးသူ ။ မှန်လှပါ သဘောပေါက်ပါပြီ ဘုရား။

**မှတ်ချက် ဆောင်ပုဒ်။** ဒွါရခြောက်ခွင်၊ ဉာဏ်နှင့်ယှဉ်၊ **အစဉ်**ရှုကြည့် မှတ်။

အဆင်းရှုပ်ကြည်၊ အသိမှီ၊ တွေ့ပြီခံစားတတ်။
ခံစားရလျှင်၊ နှစ်သက်ဝင်၊ ချွတ်တွင်သံသာခေတ်။
မဝင်နှစ်သက်၊ တစ်ချက်ချက်၊ မပျက်ရှုဉာဏ်ကပ်။
မရှုနေက၊ သမုဒယ၊ ဒုက္ခစက်ရဟတ်။
ရှုကြည့်သူမှာ၊ နိရောဓာ၊ မဂ္ဂါနှစ်ပါးမြတ်။

ဆရာတော်။ **အေး....** အခု အာကာသခေတ်အကြောင်း ဆက်ပြော ရအုံးမယ်။

(၅) အာကာသခေတ်မှာလဲ နှစ်ပါးရှိတယ်၊ (က) ဗဟိဒ္ဓ အပြင်အာကာသခေတ်၊ (ခ) အဇ္ဈတ္တ အတွင်း အာကာသခေတ်လို့ ခေါ်တယ်။ (က) အပြင် အာကာ သခေတ်ဆိုတာ ရေ မြေတို့ရဲ့ အောက်မှာရှိတဲ့ အာကာ သ၊ ရေ မြေတို့အပေါ်မှာရှိတဲ့ အာကာသ၊ ကျောင်း အတွင်း တိုက်တာ အဆောက်အဦတို့ အတွင်း ရေ ခေတ် မြေခေတ်တို့နဲ့ မထိဘဲရှိတဲ့ နေရာတွေအားလုံး ကိုလဲ အပြင်အာကာသလို့ ခေါ်တယ်။

ရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ (ခ) အတွင်းအာကာသ ဆိုတာကတော့ သက်ရှိ သတ္တဝါ သန္တာန်တွေမှာ (၁) နားပေါက်၊ (၂) နှာခေါင်းပေါက်၊ (၃) ပါးစပ်ပေါက် စသော မြေ

ခေတ်မရှိတဲ့ ဟင်းလင်းပြင်ပေါက်ဟူသမျှကို အဇ္ဈတ္တ အတွင်းအာကာသလို့ ခေါ်တယ်၊ တောင်ပို့တစ်ခု ဖြစ်ဖြစ်၊ အခေါင်းပေါက်ရှိတဲ့ သစ်ပင်ကိုဖြစ်ဖြစ် တွေ့တဲ့အခါမှာ ဒါတွေဟာအပြင်အာကာသတွေပဲ၊ ငါ့ ကိုယ်မှာရှိတာနဲ့ ဘာမျှမခြားဘူး အတူတူပဲ၊ အတွင်း အပြင်သာ ကွဲတာပဲလို့ ဆိုတာ ရှုတတ်ရမယ်၊ ကြား လား။

စာရေးသူ ။ မှန်လှပါ ရှုတတ်ပါပြီ ဘုရား။

ဆရာတော်။ ကိုင်း မင်းကို ငါ ဥပမာတစ်ခု ပြဦးမယ်၊ အိုးတစ်ခု လုံးမှာ ရေတစ်ဝက်လောက်ထည့်ပြီး ပွက်ပွက်ဆူအောင် ချက်ထားတဲ့ အမဲဟင်းလျာအိုးထဲကဟာကို ခေတ် ငါးပါး ကွဲပြားအောင် ခွဲပြမယ်၊ သေသေချာချာ မှတ်ထား။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဟင်းအိုးအတွင်းက အတုံးတွေ အဖတ်တွေ မာတာ တွေက မြေခေတ်လို့မှတ်ထား၊ အရေတွေဟူသမျှကို ရေခေတ်လို့ မှတ်ထား၊ ဒီဟင်းအိုးထဲကို နှိုက်ရင် ပူတာလောင်တာကို တွေ့ရမယ်၊ ဒါကို မီးခေတ်လို့ မှတ်ထား၊ အဖတ်တွေ အရေတွေကို တိုးတက်တိုက်လှုပ် နေတဲ့ အဟုန်၊ အပေါ်ကို တရှူးရှူး တရှဲရှဲ တက်နေ တဲ့ အခိုးအငွေ့တွေကို လေခေတ်လို့ မှတ်ထား၊ ဒီ အဖတ်တွေ အရေတွေရဲ့ အပေါ် အိုးနှုတ်ခမ်းအတွင်း ဟင်းလင်း လပ်နေတဲ့နေရာကို အာကာသခေတ်လို့ မှတ်ထား။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ကောင်းပြီ ဒီအိုးထဲကအဖတ်ကို ကိုင်ကြည့်ရင် ပူမယ်၊ ပူတာ အဖတ်မဟုတ်၊ အဖတ်ဟာ အပူမဟုတ်၊ အဖတ် က မြေခေတ်ပဲ၊ ပူခြင်းသဘောက မီးခေတ်၊ ခေတ်

ဆိုတာ အရာဝတ္ထု၊ အကောင်အထည် မရှိဘူး၊ မီးတောက်ကို လက်နဲ့ကိုင်ကြည့် ဖမ်းကြည့် ဆုပ်နယ်ကြည့်ပါ၊ မင်း သိလိမ့်မယ်၊ အရေတွေကို လက်နဲ့နှိုက်ကြည့် ပူရမယ်၊ ဒါဟာ ပူတဲ့ရေမဟုတ်၊ အရေဟာ အပူမဟုတ်၊ အရေကား ရေဓာတ်၊ ပူခြင်းသဘောက မီးဓာတ်။

ာရေးသူ ။ မှန်လှပါဘုရား။

ရာတော်။ ကိုင်း....တရှုးရှုးတရှဲရှဲမြည်နေသော အိုးထဲက အခိုးအငွေ့အဟုန်တွေကို လက်ဝါး ခံပြီးထားလျှင် ပူရမယ်၊ ပူတာ အခိုးမဟုတ်၊ အခိုးအဟုန်ဟာအပူမဟုတ်၊ အခိုးအဟုန်များက လေဓာတ်၊ ပူခြင်းသဘောဟာ မီးဓာတ်၊ ဒီမီးဓာတ်ဟာ မြေဓာတ် ရေဓာတ် လေဓာတ်တို့ကို စွဲပြီး လောင်နေတယ်၊ ဒါဟာ ပူတဲ့ ဥဏှမီးနဲ့ယှဉ်တဲ့ ဓာတ် ငါးပါးပဲ၊ အေးတဲ့ သီတမီးနဲ့ ယှဉ်ပြီး ဖြစ်တဲ့ ဓာတ် ငါးပါးကတော့ ရေခဲသေတ္တာထဲ ထည့်ထားတဲ့ ဘိလပ်ရည်ပုလင်းကို ကြည့်ပါ။

ာရေးသူ ။ မှန်လှပါဘုရား။

ရာတော်။ ဓာတ်ငါးပါးကို ပြောပြီး ငါတို့ မင်းတို့ နေကြတဲ့ ဒီကမ္ဘာတင်မက အနန္တစကြဝဠာလောကရှိတဲ့ ဗာဟိရဓာတ်တွေကို ဒီအမဲဟင်းအိုးနဲ့ယှဉ်ကြည့် ဆင်ခြင်ကြည့် တူညီတာတွေ့ရမယ်၊ ဓာတ်တွေကို မင်းတို့ခေတ်အခေါ်အဝေါ်တွေ အားလုံး ချုံးလိုက်ရင် ဒီဓာတ်ငါးပါးပဲ တွေ့ရမယ်၊ ဒီဓာတ်ငါးပါးမှ တစ်ပါး "နတ္ထိကိဉ္စိ" တစ်စုံတစ်ခု ဘာမှ မရှိတော့ဘူး။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ကိုင်း....မင်းတို့ခန္ဓာ အဇ္ဈတ္တ အတွင်းဓာတ် ငါးပါးနဲ့၊ ဗာဟိရ အပြင်ဓာတ် ငါးပါးကို တစ်ထပ်တည်းတူအောင် ကြည့်ရှုဖို့တော့ ခက်နေသေးလား။

စာရေးသူ ။ မခက်ပါဘုရား, ဆင်ခြင်နိုင်ပါတယ် ဘုရား။

ဆရာတော်။ ကဲ....မင်းတို့ရဲ့ အဇ္ဈတ္တ အတွင်းသဏ္ဌာန်မှာလဲ နာမ်ဓာတ်ကို ချန်ထားရင် ဒီဓာတ်ငါးပါးမှ တခြား "နတ္ထိ ကိဉ္စိ" ဘာမှ မရှိတော့ဘူး။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီတစ်ခါ ဝိညာဏဓာတ်ကို ပြောပြမယ်၊ ဒီ ဝိညာဏဓာတ်ဆိုတာ နာမတီတိ နာမံ၊ နာမတီ–အာရုံဆီသို့ ရှေးရှုပြေးတတ် သွားတတ် ညွတ်တတ်သော အနက်သဘောကြောင့်၊ နာမံ၊–နာမ် ဟု ခေါ်တယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ စောစောက ပြောခဲ့တဲ့ ဓာတ်တွေကိုတော့ ရုပ္ပတီတိ ခေါ်ဘိက္ခဝေ တသ္မာ ရူပန္တိ ဝုစ္စတိ၊ ဘိက္ခဝေ– ရဟန်းတို့၊ ယံ ခမ္ဗဇာတံ–အကြင် ပထဝီဓာတ် အစရှိသော တရားသဘောသည်၊ ရုပ္ပတိ–အချမ်း အပူ စသည်တို့ကြောင့် အထင်အရှား ဖောက်ပြန်တတ်၏၊ တသ္မာခေါ–ထို့ကြောင့်ပင်လျှင်၊ တံ–ထိုတရားသဘောကို၊ ရူပန္တိ–ရုပ် ဟူ၍၊ ဝုစ္စတိ–ခေါ်ဆိုအပ်၏ လို့ ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်မှာလာတဲ့ ဘုရားရှင်ရဲ့ ဝိဂ္ဂဟ်တော်နဲ့ အညီ, အချမ်း အပူတို့နဲ့ တွေ့ကြုံတဲ့ အခါမှာ ထင်ထင် ရှားရှား ဖောက်ပြန်တတ်သော ကြောင့် "ရုပ်"လို့ ခေါ်တယ်၊ ဒါကြောင့် ဓာတ်ခြောက်ပါးကို အကျဉ်းချုံးပြီး ရုပ်ဓာတ် နာမ်ဓာတ် လို့ ဓာတ်နှစ်ပါးပဲ ခေါ်ရမယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ပထဝီ တေဇော အာပေါ ဝါယော၊ အာကာသ ဓာတ်ငါးပါး ပေါင်းစပ်တာက ရုပ်ဓာတ်၊ ဒီရုပ်တွေ လှုပ်ရှား ပျက်ပြားခြင်းကို ကောင်းဆိုး ဝေဖန် ခံစားခြင်းကို သိမှုက ဝိညာဏဓာတ်လို့ ခေါ်တယ်။

စာရေးသူ ။ မှန်လှပါဘုရား၊ အခုမှ ရုပ်ဓာတ် နာမ်ဓာတ် ကွဲပါတော့တယ် ဘုရား။

ဆရာတော်။ မင်း အခု ပြောခဲ့တာတွေ သေသေချာချာ သဘော ပေါက်ကဲ့လား၊ မင်းတို့က ဗဟိဒ္ဓ အပြင်ဓာတ် ငါးပါး ကိုတော့ သူပဲ ငါပဲ၊ ယောကျ်ား မိန်းမ, မခွဲခြားဘဲ အဇ္ဈတ္တ ဓာတ်ငါးပါးကိုသာ ယောကျ်ား မိန်းမ, သူ ငါ ခွဲခြားပြီး စွဲမှတ်နေကြတာကိုး၊မင်းတို့ရဲ့အတွင်း ဓာတ်တွေဟာ အခုလို တစ်လုံးတစ်စည်းတည်း ပေါင်း စပ်မနေဘဲ အပြင်ဓာတ်တွေလိုပဲ တစ်ကွဲ တစ်ပြားစီ နေတာကို ပိုင်းခြား တတ်မယ်ဆိုရင်(ပုဂ္ဂိုလ်သတ္တဝါ) လို့ကော စွဲလမ်းနေအုံးမှာလား။

ဒါရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ သူ ငါ ယောကျ်ား မိန်းမလို့ကော ထင်အုံးမှာလား၊ ယောကျ်ား မိန်းမဆိုတာ ဓာတ်ခြောက်ပါးပဲ ရှိတယ်၊ ပညတ်အဆိုသာ ယောကျ်ား မိန်းမ ခွဲကြတာပါ၊ အဟုတ် မရှိ တကယ် မရှိပါဘူး၊ တကယ်ရှိ အဟုတ်ရှိ တာက တစ်ကိုယ်လုံး တစ်ကောင်လုံးမှာရှိတဲ့ မာမှု ပျော့မှုဆိုတဲ့ (ပထဝီဓာတ်)၊ ဖွဲ့စည်းမှု ယိုစီးမှု ဆိုတဲ့ (အာပေါဓာတ်)၊ပူမှု အေးမှုဆိုတဲ့ (တေဇောဓာတ်)၊ တောင့်တင်းမှု ဖောင်းပွမှု ထောက်ကန် လှုပ်ရှားမှု ဆိုတဲ့ (ဝါယောဓာတ်)၊ တစ်ပါးကလာပ် မရောစပ်ရ အောင် ပိုင်းခြားထားသော(အာကာသဓာတ်)၊သိမှု ဆိုတဲ့ (ဝိညာဏဓာတ်)၊ ဒီဓာတ် ခြောက်ပါး သာ ပေါင်းစည်းနေခြင်း ဖြစ်တယ်ဆိုတာ သဘောပေါက် ပြီလား။

စာရေးသူ ။ မှန်လှပါ, သဘောပေါက်ပါပြီဘုရား။

ဆရာတော်။ အေး....ဒီလိုသဘောပေါက်ရင် အခြားပုဂ္ဂိုလ်က ဒါ လူပဲ၊သတ္တဝါပဲလို့ ပြောရင် မင်းတို့က မယုံတော့ဘူး၊ သူတို့ နားမလည်လို့ ပြောတာပဲလို့ မင်းတို့က ပြန် ပြောလိမ့်မယ်။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ ကဲ....မောင်ကျော်သိန်း မင်း ရုပ်ဓာတ် နာမ်ဓာတ်ဆို တာ ကွဲကွဲပြားပြား သိပြီနော်၊ ဒီကနေ့ည ပြောတာ တွေ နားလည်ရဲ့ မဟုတ်လား၊ ဒိဋ္ဌိခွာပုံလဲ ပြပြီးပြီ၊ ပဋိစ္စသမုပ္ပါဒ်နည်းနဲ့လဲ ခွဲပြပြီးပြီ၊ရုပ်ဓာတ် နာမ်ဓာတ် နှစ်ပါးကို ဖြစ်ပျက် မြင်အောင် ရှုရမယ်၊ (၁) ရုပ် ဓာတ် နာမ်ဓာတ်ကို ဖြစ်ပျက် မြင်ရင် ယထာဘူတ ဉာဏ်၊ (၂)ဖြစ်ပျက်မုန်းလျှင် နိဗ္ဗိန္ဒာဉာဏ်၊ (၃) ရုပ် နာမ် ဖြစ်ပျက်ဆုံးလျှင် မဂ်ဉာဏ်၊ မှတ်ထား။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ယထာဘူတဉာဏ်နဲ့ နိဗ္ဗိန္ဒာဉာဏ် (၂)ပါးက ဖြစ်ပျက်ကို မြင်တယ်၊ မဂ်ဉာဏ်က မဖြစ် မပျက်တာကို မြင်တယ်၊ ဒီတော့ မင်းရဲ့တာဝန်က အလုပ်လုပ်ဖို့ပဲ ကျန်တော့ တယ်။

စာရေးသူ ။ မှန်လှပါ၊ တပည့်တော်ရဲ့ တာဝန်ပဲ ကျန်ပါတော့ တယ် ဘုရား။

ဆရာတော်။ ကဲ...မင်းပြန်ပြီး တရားအားထုတ်ချေတော့၊မောင်လှ ဘူးတို့ မောင်ချစ်စိန်တို့ကလဲ မောင်ကျော်သိန်း နား မလည်တာရှိရင် ပြောပြလိုက်ကြ ကြားလား။

စာရေးသူ ။ မှန်လှပါဘုရား၊ တပည့်တော် အထူးကြိုးစားပါမည် ဟု လျှောက်ထားကာ ဆရာတော်ဘုရားထံမှ ပြန်လည်၍ ဆရာတော် သွန်သင်ပြသသကဲ့သို့ အားထုတ်ပါသည်။

ထိုကဲ့သို့ ကြိုးစား အားထုတ်လိုက်သည့်အခါကျမှ သူငါမဟုတ် ကိုယ်သဘောအတိုင်း ဘာမျှ မလိုက်နိုင် ဓာတ်သဘော အတိုင်း ဖြစ် နေပြီး၊ အကြောင်းကြောင့် အကျိုးဖြစ်ပုံ ပျက်ပုံ အလုံးစုံကို ကောင်း စွာ ထင်မြင်လာပါတော့သည်။

ကျွန်တော် တရားအားထုတ်နေစဉ် အတွင်းဝယ် ကျွန်တော်နှင့် တကွ ယောဂီသစ်များ တရားနာ ပရိသတ်များအား ဟောကြား

တော်မူသော ၁၃၁၈-ခု၊ တော်သလင်းလဆန်း (၁၃)ရက်(၁၄)ရက် (၁၅)ရက်နေ့ အထူးသီးသန့် ညနေ(၃)နာရီတွင် ဟောသော အလုပ်ပေး တရားတော်များကို စာရှုသူများ ဆက်လက် နာယူနိုင်ကြပါရန် ရည်သန်၍ အသံကူးစက်မှ ပြန်လည်ကူးယူ ရေးသား ဖော်ပြလိုက်ရပါသည်။

## ၁၃၁၈-ခု၊ တော်သလင်းလဆန်း (၁၃)ရက် တရားနာ ပရိသတ်များအား ဟောကြားသော အလုပ်ပေး တရားတော်

**တကာတကာမတွေ** ဒီနေ့တော့ လူသစ်တွေလာပြီး တရားနာကြ၊ တရားအားထုတ်ကြလို့ ဝိပဿနာ လက်တွေ့လုပ်နည်းကို စပြီး ဟောရလိမ့်မယ်၊ ဝိပဿနာအလုပ် စမယ်ဆိုရင် မိမိစိတ်ကို အဓိပတိ သုံးပါးကို အားထားရမယ်၊ တရားထိုင်တဲ့အခါမယ် ဆိတ်ငြိမ်တဲ့နေရာမှာ ထိုင်ပါ၊ ဆိတ်ငြိမ်ပြီး အနှောင့်အယှက် မဖြစ်တဲ့ နေရာဟာ တောပါပဲ၊ ဘုရားကို ရှိခိုးကန်တော့၊ မိမိခန္ဓာကိုယ်ကို တရားမထိုင်မီ ဘုရားကို လှူထားပါ၊ ပြီးတော့ သမ္မာဒေဝ နတ်ကောင်း နတ်မြတ်များကို အမျှဝေပါ၊ ခန္ဓာကိုယ်ကို အချိန်ကြာကြာ တရားအားထုတ်နိုင်အောင် တည့်တည့်မတ်မတ်ထိုင်ပါ၊ ဘယ်ဘက်မှီမစောင်းပါနှင့်၊ ရှေ့ကိုလဲ မငိုက်စေပါနှင့်၊ ကိုယ်ကို ဖိညှစ်မထိုင်ဘဲ ခပ်လျော့လျော့ ထိုင်ပါ၊ တောင့်မထားပါနှင့်၊ ထွက်သက်ဝင်သက် အာနာပါနကို စိတ်တည်ငြိမ်ပြီး သမာဓိရအောင်လုပ်ပါ၊ ဝင်လေလဲသိ၊ ထွက်လေလဲ သိပြီး ငါစွဲမစွဲစေနဲ့၊ အဲဒီလို သတိကို လက်မလွှတ်စေဘဲ ထွက်လေ ဝင်လေကို သိသိနေတာ ကြာရင် သမာဓိလဲ အားကောင်းလာမယ်၊ အဲဒီသမာဓိ အားကောင်းလာတဲ့အချိန် ဝီရိယကို အလျော့မပေးဘဲ သတိနှင့်ပညာကို ကပ်ပြီးလိုက်ပါ။

တရားထိုင်ရတာ ကြာတော့ ရုပ်တွေက ဖောက်ပြန်လာပြီး ဝေဒနာတွေ ပေါ်လာတယ်၊ တောင့်လာတာ ညောင်းလာတာကို

ဉာဏ်ကသိလာတယ်၊ ညောင်းတာရယ်၊ ညောင်းမှုန်း သိတာရယ်၊ အဲဒီနှစ်ခုတို့ကို ဖြစ်ပြီး ပျက်သွားတာပဲလို့ သိလိုက်ပါ။

မှန်လှပါဘုရား။

အဲဒီလို သိလိုက်တဲ့စိတ် တစ်ချက်မှာ ညောင်းတဲ့ ရုပ်နဲ့ ညောင်းတဲ့စိတ် မရှိတော့ပြီ၊ ချုပ်ပျောက်သွားကုန်ပြီလို့ နောက်ဉာဏ်က သိလိုက်ပါ၊ ညောင်းတာ တောင့်တာ ပူပြင်ပြီး မပေးသမျှ ညောင်းတာတွေ တစ်ခုပြီးတစ်ခု ဖြစ်ပြီး ပျက်နေအုံးမှာမို့ ဒူးကလေး ခြေကလေး ဆန့်ချင်တဲ့စိတ်၊ ပြောင်းချင်ရွှေ့ချင်တဲ့စိတ် ပေါ်လာလိမ့်မယ်၊ အဲဒီအခါမှာ မိမိတို့ဉာဏ်က ဆန့်ချင်ကွေးချင်ပြန်သတဲ့၊ ပြောင်းချင် ရွှေ့ချင်ပြန်သတဲ့လို့ သိလိုက်ပါ ၊ သိလိုက်တဲ့တစ်ချက်ထဲမှာ ထိုဆန့်ချင် ကွေးချင် ပြောင်းချင်တဲ့ ရုပ်နာမ်တွေ မရှိတော့ပြီလို့ ထပ်သိလိုက်ပါ၊ အဲဒီလို သိနေတုန်းကြားထဲဖြတ်ပြီး အသံတစ်ခု ကြားလိုက်က ကြားပြန်ပြီလို့ သိပါ၊အဲဒီလို ခန္ဓာငါးပါးမှာ တစ်ခုခု ပေါ်လာတိုင်း ပေါ်လာတိုင်း သိပြီး၊ ဖြစ်ပြီး ပျက်သွား ပျောက်သွားပါကလားလို့ သိရမယ်။

မှန်လှပါဘုရား။

အဲဒီလို အသိတရားတွေ ကျနေရာက စိပ်သည်ထက် စိပ်ပြီး လာတာတွေကို ဉာဏ်နဲ့မှတ်၊ တဖြည်းဖြည်း ရုပ်နာမ်တရားတွေ တစ်ခုပြီး တစ်ခု ဖြစ်ပြီး ပျက်သွားတာကို သတိနှင့်စိုက်ကြည့်က တွေ့လိမ့်မယ်။ အနိစ္စ၊ ဒုက္ခ၊ အနတ္တလို့ ပါဠိလို ရွတ်မနေပါနှင့်တော့၊ ဖြစ်ပြီး ပျက်သွားပါကလားလို့ တစ်ခုတည်းကိုသာ သတိနဲ့စိုက်ပြီး ကြည့်နေရင် ဆင်းရဲတဲ့သဘော၊ အစိုးမရတဲ့သဘောကိုသာ ပိုထင်မြင်လာလိမ့်မယ်၊ ဒီလို မိမိတို့ ခန္ဓာကိုယ်မှာ ပေါ်တိုင်း ပေါ်တိုင်း ဖြစ်ပျက်တွေ ရှုကြည့်ဖန်များလာက မိမိရဲ့ခန္ဓာကိုယ်ကို ရွံမုန်းလာတော့တာပဲ၊ အဲဒီအခါမှာ မိမိတို့ ခန္ဓာကိုယ်ကို စွန့်လွှတ်ချင်တဲ့စိတ် ဖြစ်လာမယ်။

မှန်လှပါ။

ခန္ဓာကိုယ်ရှိရင် ဤလို ဖြစ် ပျက် ဒုက္ခနှင့် မကင်းနိုင်ဘဲ၊ အို နာ သေ ဆိုတဲ့ ဒုက္ခသစ္စာနှင့် တွေ့ကြရအုံးမှာမို့ ကြောက်ရွံ့ပြီး

မိမိခန္ဓာကိုယ်ကိုပဲ ရှုမှန်းလာမယ်၊ ဖြစ်ပျက်ကို ရှုဖန်များလာရင် လောဘ ဒေါသ မောဟ ၃ ပါးစလုံး တဖြည်းဖြည်း ခေါင်းပါးပြီး နောက်ဆုံး လွင့်ပျောက် ခန်းခြောက်သွားအောင် ဖြစ်ပျက်ဆုံးအောင် ပွားများ အားထုတ်ဖန်များက ယခုဘဝမှာပင် မဂ်ဖိုလ်ကို ရနိုင်တယ်။ (မှန်လှပါ)

ဒါကြောင့် ကြိုးစားပြီး မိမိတို့ခန္ဓာကိုယ်ကို ဖြစ်ပျက်ရှုကြပေတော့၊ ဖြစ်ပြီး ပျက်တဲ့သဘောမှတစ်ပါး ဘာမှမရှိဘူးဆိုတာ တွေ့ရလိမ့်မယ်၊ အဲဒီလို ရှုဖန်များလာရင် ဤကား ရုပ်၊ ဤကား နာမ်လို့ ပိုင်းခြားသိလာတော့ နာမရူပပရိစ္ဆေဒဉာဏ် ရလာတယ်၊ နောက် နာမ်ရုပ်တို့၏ဖြစ်ပေါ်ရင်း အကြောင်းတရားတို့ကို ဆင်ခြင်ပြီး ဒီနာမ် ရုပ်ဟာ အဝိဇ္ဇာ, တဏှာ, ဥပါဒါန်, ကံဆိုတဲ့ အကြောင်းတရား လေးပါးကြောင့် ဖြစ်ပေါ်လာတဲ့ အကျိုး တရားပါကလား၊ အကြောင်းလဲ ဖြစ်ပျက်၊ အကျိုးလဲ ဖြစ်ပျက်ပဲလို့ ရှေးအတိတ်ဘဝက အဝိဇ္ဇာ တဏှာ ဥပါဒါန် ကံတို့ကို ရှာမှီး သိမ်းဆည်းနိုင်သော ပစ္စယပရိဂ္ဂဟဉာဏ် ရလာမယ်။

နောက် ရုပ်နာမ်တို့၏ ဖြစ်လတ္တံ့ ဖြစ်ဆဲ ဖြစ်ပြီးတို့ကို အတိတ် ပစ္စုပ္ပန် အနာဂတ်ဆိုတဲ့ ကာလသုံးပါးကို ပိုင်းခြား၍ အနိစ္စ ဒုက္ခ အနတ္တဟူသော လက္ခဏာရေးသုံးပါးဖြင့် ဆင်ခြင် သုံးသပ်ခြင်းတည်းဟူသော သမ္မသနဉာဏ်အဆင့်သို့ ရောက်လာမယ်။

နောက် ယခု ဖြစ်ဆဲ ပစ္စုပ္ပန်ဖြစ်သော ရုပ်နာမ်တို့၏ ခဏမစဲ တသဲသဲ ဖြစ်ပျက်နေမှုကို ရှုခြင်းဆိုတဲ့ ဥဒယဗ္ဗယဉာဏ် ပေါ်လာမယ်၊ နောက် ရှုဖန်များလာရင် အပျက်ကိုသာ သိမြင်လာတဲ့ ဘင်္ဂဉာဏ် ပေါ်လာမယ်၊ ဤကဲ့သို့ ရှုဖန်များလာရင် ရုပ်နာမ်တို့၏ ပျက်မှု ချုပ်မှုကိုသာ မြင်လာသဖြင့် ကြောက်ဖွယ်သော ဘေးကြီးဟု ထင်လာသော ဘယဉာဏ် ပေါ်ပေါက်လာမယ်။

နောက် ရုပ် နာမ် တို့၏ ချုပ်ပျက်မှုစသော အပြစ်တွေကို ထင်မြင်လာသော အာဒီနဝဉာဏ် ရလာမယ်၊ နောက် မိမိခန္ဓာကိုယ် တည်းဟူသော ရုပ် နာမတို့ကို ငြီးငွေ့စိတ်ပျက် မနှစ်သက်သော

နိဗ္ဗိန္ဒဉာဏ် ဖြစ်လာမယ်၊ မိမိ ခန္ဓာကိုယ်တည်းဟူသော ရုပ် နာမ် ဓမ္မ သင်္ခါရတို့မှ လွတ်ခြင်းငှာ အလိုရှိတဲ့ မုဉ္စိတုကမျတာဉာဏ် ရောက် လာမယ်။

၎င်းမှတစ်ဆင့် ရုပ် နာမ်တွေ၏ မမြဲမှု ဆင်းရဲမှု အစိုးမရမှုတွေကို အပြင်းအထန် အားထုတ်မှုကြောင့် အလွန်ထင်မြင်လာတဲ့ ပဋိသင်္ခါ ဉာဏ် ရောက်လာရော၊ နောက် ရုပ် နာမ် သင်္ခါရတို့ကို မချစ် မမုန်းဘဲ လျစ်လျူရှုသော သင်္ခါရုပေက္ခာဉာဏ် ပေါ်လာမယ်၊ နောက်ပြီး ရှေ့ဉာဏ် နောက်ဉာဏ်ကို လက္ခဏာရေးသုံးပါးဖြင့် အနုလုံပဋိလုံ ရှုပွား တဲ့အခါမှာ နှစ်ဉာဏ်လုံး သင့်လျော်တဲ့ အနုလောမဉာဏ် ဖြစ်ပေါ် လာမယ်။

နောက် ပုထုဇဉ်တို့၏ အနွယ်ကို ဖြတ်၍ အရိယာတို့၏ အနွယ် ကို ဖြစ်စေတတ်သော ဂေါတြဘူဉာဏ် ပေါ်လာမယ်၊ နောက် သဉပါဒိသေသ နိဗ္ဗာန်ကို သိမြင်သော မဂ်ဉာဏ်နှင့် မခရှုးမနှောင်း သဉပါဒိသေသနိဗ္ဗာန်၏ အရသာ၊ နိဗ္ဗာန်အကျိုးကို ခံစားသော ဖိုလ် ဉာဏ် ပေါ်လာမယ်၊ နောက် မဂ်ဉာဏ်ကို ဆင်ခြင်ခြင်း ဖိုလ်ဉာဏ်ကို ဆင်ခြင်ခြင်း နိဗ္ဗာန်ကို ဆင်ခြင်ခြင်း ပယ်ပြီးသော ကိလေသာကို ဆင်ခြင်ခြင်း မပယ်ရသေးသော ကိလေသာကို ဆင်ခြင်ခြင်းဆိုတဲ့ ဉာဏ်ငါးပါးကိုဆင်ခြင်သော ပစ္စဝေက္ခဏာဉာဏ် ရောက်လာလိမ့်မယ်။

ဒါကြောင့် အလွန်တွေ့ခဲ ကြုံခဲလှစွာသော သာသနာတော် အခါကာလနှင့် ကြုံကြရ တွေ့ကြရသည့်အခိုက် ဆရာသမားကောင်း နှင့်လဲ တွေ့ရတဲ့အခိုက် မနုဿတ္တဒုလ္လဘ ဘဝကို ရကြ ရောက်ကြရသော ယခုဘဝ ယခုအချိန်ကစ၍ အရိုးကြီးပွားရေးကို မလုပ်ကြဘဲ အရိုးက ဓာတ်တော်ဖြစ်အောင် ကြိုးစားကြပါ၊ အရိုး အသွေး အသားက ဓာတ်တော်ဖြစ်တယ်ဆိုတာ အမေမွေးကတည်းက ဖြစ်လာတာ မဟုတ် ဘူး။

မှန်လှပါ ဘုရား။

တရားကိုအားထုတ်လို့ တရားကပြုပြင်သောကြောင့် တရား သဘောအရ ဓာတ်တော်ဖြစ်လာရတယ်လို့ မှတ်ပါ၊ ဒါကြောင့် တရား

အလုပ်ကို ကြိုးကြိုးကုတ်ကုတ် အားထုတ်ဖို့ သတိပေးလိုက်ပါတယ်၊ ကဲ.... ဒီနေ့ ဒီတွင် တော်ကြအုံးစို့။

သာဓု—သာဓု—သာဓု။

**မှတ်ချက်။** ဆရာတော်ဘုရားကြီးသည် ကျွန်တော်များကဲ့သို့ တရားအားမထုတ်ခဲ့ဘူးသေးသော လူပြိန်းများကိုသာ ထိုစဉ်က ဗဟုသုတ အလို့ငှာ အထူး အထက်ပါအတိုင်း ဉာဏ်စဉ်ကို သီးသန့်ဟောခဲ့ပါသည်၊ များသောအားဖြင့် ဉာဏ်သုံးဆင့်ကိုသာ ဆရာတော်ဘုရားကြီးသည် ဟောပြောလေ့ရှိပါသည်။

**မှတ်ချက် ဆောင်ပုဒ်။** သစ္စာနှစ်စပ်, တရားမြတ်, နာလတ်ရှိညွတ်ကာ။
အာရုံတစ်ပါး ရောက်မသွား, စိတ်ထားတည်လှစွာ။
ခန္ဓာအတ္တတ်, သတိချပ်, သင့်မြတ်နှလုံးသာ။
ယထာဓမ္မံ, ဒေသနံ, မြဲမြဲ စူးစိုက်နာ။
ကိလေမဝင်, တစ်ထိုင်တွင်, မြန်လျှင်မဂ္ဂသာ။

**မှတ်ချက်။** ဦးပေါက်ကျော်—ဒေါ်ဒေါ်စီတို့၏ စကြိုကျောင်း၌ ည (၇) နာရီမှ (၈) နာရီ အချိန်တိုင် မီးဖွင့်ခွင့်မပြုဘဲ တရားအားထုတ်နေကြသော ယောကျ်ား ယောဂီများအား တရားစစ်ဆေးရင်း (စိတ် စေတသိက်အကြောင်း)ရုပ်အကြောင်းနှင့် သဘာဝဖြစ်စဉ်များကို ဝါတွင်းသုံးလပတ်လုံး ပို့ချစဉ်က စာရေးသူမှာလည်း လိုက်ပါမှတ်သား သင်ကြား အစစ်ခံရသူ တစ်ယောက် ဖြစ်ပါသည်၊ ထိုအချိန်ကပင် ဦးဝေပုလ္လ (ယခု မင်္ဂလာတိုက်ဟောင်း တိုက်အုပ်ဆရာတော်) ဘုရားသည်လည်း ကျေးဇူးရှင် ဆရာတော်ဘုရားထံ၌ ညဝါများလိုက်လျက်ရှိပါသည်၊ ၎င်းတရားတော်များကို ဤထေရုပ္ပတ္တိ ယခုအခန်း၌ စုံလင်စွာ ဖော်ပြရန်ဖြစ်သော်လည်း စာမျက်နှာမရပါသဖြင့် အများဖတ်ရှုတော်မူကြရန် သီးသန့်စာအုပ် ထုတ်ဝေပါမည်၊ ၎င်းတရားတော်များမှာ အလွန်မှတ်သားနာယူဖွယ် ကောင်းလှပြီး သိပ္ပံနည်းများနှင့်လည်း ကိုက်ညီလှစွာ အာဂမယုတ္တိ,

သာမဏယုတ္တိ, သဘာဝယုတ္တိ, ကရဏယုတ္တိများနှင့် အကိုး အကားစုံလင်လှပေရာ ဖတ်ရှုနာယူသူများအဖို့ အထူးနှစ်သက် လိမ့်မည်ဟု ယူဆပါသည်။

**မှတ်ချက်**။ ထိုအချိန်က စာရေးသူသည် တရားအားထုတ်ရာတွင် ဝိတက် ဝိစာရ ထိန မိဒ္ဓများ ဝင်ပါသဖြင့် ဆရာတော်ဘုရား ကြီးက "တရားထိုင်စဉ် ဝိတက် ဝိစာရ ထိန မိဒ္ဓ စသည်တို့ ဝင်လာပြီး ရှုမှတ်လို့မရနိုင်သည့်အခါတိုင်း မိနစ်အနည်းငယ် ခန့် လေကို ဝအောင်ရှူ၊ ကုန်အောင်ထုတ်၊ ကြားကာလ မထား၊ နားမနေဘဲ ဆက်ခါဆက်ခါ ပြုလုပ်ရင် အဆိုပါ ဝိတက် ဝိစာရ ထိန မိဒ္ဓ စသည်တို့ ဝင်နိုင်မည်မဟုတ်၊ နောက်မှ ကိုယ်ရှုမှတ်နေတဲ့ တရားကို ပြန်ရှုပါ" ဟု အမိန့်ရှိခဲ့ပါသည်။ ထိုကဲ့သို့ အမိန့်ရှိသည့်အတိုင်း စာရေးသူ အားထုတ်ကြည့်ရာ ၎င်းတို့မှ ကင်းစင်ပပျောက်သွားကြောင်း ကိုယ်တိုင်သိရပါ သဖြင့် နှစ်ထောင်းအားရ ရှိလှပါသည်၊ သို့ပါ၍ ဤနည်း အတိုင်း စာရှုသူများလဲ အားထုတ်ကြည့်စေလိုပါသည်။

## ၁၃၁၈–ခု၊ တော်သလင်းလဆန်း (၁၄)ရက် တရားနာပရိသတ်များအား ဟောကြားသော တရားတော်

တကာ တကာမတို့ ဒုလ္လဘဝါးပါးမှ သဒ္ဓါသမ္ပတ္တိ ဘာဝေါ ဒုလ္လဘောဆိုတဲ့အတိုင်း ဘဝတိုင်း ဘဝတိုင်း သဒ္ဓါတရားနဲ့ပြည့်စုံချင် မှ ပြည့်စုံမှာ၊ ဒါကြောင့် ယခုအခါ သဒ္ဓါတရားနဲ့ပြည့်စုံတုန်း မြန်မြန် မဂ်ဉာဏ်ရအောင် လုပ်ပါ။

မှန်လှပါဘုရား။

သေမှာကိုကြောက်ရင် မဂ်ဉာဏ်ကိုရအောင်ယူ၊ မဂ်ဉာဏ်ကို ရလာရင် သေမင်း မမြင်နိုင်တော့ဘူး၊ သေမင်း ရှာမတွေ့နိုင်တော့

ဘူး၊ ဒါကြောင့် ဝိပဿနာအလုပ်ကို မလုပ်ဘဲနေလျှင် နင်သေချင်လို့လားလို့ ကိုယ့်ကိုယ်ကိုပြန်မေးပါ၊ မသေချင်ရင် ခန္ဓာငါးပါးအပေါ်မှာ ပေါ်တိုင်းပေါ်တိုင်း ဖြစ်ဒုက္ခ ပျက်ဒုက္ခကိုသာ ရှုကြပေတော့။

ဝိပဿနာဆိုတာ အသေကို အရှင်နဲ့ကြည့်တယ်လို့ မှတ်၊တောကျောင်း တောင်ကျောင်းသွားပြီး ရှုရတယ် မှတ်နေတာ ဟုတ်ကြရဲ့လား....၊ ကိုယ့်အသေက ဘယ်မှာရှိတုန်း၊ (ကိုယ့်ခန္ဓာထဲမှာ ရှိပါတယ် ဘုရား)၊ ကိုယ့်အသိကကော... (ကိုယ့်ခန္ဓာထဲမှာ ရှိပါတယ်ဘုရား)၊ အဲဒါ ကမ္မဋ္ဌာန်းကျောင်းပဲ၊ ကမ္မဋ္ဌာန်းကျောင်း အထူးလိုက်ရှာစရာ မလိုပါဘူး။

(မှန်လှပါ ဘုရား)။

ဘုန်းကြီးတရားနာတာဟာ ကုသိုလ်ရရုံတရားမနာကြနဲ့၊ နိဗ္ဗာန်ရအောင် ရောက်အောင် လုပ်ကြဖို့ တရားဟောပေးနေတာ ရအောင်လုပ်ကြပါ၊ ရှင်းပလား (ရှင်းပါပြီ ဘုရား)၊ ဝိပဿနာရဲ့ အကျိုးကျေးဇူးများပုံကို ပြောပြရအုံးမယ်။

မြတ်စွာဘုရားသခင်လက်ထက်က ဘိက္ခုနီမ(၅၀၀)က ရှင်နန္ဒအား တပည့်တော်မတို့ကို သွန်သင်တော်မူပါဦး၊ ဆုံးမတော်မူပါဦးလို့ လျှောက်ထားကြတော့ ရှင်နန္ဒ ဟောကြားဆုံးမတဲ့ တရားကတော့ ကိုယ်ရယ်၊ လေရယ်၊ နေရယ် ဒီသုံးခုရှိနေမှ ဖဿဆိုတဲ့ တွေ့ထိမှုဖြစ်ပေါ်လာတယ်၊ အခံဓာတ်၊ အဖိဓာတ်၊ အထိဓာတ်လို့ ခေါ်တယ်၊ ဒီသုံးမျိုးကြောင့် အပေါ်ဓာတ် ပေါ်လာတယ်၊ ဒီပေါ်လာတဲ့ အပေါ်ဓာတ်ဟာ အကြောင်းသုံးမျိုးကြောင့် ပေါ်လာတာ၊ ဝေဒနာပေါ်တာဟာ အကြောင်းကြောင့်အကျိုးပေါ်တာ။ ရေ၊ မြေ၊ လေ၊ နေတို့နဲ့ လွတ်အောင် မနေနိုင်တော့ဘူး၊ ၎င်းတို့နှင့်တွေ့လျှင် ဝေဒနာပေါ်ရမယ်။ မွေးတယ်၊ နံတယ်၊ အေးတယ်၊ ပူတယ်ဆိုတာ ဝေဒနာတွေပဲ။

(မှန်လှပါ ဘုရား)။

ခန္ဓာကိုယ်ထဲက ဖြစ်ပေါ်လာတဲ့ ကာယ ဖောဋ္ဌဗ္ဗ ဖဿ ဝေဒနာပေါ်တိုင်း ပေါ်တိုင်း သတိနဲ့လိုက်၊ သိနေရုံနဲ့ မပြီးသေး

ဘူး၊ သမ္မာဉာဏ်နဲ့ လိုက်ပါဆုံး၊ ဝေဒနာပေါ်တိုင်း ပေါ်တိုင်း သိတာက သတိလို့မှတ်၊ ဒီကိုယ်ကြီးရှိနေတော့ ကိုယ်ပေါ်မှာ ဝေဒနာ အမျိုးမျိုး ပေါ်မှာပဲ၊ ဒီကိုယ်ကိုက ⁄ အနိစ္စမို့ ကိုယ်ကိုမှီပေါ်ရတဲ့ ဝေဒနာတွေဟာလဲ အနိစ္စပဲလို့မြင်ရမယ် သိရမယ်၊ ဒီလိုပျက်သင့်လို့ ပျက်တာမှန်း သိတာက သမ္မာဉာဏ်လို့မှတ်၊ ဒါကြောင့် ပျက်သင့်လို့ ပျက်တာမှန်းသိအောင် ဖြစ်ပျက်ကိုရှုပေးပါလို့ ရှင်နန္ဒက ဟောတော်မူတယ်။

ဥပမာပြုရင် မီးထွန်းတဲ့အခါ မီးခြက်၊ ဆီ၊ မီးဇာ၊ ရင်းသုံးခုပေါင်းမှ အလင်းရောင် ထွက်လာတာလိုပဲ၊ ကွဲတတ်တဲ့ မီးခွက်၊ ကုန်ခန်းတတ်တဲ့ဆီ၊ လောင်ကျွမ်းတတ်တဲ့ မီးဇာ၊ ဒီသုံးခုပေါင်းမှ မီးအလင်းရောင်ထွက်ရတာမို့ ဒီအလင်းရောင်ကိုကျမှ မြဲချင်လို့မရဘူး၊ ဒီအလင်းရောင်ဟာ ဝေဒနာနဲ့တူတယ်၊ ဒါကြောင့် ဝေဒနာဟာ မမြဲတဲ့အနိစ္စ၊ ဆင်းရဲတဲ့ဒုက္ခ၊ အစိုးမရတဲ့ အနတ္တ တရားတွေပဲလို့ ဝေဒနာ ပေါ်တိုင်း ပေါ်တိုင်း ဖြစ်ပျက်ကိုသာ ရှုပေးကြပေတော့။

(ရှုပါမယ်ဘုရား)။

စိတ်တစ်မျိုးတစ်မျိုး ပေါ်တိုင်းလဲ ဖြစ်ပျက်ရှု၊ ရုပ်ကလေး တစ်မျိုးတစ်မျိုး ပြောင်းလဲတိုင်းလဲ ဖြစ်ပျက် ရှုပါ၊ ခင်ဗျားတို့ အဘိုးအဘွားတွေ ဘယ်ရောက်ကုန်သလဲလို့မေးရင် အနိစ္စရောက်ကုန်ပြီလို့ ပြောကြမယ်၊ မပြောကြပေဘူးလား။

(ပြောကြမှာပါ ဘုရား)။

ခင်ဗျားတို့လဲ အနိစ္စတွေကမွေးခဲ့လို့ အနိစ္စတွေပဲ၊ ခင်ဗျားတို့က မွေးမည့် ခလေးတွေလဲ အနိစ္စ၊ သူတို့ကတစ်ဆင့် မွေးမှာလဲ အနိစ္စချည်းပဲ၊ ဒါကြောင့် မြင်၊ ကြား၊ နံ၊ စား ထိသိတိုင်း ဖြစ်ပျက် ရှုပါ၊ ဖြစ်တာလဲ ဒုက္ခ၊ ပျက်တာလဲ ဒုက္ခလို့ မြင်အောင်ရှုပါလို့ ရှင်နန္ဒက ဝေဒနာအနိစ္စမြင်အောင်ရှု ဟောပြတော့ ဘိက္ခုနီမ (၅၀၀)ဟာ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် ရဟန္တာမ တွေ အသီးသီး ဖြစ်ကုန်ကြတယ်။

ဒါကြောင့် ဝေဒနာရှုရင် တဏှာကုန်တယ်၊ တဏှာကုန်ရင် နိဗ္ဗာန်ရောက်ကြတော့တာပါပဲ၊ ရှုပုံရှုနည်းချည့် ဟောနေတာ ရှုပုံ

ရှုနည်း နားလည်ကြတဲ့လူတွေများပြီး ဒီ ဖဿဝေဒနာတို့ဟာ ရော ဒနတော့ တစ်ခုရှုရင် အကုန်ပါတော့တာပါပဲ၊ ဝိပဿနာအရာမှာ ၁ိတ်ပေါ်ပေါ် ဝေဒနာပေါ်ပေါ် ဖြစ်တာနဲ့ ပျက်တာလို့သာ ရှု ပေးဖို့သာ လိုပါတယ်။

(မှန်လှပါဘုရား)။

ကိုယ်ပေါ်မှာ သုခပေါ်ပေါ်၊ ဒုက္ခပေါ်ပေါ် ဖြစ်တာနဲ့ ပျက် ဘာပဲ ပေါ်တာပါ၊ ဝိညာဏ်,နာမ်ရုပ်, သဠာယတန, ဖဿ,ဝေဒနာ, ၁ိတ်, စေတသိက် ရုပ်တို့ကိုလဲ ပေါ်လာတိုင်း ပေါ်လာတိုင်းသာ ဒစောင့်ကြည့်ပါ၊ ရှုံစရာ၊ မှန်းစရာတွေပါကလားလို့ ငြီးငွေ့တဲ့စိတ် ဒတွ ပေါ်လာတော့တာပဲ၊ ဖြစ်ပျက်ကိုသာ ရှုဖန်များလာရင် ဉာဏ် တွေ အဆင့်ဆင့်ရင့်သန်ပြီး သည်ခန္ဓာကြီး မလိုချင်တော့ဘူး၊ရွံမုန်း လာပြီး ခန္ဓာရဲ့ လွတ်ရာလွတ်ကြောင်းကိုသာ ကြံစည်တော့တာပဲ၊ ဒါဟာ ဒုက္ခပိုင်းခြားတဲ့ဉာဏ်ပဲ၊ သင်္ခါရာဒုက္ခာ ဆိုတဲ့အတိုင်း ဖြစ်ဖြစ်သမျှ ဒုက္ခတွေချည့်ဖြစ်နေလို့ ဖြစ်ပျက်ကိုသာရှု၊ ဖြစ်ပျက်မှ တစ်ပါး ဘာမျှမရှိဘူး။

(မှန်လှပါဘုရား)။

ဥပမာတစ်ခု ပြောရရင် အိမ်တစ်အိမ်ကို မီး အကြီး အကျယ် လောင်ရာမှာ မီးကိုမြင်ခြင်းအားဖြင့် ဒီအိမ်မှာရှိတဲ့ ထုပ်ကိုလောင်တာ ယောက်ကို လောင်တာ ထရံကို လောင်တာ ကြမ်းကို လောင်တာလို့ မခွဲခြား မပြောပြနိုင်သလို ဖြစ်ပေါ်ပြီး ပျက်တာပါပဲ၊ ဒါကြောင့် ဖြစ်ဒုက္ခ ပျက်ဒုက္ခကိုသာ ရှုကြ၊ သတိ ပညာနှင့် ရုပ်ပျက် နာမ်ပျက် တို့ကို ကြည့်ရှုနေလျှင် ဝိပရိဏာမ ဖောက်ပြန် ပျက်စီးနေတာပါ ကလားလို့ သိလာပြီး ဒုက္ခသစ္စာကို ပိုင်းခြားလာလျှင် မဂ်ဉာဏ် ပေါ် လာတော့တာပါပဲ။

ဘုရားသခင်က ဝိပဿနာ မရှုသောသူဟာ ပရမ်းပတာကျဖို့ ဘေး၊ ငရဲဘေး၊ တိရစ္ဆာန်ဘေးတွေနဲ့ တွေ့ကြုံရမယ်၊ သေခါနီး သား သမီး လင်မယား ပစ္စည်း ခင်တွယ်တာတွေ့ အပါယ်ဘေး နိုး

လွန်းလို့ ဝိပဿနာဉာဏ်က မဂ်ဉာဏ်ကိုရအောင် ရောက်အောင် လုပ်ကြရမယ်လို့ ဟောတော်မူတယ်။

ဝိပဿနာဉာဏ်က မဂ်ဉာဏ်ကူးမှ ပရမ်းပတာ ဘေးသင့်ခြင်း လွတ်ကြရမယ်၊ သောတာပန်များဟာ သေရဲတယ် ဆိုတာ ငရဲ တိရစ္ဆာန် ပြိတ္တာ အသူရကာယ်ဆိုတဲ့ အောက် သံသရာဘေးသင့်ခြင်း မကျရောက်တော့လို့ သေရဲကြတာ၊ မဂ်ဉာဏ်ရောက်မှ ဒီဘေးက လွန်ပြီး ဂတိမြဲမယ်။

ဘုရား တရား သံဃာ တည်းဟူသော သုံးပါးသော ရတနာ ထက် အလွန်မြတ်သော ရတနာ ဘယ်မှာမှမရှိဘူး၊ ဘုရားတောင် တရားကျင့်မှ ဘုရားဖြစ်တယ်၊ ဘုရားတောင် တရားကို ပူဇော် ကိုး ကွယ်သေးတယ်။

ဤတရားရတနာဟာ ရတနာ အမှန် ကေန် ဖြစ်ကြောင်း သိ သဖြင့် ထီးနန်းကိုစွန့်ပြီး တက္ကသိုလ်ပြည်ကြီးမှခွာ၍ ရာဇဂြိုဟ်ပြည်၌ မြတ်စွာဘုရားသခင်က သတ္တဝါ ဝေနေယျတို့အား တရား ရေအေး အမြိုက်ဆေး တိုက်ကျွေးရာသို့ ယူဇနာ တစ်ရာ့ကိုးဆယ့်နှစ်ယူဇနာ ဝေးကွာတဲ့ အရပ်ကို ထီးမဆောင်း ဖိနပ်မပါ ဇွဲကြီးစွာဖြင့် ဒုက္ခ အမျိုးမျိုးကိုခံလျက် မြတ်စွာဘုရားသခင်ထံမှောက် လာပြီး တရားကို ယူ၍ ကျွတ်တန်းဝင်သွားတဲ့ ပက္ကုသာတိ မင်းကြီးထုံး နှလုံးမူပြီးလျှင် တကာ—တကာမတွေလဲ ကြိုးစားကြပါလို့ သတိပေးပါတယ်။

(မှန်လှပါဘုရား)။

အဲဒီ ပက္ကုသာတိ မင်းကိုဟောတဲ့ တရားကတော့ ပထဝီ ဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်၊ အာပေါဓာတ်၊ ဝိညာဏ ဓာတ်၊ အာကာသဓာတ်ရယ်လို့ ရှိတယ်၊ (ဓာတ်)ဆိုတာ သူ့သဘော သူလုပ်၊ သူ့သဘော သူဆောင်တာပဲ၊ လူတို့ရဲ့သဘောကို မလိုက်ဘူး၊ တောင့်တင်းတဲ့ဓာတ်နဲ့ ထလာရင် ပထဝီဓာတ်၊ တောင့်တင်းတဲ့ဓာတ် ချုပ်ပြီး မတောင့်တင်းတဲ့ဓာတ်နဲ့ ထလာရင်လဲ ပထဝီဓာတ်၊ ဓာတ်ရဲ့ သဘောပဲလို့ ရှုလိုက်ပါ၊ သူ့ဓာတ် သဘော သူဆောင်တာပဲ

လို့ ဖြစ်ပျက်တာရှု၊ အစိုးမရတဲ့ အနတ္တ တရားပဲလို့ရှု၊ အရိယာများဟာ သေရဲတယ်၊ မဂ်မရသေးရင် မသေရဲဘူး၊ ဘာကြောင့်လဲ ဂတိမမြဲသေးလို့၊ ပရမ်းပတာ ကျချင်ရာကျ ရောက်ချင်ရာ ရောက်မှာကြောင့်ပဲ၊ အရိယာဖြစ်လာရင် အပါယ်ဘုံကို ဘယ်တော့မှ မကျရောက်ဘူးဆိုတာ သေချာတယ်။

(မှန်လှပါဘုရား)။

ဒါကြောင့် ခေတ်ကောင်း ခေတ်စု ခေတ်ခဲပါလား၊ သူ့သဘော သူဆောင်နေတာပါကလား၊ မိမိအလို မလိုက်ပါကလား၊ အစိုးမရပါကလား၊ (အနတ္တတရား) ပါကလားဟု အရပ်ရပ်တို့ကို အထပ်ထပ် ဆင်ခြင် ခေတ်တွေရဲဖောက်ပြန် ပျက်စီး ယိုယွင်းနေပုံကို မပြတ်မလပ် ထင်မြင်လျှင် ရှင်ဘုရင် ပဏ္ဍုသာတိ မင်းလို မဂ်ဖိုလ်ကို ရက်တိုတို့နဲ့ ရရှိအောင် ခေတ်(၆)ပါးကို ရှုကြပေတော့ တကာ တကာမတို့....။

ကိုင်း....ဒီနေ့ ဒီတွင် တော်ကြဦးစို့။

သာဓု....သာဓု....သာဓု



## ၁၃၁၈-ခု တော်သလင်းလဆန်း (၁၅)ရက် တရားနာ ပရိသတ်များအား ဟောကြားတော်မူသော တရားတော်

တကာ - တကာမတို့၊မိလိန္ဒမင်းကြီးနဲ့ ရှင်နာဂသိန်ဆိုတဲ့ ပုဂ္ဂိုလ်နှစ်ဦးဟာ လွန်စွာပညာရှိတဲ့ ပုဂ္ဂိုလ်များ ဖြစ်ကြတဲ့အတွက် မိလိန္ဒမင်းကြီးက ရှင်နာဂသိန်ကို မေးလျှောက်တဲ့စကားက အရှင်ဘုရား.... "အနိစ္စ, ဒုက္ခ, အနတ္တ" ဆိုတဲ့ တရားကို ဝိပဿနာ ရှုပုံရှုနည်း ဘယ်လိုများ ရှုရပါသလဲလို့ မေးလျှောက်တော့၊ ရှင်နာဂသိန်က သင်မင်ကြီး၊ သမင် ဒရယ် ချေယယ် စိုင် ဆတ် တို့ကို ဖမ်းတဲ့ အခါ သူတို့ပြေးရာကို လိုက်ဖမ်းလို့ ရတ်တရက်မရဘူး၊ စောင့်ဖမ်းမှ ချောင်းဖမ်းမှ အလွယ်တကူနဲ့ ရသလိုပဲ၊ မိမိဉာဏ်က စောင့်ဖမ်းပေတော့။

သူတို့သွားရာ လိုက်မနေနဲ့၊ ပေါ်လာတဲ့အာရုံကို အနိစ္စ ဒုက္ခ အနတ္တလို့ ရှုရမယ်၊ လိုက်ဖမ်းလို့မလွယ်ဘူး၊ အာရုံရှိရာကို မလိုက်နဲ့၊ ပေါ်လာတာကလေးကို အနိစ္စ မိအောင်၊ ဒုက္ခ မိအောင်၊ အနတ္တ မိအောင် စောင့်ဖမ်းပါ၊ ခန္ဓာကိုယ်ပေါ်မှာ အမျိုးမျိုး ပေါ်လာတာကိုပဲ သတိနဲ့ ဖြစ်ပြီး ပျက်သွားတာကို အနိစ္စ ဒုက္ခ အနတ္တလို့ ရှုပါ၊ ဒီနေရာပေါ်ပြီး ဒီနေရာပျက်တာပဲလို့ သတိပြု၊ လိုက်ဖမ်းလို့မရဘူး၊ စောင့်ဖမ်းမှ ရတယ်၊ အနိစ္စဆိုတာ သူပဲ၊ ဖြစ်ပျက် ဆိုတာ သူပဲလို့ သတိပြုပြီး အနိစ္စပဲ၊ မမြဲတဲ့ တရားပဲ၊ ဖြစ်ပြီး ပျက်တာပဲလို့ သတိပြုပါ၊ စိတ်ပေါ်တိုင်း ဖြစ်ပျက်ကိုသာ ရှုပါ၊ စိတ်ပြေးတိုင်း လိုက်ဖမ်းနေဖို့ မလိုဘူး၊ စောင့်ပြီး ပေါ်တာကိုသာ ကြည့်၊ ဖြစ်ပျက်ကိုသာ ရှုပါ။

ခြင်္သေ့၊ သစ်၊ ကျားတို့က သားကောင်များကို စောင့်ပြီး ချောင်းဖမ်းက အလွယ်တကူနှင့် မိနိုင်သလို ယောဂီပုဂ္ဂိုလ်များဟာ မိမိရဲ့ သတိကလေးနဲ့ ချောင်းပြီးဖမ်းရမယ်လို့ ရှင်နာဂသိန်က မိလိန္ဒ

မင်းကြီးကို ဟောတော်မူတယ်၊ နာမ်တရား ပေါ်ပေါ် ရုပ်တရား ပေါ်ပေါ် ဝေဒနာပေါ်ပေါ် ပေါ်တာကို ချောင်းဖမ်းပေတော့၊ ဒါကြောင့် ယောဂီပုဂ္ဂိုလ်များဟာ သူတစ်ပါးမြင်လောက်တဲ့နေရာက ချောင်းဖမ်းလို့မရနိုင်တာကို ချောင်းလဲချောင်း၊ အောင်းလဲအောင်း ဆိုတဲ့စကားလို ဆိတ်ငြိမ်တဲ့နေရာ ဆိတ်ငြိမ်တဲ့အချိန်ကို မိမိတို့အိမ်မှာပဲ ဆိတ်ငြိမ်တဲ့နေရာကို ရွေးချယ်ပြီး အားထုတ်ပါ၊ ဆိတ်ငြိမ်တဲ့နေရာ ဟာ တောပါပဲ၊ အခန်းထဲ ဘယ်သူမှမလာတဲ့နေရာဟာ တောလို့ဆိုနိုင် တယ်၊ အဲဒီနေရာမျိုးမှာ နေပြီး စိတ်အမျိုးမျိုး ဖြစ်ပေါ်လာတဲ့ သားကောင်ကို မိအောင် ဖြစ် ပျက် ရှုလိုက်ပါ၊ အဲဒီတော့ သား ကောင် မိတာပဲ။

ကဲ.... ပုန်းအောင်းမှုအတွက် ဆိတ်ငြိမ်တဲ့နေရာကို ရှာပါ၊ စောင့်ဆိုင်းမှုဆိုတဲ့ သတိ ပညာ သမာဓိနှင့် ပေါ်လာတာဟူသမျှ ဖြစ်ပျက်လို့သာ ရှုလိုက်တော့၊ လက္ခဏာရေးသုံးပါး မိမိရရ ထင်မြ မှာပဲ၊ ဒါကြောင့် ပုန်းအောင်းမှုနှင့် စောင့်ဆိုင်းမှုများကို သတိမမေ့ နှင့် သတိပြုပါ၊ ဘုန်းကြီးဟောနေတဲ့တရား၊ ပြောနေတဲ့စကားဟာ ပြောပြီးပျက် ကြားပြီး ပျက်တာပါကလားလို့ တရားနာရင်း သတိ ပြုလိုက်ပါ။

ချောင်းမြောင်းမှု မရှိရင် ဘယ်လိုပေါ်ပေါ် ဘယ်ကလာလာ သတိ မမူမိရင် မရနိုင်ဘူး၊ ပုန်းအောင်းမှုရယ်၊ ချောင်းမြောင်းမှုရယ် ၎င်း နှစ်မျိုး မရှိခဲ့လျှင် တရားအားထုတ်လို့ မရ၊ မဂ်ရဖို့ မဖြစ်နိုင်၊ မလွယ် ပါဘူး၊ ဒီအပြင် မဂ်ဖိုလ်၌ တားမြစ်ခြင်းငါးပါးဟာလဲ မဂ်ဖိုလ်ကို ရတဲ့ရက်မရအောင် တားမြစ်တတ်တယ်၊ ၎င်းငါးမျိုးကတော့ အမှု ကိစ္စ မပြီးသေးလို့ဆိုတဲ့ ကိစ္စအမျိုးမျိုးတွေ လုပ်စရာကျန်သေးလို့ဆိုရင် မဂ်မရနိုင်ဘူး၊ စကားပြောစရာရှိလို့ ဆိုပြီး အကျိုးမရှိဘဲ စကားပြော ခြင်းဟာလဲ မဂ်မရနိုင်ဘူး၊ အလုပ်မရှိ အိပ်တာကောင်းတယ်ဆိုတာ မျိုးလို အအိပ်ကိုပဲ လိုက်စားခြင်းလဲ မဂ်မရနိုင်ဘူး၊ အပေါင်း အသင်းနဲ့ သွားလာ၍ အပေါင်းအသင်းကို ခင်မင်ခြင်းဟာလဲ မဂ်မရ နိုင်ဘူး၊ သင်္ခါရ ဖြစ်ပျက်တဲ့ တရားတွေ ရုပ်နာမ် ဖြစ်ပျက်တို့မှ မရှု လိုက်မိရင်လဲ့ မဂ်မရနိုင်ဘူး၊ အဲဒါကို သတိပြုပါ၊ ဒီငါးပါးမရှိရ

အောင် ပြုလုပ်ပြီး ပုန်းအောင်း ချောင်းမြောင်းကာ ဖြစ်ပျက် ကိုသာ ရှုကြပေတော့။

ဘုရားဟာ ဘာကြောင့် ဘုရားဖြစ်သလဲ၊ တရားကြောင့် ဘုရားဖြစ်တယ်၊ နောက်ပွင့်မည့်ဘုရားတွေလဲ လက်ဦး ဖူးတွေ့ချင်သေးတယ်။ တရားကိုတော့ ဂရုမစိုက်ချင်ကြဘူး၊ ဝက္ကလိ ရဟန်းကို ဘုရားက "ဘယ်လိုပဲ ကြည်ညိုသော်လဲ ကြည်ညိုရုံမျှနဲ့ မဂ်ဉာဏ်ကို ရနိုင်တဲ့ အကြောင်း မဟုတ်ဘူး" လို့ ဘုရားက ဆုံးမတော်မူတယ်။

ပထဝီဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်၊ အာပေါဓာတ်၊ အာကာသဓာတ်၊ ဝိညာဏဓာတ် ၎င်းဓာတ်တွေဟာ သူ့သဘော သူ ဆောင်ပြီး သူ့အလိုအတိုင်း ဖြစ်ချင်သလိုဖြစ်နေတဲ့ ဓာတ်သဘောတွေပဲလို့ သိလိုက်ရင် ဝိပဿနာဉာဏ်ရတယ်၊ ဓာတ်တွေပျက်တာကို သိလိုက်ရင် ဝိပဿနာဉာဏ် မဂ်ဉာဏ်ကို ရနိုင်တယ်၊ ဒုက္ခသစ္စာကို တကယ် မြင်လျှင် နိဗ္ဗာန်ရတော့တာပဲ၊ တဏှာ၊ မာန၊ ဒိဋ္ဌိ ငြိမ်းသွားတယ်၊ ဒါဟာ နိဗ္ဗာန်ပဲ။

ဒါကြောင့် ဓာတ် ၆ ပါးကို ရှုကြပါ၊ သိတိုင်းသိတိုင်း ဝိညာဏဓာတ်ပဲလို့ ခွဲခြားထင်လိုက်ပါ၊ စိတ် ပေါ်တိုင်း ပေါ်တိုင်း သညီစိတ်ကလေးဟာ ပေါ်ပြီး ပျက်သွားတာပဲ၊ တစ်ဖန် ဝိညာဏဓာတ်ကလေးလို့ သိလိုက်လျှင်၊ ဒါဟာ သိတတ်တဲ့ဓာတ်ကလေးလို့ သိလိုက်လျှင် ငါ၊ သူတစ်ပါး၊ ယောကျ်ား၊ မိန်းမ ထင်နေတာ ပျောက်သွားတယ်၊ ဒါကြောင့် ဓာတ်တွေကိုလဲ ကြိုက်ရာရှုပါ၊ သို့မဟုတ် ဝေဒနာတွေကိုလဲ ပေါ်ရာရှုပါ၊ အနတ္တဉာဏ် ပေါ်လာတော့တာပဲ၊ ဒါ ပထဝီဓာတ်ပဲ၊ တေဇောဓာတ်ပဲ၊ ဝါယောဓာတ်ပဲ၊ အာပေါဓာတ်ပဲလို့ ရှုလိုက်ပါ၊ မျက်လုံးနဲ့ အဆင်းတွေက ဖဿ ပေါ်လာတယ်၊ နားနှင့် အသံ၊ လျှာနှင့် အရသာ၊ ကိုယ်နှင့် အထိအတွေ့၊ မနောနှင့် ဓမ္မာရုံ တွေ့တာတွေဟာ ဖဿ ပေါ်တာပဲ၊ ပေါ်တိုင်း ပေါ်တိုင်း အကြောင်း တိုက်ဆိုင်လို့ ပေါ်ပြီး တားမရဘဲ ပျောက်သွားတာကို သိနေရင် အနတ္တဉာဏ် ရလာပါတယ်။

အနတ္တဉာဏ် ရောက်လာတော့ တစ်ဆင့် တစ်ဆင့် မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို ရောက်တော့တာပေါ့၊ ဝေဒနာကို ဝေဒနာမထင်ဘဲ ငါ

နာတယ်၊ ငါဖျားတယ် ထင်နေရင် ဝေဒနာနောက်က တဏှာလိုက် နေတယ်၊ တဏှာလိုက်ရင် ဥပါဒါန် ကံလိုက်ပြီး သံသရာလည်တယ်၊ တဏှာချုပ်ရင် နိဗ္ဗာန်ရတာပဲ၊ တဏှာချုပ်အောင် မလုပ်နိုင်ရင် နိဗ္ဗာန် မရနိုင်ဘူးမှတ်၊ ခန္ဓာငါးပါး၌ ဖြစ်ပေါ်သော အာရုံခြောက်ပါး ပေါ်လာတိုင်း ဖြစ်ပျက်ကို ရှုနေလျှင် မမြဲမှု အနိစ္စသဘောဟာ ထင်ရှား လာပါလိမ့်မယ်၊ မိမိတို့ မြဲစေရန်၊ မြဲစေမှုဆန္ဒ ရှိကြသော်လဲ ထိုဆန္ဒ အတိုင်း ဖြစ်စေရန် အစိုးမရ၊ အလိုသို့မလိုက်မှုသာလျှင် တွေ့ကြရ တယ်၊ မြဲတယ်၊ ချမ်းသာတယ်၊ ကိုယ်ဟုတ်တယ်ထင်တိုင်း မှန်နေရင် အဘယ်မှာလျှင် အိုနာ သေမှုတို့ ဖြစ်စေလိမ့်မလဲ၊ ဒီလို အို နာ သေမှု ကို မဖြစ်စေလိုသော်လဲ မဖြစ်စေရန်ကိုတော့ မဖြစ်နိုင်ကြောင်း ပညာ နှင့် တွေးတော၍ မြင်ပါမှ၊ သိပါမှ၊ အဘယ်မှာလျှင် ငါ့၊ ငါ၏ဥစ္စာ ဖြစ်နိုင်ပါတော့မလဲ၊ ယင်းသို့ ကိုယ်မှာရှိလျက် ကိုယ်ပိုင်မဟုတ်၊ အစိုး မရ အလိုသို့မလိုက်သော အနတ္တတရားသာတည်းလို့ အမှန်မြင်လျှင် -်သောအယူမို့ အဝိဇ္ဇာ တဏှာ မာန ဒိဋ္ဌိဟူသော ကိလေသဝဋ်
ဖြစ်နိုင်တော့ဘူး၊ ကိလေသဝဋ် ချုပ်ခဲ့လျှင် အဘယ်မှာ ကမ္မဝဋ် နိုင်တော့မလဲ၊ ကမ္မဝဋ်ချုပ်ခဲ့လျှင် ဝိပါကဝဋ် တည်းဟူသော ဇာတိ ်နိုင်တော့ဘူး၊ အဇာတိ နိဗ္ဗာန်ဆိုတာ ဝဋ်သုံးပါးချုပ်ရာကို တယ်၊ ဝမ်းမြောက်ဖွယ်မှု ကိုယ်မှာ အဖြာဖြာရှိလျက် ကိုယ်ပိုင် တ်သော နာမ်ရုပ်တို့ဟာ မမြဲပါကလား၊ အစိုးမရပါကလား၊ ်သို့ မလိုက်ပါကလားလို့ မြင်သိရခြင်းထက် ဝမ်းမြောက်ဖွယ် ာင်းတာ လောကမှာ မရှိဘူး၊ ဖြစ်ပျက်ကို မြင်အောင်ရှုကြပါ။

ဖြစ်ပျက်ကို မုန်းအောင် ရှုကြပါ၊ ဖြစ်ပျက်ကို ဆုံးအောင်ရှု ကြပါ၊ တို့ တကာ—တကာမအပေါင်းတို့ကို သတိပေး လမ်းညွှန်ရင်း နေ့ ဒီတွင် တော်ကြအုံးစို့။

-်ချက်။ ဆရာတော်ဘုရားကြီး ဟောကြားတော်မူသော တရား တော်များအနက် စိတ္တာနုပဿနာ, ဝေဒနာနုပဿနာ တရားတော်များမှာ ရန်ကုန်ထုတ်မိတ္တီလာထုတ်စာအုပ် များတွင်ပါပြီးပြီဖြစ်ပါ၍ ဤထေရုပ္ပတ္တိနှင့်ပူးတွဲဖတ်ရှု ကြပါရန် တိုက်တွန်းအပ်ပါသည်။



## ၁၃၁၈-ခု တော်သလင်းလဆုတ် (၁)ရက်နှင့်(၂)ရက် တရားနာပရိသတ်များအား ဟောကြားတော်မူသော နီဝရဏတရား(၅)ပါး

ကနေ့တော့ နီဝရဏတရား(၅)ပါးကို ဟောမယ်၊ ခန္ဓာကိုယ်ထဲမှာ သူတို့က အများကြီးဝင်နိုင်တဲ့တရား ဖြစ်နေတော့ တရားတစ်ပွဲလုံး ဂရုစိုက်ပါ၊ နီဝရဏတရား ငါးပါးဆိုတာ (၁)လောဘ၊ (၂) ဒေါသ၊ (၃) ထိနမိဒ္ဓ၊ (၄) ဥဒ္ဓစ္စ ကုက္ကုစ္စ၊ (၅) ဝိစိကိစ္ဆာ၊ ဒီငါးပါးကို နာမည်လဲ မသိဘူး၊ ဖုံးလွှမ်းနေတာလဲ မသိဘူး၊ ဒီတော့ ဘယ်နှယ်လုပ်ပြီး ဒီအဖုံးဖွင့်မလဲ၊ အဲဒါကြောင့် ဒီနေ့ တရားပွဲမှာ တကာ-တကာမတွေအတွက် အလွန်အရေးကြီးတဲ့အချက် မဂ်ဖိုလ်ကို ဖုံးလွှမ်းတဲ့ တရားငါးခုကိုဟောမယ်၊ ငါတို့သည် မဂ်ဉာဏ်ကိုမရလို့ သမုတိသစ္စာ၊ ပဋိစ္စသမုပ္ပါဒ် ခေါင်းပြောင်းလို့ လှည့်လည်ခဲ့ရတယ်၊ ပရမတ္ထသစ္စာ၊ ပဋိစ္စသမုပ္ပါဒ်ဒုက္ခချည်း လှည့်ခဲ့ရတယ်။

(မှန်လှပါဘုရား။)

အဲဒါဖုံးလွှမ်းထားတဲ့ တရားကို ဘယ်ကာလမှ မဖမ်းခဲ့လို့ ဖမ်းတဲ့နည်းလဲ မရခဲ့တဲ့အတွက် ဒီသံသရာတစ်လျှောက်မှာ ဒိုင်းဒိုင်း ပြေးလည်နေရတယ်လို့ မှတ်လိုက်ပါ။

(မှန်လှပါဘုရား။)

ယနေ့မှာဖြင့် ငါတို့ အရေးကြီးတဲ့ အချက် ငါးခုကို ဖမ်းလိုက်လို့ရှိရင်ဖြင့် မဂ်ရမယ်ဆိုတာ သေသေချာချာ မှတ်ပါ။

(မှန်လှပါဘုရား။)

မဂ်ဉာဏ်ရရင် သမုတိသစ္စာ ပဋိစ္စသမုပ္ပါဒ်လဲ ပြတ်တယ်၊ ပရမတ္ထသစ္စာ ပဋိစ္စသမုပ္ပါဒ်လဲ ပြတ်တယ်၊ ဒါဖြင့် ဒုက္ခဖြစ်မည့်တရားတွေဖြစ်သောကြောင့် ဒုက္ခဖြစ်အောင် ဖုံးထားတဲ့တရားကိုဖြင့် ငါတို့က

ရန်သူအကြီးစား ဖြစ်သောကြောင့် နာမည်နှင့်တကွမှတ်ပြီး သတ်မယ်ဆိုတဲ့စိတ် မွေးကြပါ၊ နောက်က တကာ–တကာမတွေ အေးအေးလေး မနေလိုက်ပါနဲ့၊ ကိုယ့်အရေးလို့မှတ်ပါ၊ ခုတင်က ပဋိစ္စသမုပ္ပါဒ်ကြီးဟာ ဒီ ငါးခုကို မဖယ်နိုင်လို့ ဒီငါးခုတားတာနဲ့၊ ဒီပဋိစ္စသမုပ္ပါဒ်ကြီးဟာ ဒိုင်းဒိုင်းပြေးလည်နေရတယ်၊ ဘုရားကလည်းဟော၊ ဆရာဘုန်းကြီးကလဲတစ်ဆင့်ပြောနဲ့ နားလည်ကြပါတော့ဆိုတာ ပြောရပါတယ်၊ ဒီငါးခုကို တိုတိုပေါင်းခေါ်ရင် နီဝရဏတရား၊ မြန်မာလို ရှင်းရှင်းပြောရရင် မဂ်ဖိုလ်ကို ပိတ်ပင်တဲ့တရား။

(မှန်လှပါဘုရား)။

ကျုပ်တို့ ဘဝများစွာ သံသရာက ဘုရားအဆူဆူ ပွင့်သော်လည်း မဂ်ဉာဏ် ဖိုလ်ဉာဏ်မရခဲ့ပဲ ပဋိစ္စသမုပ္ပါဒ် မပြတ်ခဲ့တာ ဘယ်သူ့ကြောင့်လဲဆိုတာကို အရအမိကလဲ မဖမ်းနိုင်၊ လက်သည်ကို ခြေမှုန်းတတ်တဲ့ တရားကလဲ မပါတော့ ဒီတရား ငါးခုက ပိတ်ပင်လိုက်တဲ့ဖြစ်ခြင်း၊ ပဋိစ္စသမုပ္ပါဒ်ထဲမှာ ကျုပ်တို့သည် ဒုက္ခစက်ရဟတ်ကြီးသာ လည်နေရတယ်၊ ခေါင်းပြောင်းသာ သွားနေရတယ်ဆိုရင်ကော လွဲပါမလား။

(မလွဲပါဘုရား)။

ဒါကြောင့် တကာ–တကာမတို့ ကိုယ့်အရေးလား သူများအရေးလား၊ (ကိုယ့် အရေးပါဘုရား) အဲ-ကိုယ့်အရေးမှန်းသိလို့လာရင်ပဲ တကာကြွယ်ရေ တော်ပြီ၊ အရေးကြီးတဲ့တရား ငါးပါးက ဘာပါလိမ့်၊ (လောဘ, ဒေါသ, ထိန မိဒ္ဓ, ဥဒ္ဓစ္စကုက္ကုစ္စ, ဝိစိကိစ္ဆာပါဘုရား၊) ဟုတ်ပြီ ဒီနီဝရဏတရားဆိုတာ ပိတ်ပင်တတ်တဲ့ တရား၊ မဂ်ဉာဏ်မဝင်အောင် တားသောကြောင့် ပဋိစ္စသမုပ္ပါဒ်မပြတ်အောင် လုပ်တဲ့တရား (ဝါ) ပဋိစ္စသမုပ္ပါဒ်ဆက်အောင် ကျွေးမွေးပြုတဲ့တရားလို့ ထူးထူးခြားခြားမှတ်ပါ၊ ဒါ ဘယ်သူ့အရေးလဲ၊ (ကိုယ့်အရေးပါဘုရား၊) ပစ္စည်းရှိဖို့အရေး မဟုတ်ပါဘူး၊ ဆင်းရဲလို့လဲ အရေးမဟုတ်ပါဘူး၊ တကယ့် ဒုက္ခကြီးမှ လွတ်ဖို့ရန်အရေးလို့ မှတ်ပါ။

(မှန်လှပါ)။

ကောင်းပြီ၊ ကိုယ့်အရေး တရားငါးခုကို ကိုယ်ဖယ်ရှားမှသာ လျှင် ကိုယ့်ပဋိစ္စသမုပ္ပါဒ် ဖြတ်တော့မပေါ့၊ (မှန်လှပါ)၊ ကိုယ့်ရှိတဲ့ ပဋိစ္စသမုပ္ပါဒ် သားကလဲ ဖြတ်လို့မရဘူး၊ ကိုယ့်ဉာဏ်နဲ့ကိုယ်ဖြတ်မှ၊ သမီးရှိတဲ့ ပဋိစ္စသမုပ္ပါဒ်ကို အဖေဖြတ်လို့ မရဘူး၊ ကိုယ့်ဉာဏ်နဲ့ ကိုယ်ဖြတ်။

သဘောကျပြီလား၊ ယောကျ်ားမှာရှိတဲ့ ဒုက္ခစက်ရဟတ်ကို ယောကျ်ားဉာဏ်နဲ့ ဖြတ်ရမယ်၊ ကောင်းပြီ၊ ဒီငါးခု ဖုံးထားတာကို ကိုယ့်ဉာဏ်နဲ့ကိုယ် ဖယ်လိုက်ရင် ဖြတ်ပြီးသား ဖြစ်သွားတာပဲ၊ ဂရု စိုက်စမ်းပါ၊ ဒါ စေတနာကြီးနဲ့ ပြောနေတာ၊ သာမညလို့ မမှတ်ပါနဲ့၊ ဘုရားအဆူဆူနဲ့တွေ့၊ တွေ့ချင်းတိုင်းတွေ့၊ ဒီငါးပါးကို မဖယ် တတ်ရင် ဘုရားသာ ပရိနိဗ္ဗာန်စံမယ်၊ ကျုပ်တို့က ဂျမ်းထိုးမှောက်ခုံ သံသရာထဲသွား၊ ဘုရားက ’ဘယ်လိုပဲ တရားဟောဟော ကျုပ်တို့က ဒီငါးပါး မဖယ်တတ်ဘူးဆိုရင်ဖြင့် သံသရာထဲမှာ ဒုက္ခ စက်ရဟတ် လည်နေမယ်၊ ခေါင်းပြောင်းပြီးသကာလ နေကြရမယ်။

ဒါကြောင့် အကုန်လုံးနှင့်ဆိုင်တဲ့ တရားမို့ ကိုယ့်အရေးလို့ မှတ်ကြစမ်းပါ၊ ကဲ— ပြောပါတော့မယ်၊ ဒီဝတ္ထုနဲ့တကွ လာတဲ့ “ပဥ္စကနိပါတ် အင်္ဂုတ္တိုရ်ပါဠိတော်မှာ သင်္ဂါရဝ သတို့သား”ဆိုတာ ရှိတယ်၊ သူက အမေးသမား၊ ဘုရားက စမ္ပာနဂိုရ်ပြည်မှာ သီတင်း သုံး နေတော်မူတယ်၊ သင်္ဂါရဝ သတို့သားက အရှင်ဘုရား တပည့်တော် တစ်ခု မေးလျှောက်ပါရစေဘုရား....၊ အေး.... အေး.... လျှောက်ထား ပေါ့။

တပည့်တော်မှာ တစ်ခါတလေ ပုဏ္ဏားတို့ ထုံးစံအတိုင်း ရပြီး သား ကျမ်းဂန်စာပေတွေကို ညည ရွတ်ဖတ် သရဇ္ဈာယ်တဲ့အခါမှာ တစ်လုံးမှ သတိမရဘူး၊ အကုန် မေ့ကုန်တယ်ဘုရား၊ တစ်ခါတလေ ကျပြန်တော့ ရပြီးသားစာပေတွေအပြင် မရသေးတာတွေတောင် ဉာဏ်ထဲ ထင်ထင်လာတယ် ဘုရား။

အဲဒါ ဘယ်အတွက်ကြောင့်ပါလဲဘုရား၊ မေးပုံသိပ်ကောင်း ပါတယ်၊ မေးပုံကောင်းသလောက် တကာ တကာမတွေမှာ ပယ်နည်း

ရှားနည်း နိသျှည်း ရတော့မယ်ဆိုတာ သေသေချာချာမှတ်ပါ၊ ဒီလို ပယ်နည်းရှားနည်း ရတာနဲ့တစ်ပြိုင်တည်း ပဋိစ္စသမုပ္ပါဒ် နှစ်ခုစလုံး ပြတ်နိုင်တာပဲ၊ တကာ တကာမတွေ သာမည ပေါ့ပေါ့ပြောနေတယ် မထင်လိုက်ပါနဲ့၊ ကိုယ့်ဒုက္ခစက်ကြီး ပြတ်ချင်လို့ ဒုက္ခဖြတ်နည်း နိသျှည်းကို ရယူမယ်ဟာဆိုတဲ့ သဘောနဲ့ဖြင့် ဘယ်အချိန်လာလာ လာခဲ့ကြပါ၊ ကုသိုလ်ရချင်ရင် ရေအိုးစင်တည်၊ လမ်း တံမြက်စည်းလှဲရင် ရတာပါပဲ၊ သုဂတိလောကနဲ့ ကျေနပ်မနေပါနဲ့၊ သုဂတိမှာလဲ ဇာတိ ဇရာ မရဏတရားတွေနဲ့ မကင်းဘူး၊ သံသရာအပြင်ရောက်ဖို့ အရေးကြီးပါတယ်။

(မှန်ပါဘုရား)။

သင်္ဂါရဝ သတို့သားက လျှောက်ထားတော့ ဘုရားသခင်က ဒါ ရှင်းပြမယ်ကွ....။

စိတ်သည်ကားဆိုရင် ဟဒယနှလုံးသွေး ကြည်ပြီးသကာလ နေတဲ့အခါမှာ စိတ်က အာရုံဒွါရတိုက်ပြီး ဖြတ်ခနဲ ဖြတ်ခနဲ ပေါ်ရတယ်၊ မနောဝိညာဉ်စိတ်တွေက သူ့မှာပဲ ပေါ်ရတယ်၊ စက္ခုဝိညာဉ် စိတ်တွေကတော့ မျက်လုံးထဲ ပေါ်ရတယ်၊ သောတဝိညာဉ်, ဃာန ဝိညာဉ်, ဇိဝှာဝိညာဉ် အစရှိသည်တို့ကလဲ သူ့နေရာနှင့်သူ ပေါ်ရတာ၊ တကယ့်ဉာဏ်ပညာကတော့ဖြင့် ခုတင်ကပြောခဲ့တဲ့ ဟဒယဝတ္ထု နှလုံး အိမ်မှ အသစ်အသစ် ဖြစ်နေတဲ့ နှလုံးသွေးထဲမှာ ပေါ်ရပါတယ်။

နှလုံးသွေးဖြူနေရင် အဲဒီအထဲမှာ ပေါ်တဲ့ဉာဏ်ဟာ တိုးထွင်းတာပဲ၊ နှလုံးသွေးက နောက်နေမယ်ဆိုရင် ဒီအထဲမှာပေါ်တဲ့ စိတ်ဟာလဲ နောက်တောက်တောက် ပေါ်တာပဲ၊ မသိတဲ့ဉာဏ် လာဖြစ်တယ်။

(မှန်လှပါဘုရား)။

ကဲ–ဒါဖြင့် ပြောကြအုံးစို့၊ သင်္ဂါရဝ သတို့သား ငါ ဖြေမယ်ကွ၊ သေသေချာချာ နားထောင်၊ ဥပမာ အရင်ပြောမယ်၊ ခွက်တစ်ခုထဲမှာ ကြည်နေတဲ့ရေ ထည့်လိုက်၊ အဲဒီအထဲကို ဆေးနီ ဆေးဝါ ဆေးပြာတွေ ရောလိုက်ပြီး ရေကို ငြိမ်နေအောင်ထား၊ မျက်နှာနဲ့

ရေနဲ့ ဟပ်ကြည့်ပါ၊ မျက်နှာရိပ် မထင်ပါဘူး၊ မျက်နှာရိပ် ထင်နိုင်ပါ့မလား။

(မထင်ပါဘုရား)။

အရောင်အမျိုးမျိုး ရောနေတော့ ကိုယ့်မျက်လုံး မျက်ဖန် ကိုယ့်မျက်ဆန်တို့ကို ဘယ်လိုပဲဟပ်ကြည့်ပေမယ့် ရေထဲမှာ အရောင်ရောနေလို့ မမြင်နိုင်သလို ကျုပ်တို့ နဂိုဘဝင်စိတ်ဟာ အကြည်ပါပဲ၊ ဟဒယနှလုံးသွေးဟာလဲ အကြည်ပါပဲ၊ ဒီအထဲမှာ ကျုပ်တို့က လောဘစိတ်ကလေး ပေါ်လာလို့ ရှိရင် ဒီလောဘစိတ်ဟာ ရှစ်မျိုးတောင်ရှိတယ်၊ ဘယ်လောဘလို့ မဆိုတော့ဘူး၊ တစ်မျိုးပြီးတစ်မျိုး ဒိဋ္ဌိနဲ့ ယှဉ်လိုက်၊ ဒိဋ္ဌိနဲ့ မယှဉ်တာတွေ အသင်္ခါရိက သသင်္ခါရိကတွေ လောဘအမျိုးမျိုး ပေါ့ဗျာ၊ ဒီနှစ်လုံးသွေးထဲ ရောနေပြီဆိုမှဖြင့် ဉာဏ်နဲ့ စာတွေကြည့်လို့ မမြင်ဘူး၊ ဘာကြောင့်တုန်းဆိုတော့ လောဘမူစိတ်တည်းဟူသော ဆေးနီ ဆေးပြာ ဆေးဝါတွေက ဟဒယနှလုံးသွေးထဲမှာ ရောနေတော့ ဟာ ငါ သရဏဂုံ ဆောက်တည်ပါအုံးမယ် ဆိုငြားသော်လည်း မပေါ်လာပါဘူး။

(မှန်လှပါဘုရား)။

ဒီမှာလဲ ခန္ဓာကိုယ်ကြီးထဲမှာ ဝိပဿနာဉာဏ်နဲ့ သင်္ခါရာ အနိစ္စာဆိုတဲ့ ခန္ဓာကြီးကြည့်ပါမယ်လို့ ဆိုရင်ဖြင့် အရောမရှိရင် လူတိုင်း မြင်ပါတယ်၊ သဗ္ဗေသင်္ခါရာ အနိစ္စာဆိုတော့ ခန္ဓာကိုယ် တစ်ခုလုံးဟာ အနိစ္စပဲ ရှိတယ်၊ ဘယ်တော့မှ နိစ္စမရှိဘူး၊ ဒါတွေမမြင်ဘူးဆိုရင် လောဘရောနေပြီ၊ သားကိစ္စ သမီးကိစ္စ ကိစ္စမျိုးစုံ ရောနေပြီ၊ ဒီလိုဆိုရင် နှလုံးသွေးကြည်ထဲမှာ ဆေးနီ ဆေးဝါ ဆေးပြာ ရောနေပြီ၊ ပေါ်ပြီလား။

(ပေါ်ပါပြီဘုရား)။

ဉာဏ်ဝင်ခွင့် မရသောကြောင့် ဆေးနီ ဆေးပြာ ဆေးဝါ ရောလို့ မျက်နှာရိပ် မထင်သလိုပဲ၊ အနိစ္စရိပ်တွေ ဒုက္ခရိပ်တွေ အနတ္တရိပ်တွေ အသုဘရိပ်တွေ ဒုက္ခသစ္စာရိပ်တွေ မထင်နိုင်တော့ဘူး

(မှန်လှပါဘုရား)။

ဒါ ဘုရားက သင်္ဂါရဝသုတ် ဟောနေတာနော်၊ ဘုန်းကြီးက ဖြည့်စွက်လိုက်ပါမယ်၊ အနိစ္စလဲ မမြင်ဘူး၊ ဘာများရောနေပါလိမ့်၊ ကိုယ့်ဟာကိုယ်ကြည့်လိုက ဩော်.... သားခင်တဲ့ကိစ္စ၊ သမီးခင်တဲ့ ကိစ္စ ရောနေတယ်၊ ဒါ လောဘစိတ်ကလေး၊ သူက နှလုံးသွေးထဲ အရင် ရောက်နေတယ်၊ ဒီ ရောက်နေတာလေးကို ခုတင်က ရေမှာရောနေသော ဆေးနီ ဆေးဝါ ဆေးပြာတွေကို ဖယ်ထုတ်ပစ်သလို ဒီ လောဘ စိတ်ကလေးကို ဖြစ် ပျက် ရှုလိုက်၊ ရှုလိုက်တော့ ဒီလောဘစိတ်ကလေး မရှိဘူး၊ ဒီလို ဖယ်ပစ်လိုက်တော့မှ ဉာဏ်က ဒီထဲဝင်ပြီး ခန္ဓာထဲမှာ ရှိတာတွေ ကြည့်လိုက်တာပါ။

(မှန်လှပါဘုရား)။

အဲဒီတော့မှ နဂိုအရှိကို တကယ်အသိ ပေါ်လာတယ်၊ ကိုယ့် အရိပ် ကိုယ်မြင်ရမယ်၊ ကိုယ့်အရိပ်ဆိုတာ အနိစ္စရိပ်၊ ဒုက္ခရိပ်၊ အနတ္တ ရိပ်၊ အသုဘရိပ်၊ ဒုက္ခသစ္စာရိပ်တွေဟာ ကိုယ့်အရိပ်တွေလို့ မှတ်ပါ။

(မှန်လှပါဘုရား)။

ဒီအရိပ်တွေ ထင်မြင်ချင်ရင် အရောဖယ်ပါ၊ ဒီဖယ်နည်းကို ဘုရားက သတိပဋ္ဌာန်ပါဠိတော်မှာ....

သရာဂံ ဝါ စိတ္တံ သရာဂစိတ္တန္တိ ပဇာနာတိ၊
သမုဒယဓမ္မာ နုပဿီ ဝါ စိတ္တသ္မိံ ဝိဟရတိ၊
ဝယဓမ္မာ နုပဿီ ဝါ စိတ္တသ္မိံ ဝိဟရတိ။

လို့ ဟောထားသောကြောင့် သူ့အရင် ရှုပစ်လိုက်ပါ၊ ရော တဲ့အရာကို အရင်ရှုပစ်လိုက်၊ ရှုပစ်လိုက်တော့ သူက အနိစ္စမို့ပျောက် သွားပြီးတော့ ကျုပ်တို့က သူ့ကို ရှုမှတ်ပြီး ခန္ဓာ ပြန်လှည့်လိုက်တဲ့ အခါ အနိစ္စ၊ ဒုက္ခ၊ အနတ္တတွေ ဉာဏ်ထဲ ဝင်လာမယ်၊ ရောနေတဲ့ဆေး ဖယ်ပစ်လိုက်တော့ မျက်နှာရိပ် ထင်သလိုပါပဲလို့ ဘုရားကဟော တယ်၊ သေသေချာချာ မှတ်နော်၊ ဝိပဿနာ ရှုနည်းမှာတော့အကောင်း ဆုံးနည်းပါပဲ၊ ဩော်... ဒီအဖုံးတွေ မဖယ်ဘဲ ရှုနေကြရင်ဖြင့် ကျုပ်

ဘာမြင်တုံး၊ ဘာမှ မမြင်ဘူး ဆိုရင်ဖြင့် အပါယ် သွားရရှာတော့မယ်။

(မှန်လှပါဘုရား)။

ဒီဝိပဿနာ လုပ်မယ့်ကြံရင် ဖယ်နည်း ရှားနည်း နှိသျှည်းမှ မပါရင် ပါရမီအပေါ် ချတတ်ပါတယ်၊ ပါရမီ ချို့တဲ့လို့ မဟုတ်ပါဘူး၊ ပစ္စုပ္ပန်ညှော်သည်က ဝင်ရှုပ်နေတာ၊ ပါရမီဆိုတာ နောက်က အထုံအကျင့်ကို ဆိုတာ၊ ခင်ဗျားတို့ကာလဲ ဒီလောက်ဘောင် မပါးတော့ အနာတခြား ဆေးတခြား ဖြစ်သွားတယ်၊ အနာပေါက်တာ ကျုပ်တော့ ဝဋ်နာ ထင်ပါရဲဆိုတော့ ခက်ကရော။

(မှန်လှပါဘုရား)။

အဲဒါကြောင့် 'ယထာဘူတံ ဉာဏာယ—သတ္တာပရိယေသိတဗ္ဗာ''ယထာဘူတံ—ဟုတ်တိုင်းမှန်စွာ၊ ဉာဏာယ—သိဖို့ရာ၊ သတ္တာ—သိတတ်သောဆရာကို၊ ပရိယေသိတဗ္ဗာ—ငါ မရှိသည့်နောက် ရှာဖြစ်အောင် ရှာကြတော့၊ မင်းတို့ ပါရမီအပေါ် မချကြနဲ့၊ ပါရမီတွေ အကုန်သိမ်းပါ၊ ဒါဖြင့် တကာ—တကာမတို့ ပယ်တတ် ရှားတတ်လို့ ရှိရင်ဖြင့် ခန္ဓာကိုယ်ထဲမှာ ဆေးရောနေတဲ့ ရေထဲမှ ဆေးနီဆေးဝါ ဆေးပြာကို ဖယ်ပြီးမှ ရေကိုငြိမ်အောင်ထားပြီး ကြည့်လိုက်ရင် ရေကြည် ရေသန့်မို့ မျက်နှာရိပ်ပေါ်သလို ကိုယ့်အနိစ္စ, ကိုယ့်ဒုက္ခ, ကိုယ့်အနတ္တ, ကိုယ့်အသုဘ, ကိုယ့် ဒုက္ခတွေပေါ်လာအောင် ယခုပေါက်တဲ့အနာကို အရင်ကုပါ၊ပြီးမှ ခန္ဓာကိုယ်ကို ပြန်ရှုတဲ့အခါ ရေကြည်မှာ မျက်နှာရိပ် ထင်သလိုပါပဲ၊ ပေါ်ကြပြီလား။

(ပေါ်ပါပြီဘုရား)။

ကောင်းပြီ၊ ဒုတိယအချက်ကိုဟောမယ်၊ သူကတော့ ဒေါသ၊ (ဒေါသ)ဆိုတော့ ခန္ဓာကိုယ် ဟဒယဝတ္ထု နှလုံးသွေးထဲမှာ ပွက်ပွက်ဆူနေတယ်၊ အဲဒီအချိန်မှာ မျက်နှာရိပ်ကို ဉာဏ်ကလေးနဲ့သွင်းကြည့်စမ်းပါ၊မြင်ရပါမလား၊(မမြင်ရပါဘုရား၊) ခင်ဗျားတို့ ဆူနေတဲ့ ပွက်

နေတဲ့ ရေနွေးထဲကို မျက်နှာရိပ် ဟပ်ကြည့်စမ်းပါ၊ ရေကိုက အခိုး ထနေတာ၊ အဲဒီလို အချိန်ကျရင် သင်္ခါရဝရ မျက်နှာရိပ်ကို မမြင် နိုင်ဘူး၊ ဒေါသ ဖြစ်နေတဲ့အချိန်မှာလဲ ဉာဏ်နဲ့ခန္ဓာကိုယ်ကြည့်၊အနိစ္စ, ဒုက္ခ, အနတ္တ, ဒုက္ခသစ္စာကြီးလို့ ဘယ်တော့မှ မမြင်ဘူး၊ ရေဆူ အခိုး ထနေတာကိုး။

(မှန်လှပါ)။

အဲဒီတော့ တကာ—တကာမတွေ ခုတင်ကနည်းပေးတဲ့အတိုင်း ဒေါသစိတ်ကလေး ဘာလုပ်ရမတုံး၊ (ဖြစ်ပျက်ရှုရမှာပါဘုရား၊) ဖြစ်ပျက်ရှုပြီး သူ့ဖယ်ပစ်လိုက်၊ သူအေးအောင် လုပ်ပစ်လိုက်တယ်၊ အဲဒီလို ရေအခိုးငြိမ် ရေအေးရေကြည်သွားတော့မှ မျက်နှာနဲ့ဟပ်ကြည့် လိုက်တော့ မျက်စိ,မျက်နှာ,သွား,နှာခေါင်း ထင်လာသလို ဒေါသ ကို ဖြစ်ပျက်ရှုလိုက်၊ ကျုပ်တော့ ဒီနေ့ ဒေါသဖြစ်လို့ ကမ္မဋ္ဌာန်းကို မထိုင်သေးဘူးဆိုရင် တကာကြွယ်ရေ ခေါင်းပြောင်းပြန်ပြီ။

(မှန်လှပါဘုရား)။

ဒီဒေါသ မရှုမိရင် ဒေါသ သောကပရိဒေဝ, ဒုက္ခဒေါ မနဿ ဥပါယာသ၊ အဝိဇ္ဇာသင်္ခါရတွေ တသီကြီး လိုက်မလာ ပေဘူးလား။

(လာပါတယ်ဘုရား)။

ခင်ဗျားတို့ ခေါင်းပြောင်းတဲ့ဘက်သွားပြီး ဒေါသကိုမရှုမှတ် တတ်လို့ ပဋိစ္စသမုပ္ပါဒ် အဆုံးကနေ ပြန်ပတ်နေတယ်။

(မှန်လှပါဘုရား)။

ငါ ဒီနေ့ စိတ်မကောင်းဘူး၊ အဲဒီတော့ ကမ္မဋ္ဌာန်း မထိုင် သေးဘူးဆိုရင် စိတ်မကောင်းတာ အရေးမကြီးဘူး၊ခင်ဗျား အပါယ် သွားမယ်။

(မှန်လှပါဘုရား)။

ဘာပြုလို့တုံးဆိုတော့ စိတ်မကောင်းတာ ဒေါသ၊ ဒေါသ နောက်က သောက ပရိဒေဝ ဒုက္ခ ဒေါမနဿ ဥပါယာသ အဝိဇ္ဇာ ပစ္စယာသင်္ခါရာ လှည့်နေတာ ရှင်းပြီလား။

(ရှင်းပါပြီဘုရား)။

အဝိဇ္ဇာပစ္စယာသင်္ခါရာ, သင်္ခါရပစ္စယာ ဝိညာဏံ ဆိုတော့ ဒီအဝိဇ္ဇာကြောင့်ဖြစ်တဲ့ သင်္ခါရ၊ ဒီအဝိဇ္ဇာလဲ ဒေါသနဲ့ယှဉ်တဲ့အဝိဇ္ဇာ၊ မောဟ အကုသိုလ်စိတ် (၁၂)ပါး အကုန်ပါတယ်၊ ဒေါသနဲ့ယှဉ်တဲ့ အဝိဇ္ဇာဆိုကလည်းကအပါယ်ဘုံသွားဖို့ပဲ၊ သဘောကျပြီလား,(ကျပါ ပြီဘုရား၊) ဒါထက် ဒေါသပြင်းထန်လာရင် အပါယ်ရဲ သွားဖို့ဆို တာ ပေါ်ပြီလား၊ (ပေါ်ပါပြီဘုရား၊) ဒါဖြင့် ဒေါသလာရင် ဖြစ်ပျက် ရှုပစ်ပါ၊ ဒေါသကို ဖယ်ရှားပစ်ပြီးမှ မူလ ကမ္မဋ္ဌာန်းပြန် ကောက်၊ သဘောပေါက်ကဲ့လား။ (ပေါက်ပါပြီဘုရား။)

ကဲ–ဒါဖြင့် နောက်တစ်မျိုး ပြောပါဦးမယ်၊ ပထမ လောဘ ကို ရေထဲမှာ ဆေးနီ ဆေးဝါ ဆေးပြာရောတယ်လို့ ဟောခဲ့တယ်၊ ဒုတိယ ဒေါသကို အခိုးအလျှံ ထွက်နေတဲ့ ပွက်ပွက်ဆူနေတဲ့ ရေနွေးနဲ့ တူတယ်လို့ ဟောခဲ့တယ်၊ ယခု ထိနမိဒ္ဓ ဟောမယ်၊ ထိနမိဒ္ဓဆိုတာ ကိုယ့်စိတ် ကိုယ်မနိုင်၊ ကိုယ့်စေတသိက် ကိုယ်မနိုင်၊ ငိုက်ငိုက်သွားတာ ဟာကိုယ့်စိတ်၊ ကိုယ့်စေတသိက်ကိုထိန်းလို့ ရသေးရဲ့လား။

(မရပါဘုရား)။

အဲဒါ ထိနမိဒ္ဓ နီဝရဏလို့ခေါ်တယ်၊ ဘုရားရှင်ကိုယ်တော် မြတ်ကြီးက သင်္ဂါရဝ သတို့သား.... မင်းဟာ ရပြီးသားစာတွေ မေ့ တယ်၊ တစ်ခါတရံကျတော့ ရပြီးသားစာတွေပေါ်ပေါ်လာတဲ့အပြင် မရသေးတဲ့စာတွေတောင် ပေါ်ပေါ်လာတယ်ဆိုတဲ့ဥစ္စာဟာ ဟဒယ ဝတ္ထု နှလုံးသွေးထဲမှာ ထိနမိဒ္ဓ ဖုံးလွှမ်းလို့ပဲ၊ ထိနမိဒ္ဓဆိုတာရေကန် တစ်ခုရှိတယ်၊ ဒီရေထဲမှာ ရေမှော် ရေညှိ ဗေဒါပင်တွေ အုပ်နေရင် မင့်မျက်နှာ ဘယ်လိုပဲဟာပ်ကြည့်ကြည့် ရေထဲမှာ မင်းရဲ့ မျက်နှာရိပ် ထင်သေးရဲ့လား။

မထင်ပါဘုရား။

အဲဒါ အုပ်နေလို့ ဖုံးလွှမ်းနေတဲ့ အရာဝတ္ထုတွေရှိလို့ ထိနမိဒ္ဓ ဆိုတဲ့ ငိုက်မျဉ်းတဲ့ စိတ်ဟာ ဟဒယ နှလုံးသွေးပေါ်မှာ အုပ်နေလို့ ဉာဏ်ဝင်ခွင့်မရတာ၊ အင်း ဒီရေညှိ ရေမှော်တွေ ဖယ်ရှားပြီးသကာလ ရေကြိမ်အောင်ထားပြီး မျက်နှာနှင့်ဟပ်ကြည့်တော့ ကိုယ့်မျက်နှာရိပ် ဟာ ထင်ထင်ရှားရှား မမြင်ပေဘူးလား တကာ တကာမတို့။

(မြင်ပါတယ်ဘုရား)။

ဒါကြောင့် အဖုံးနဲ့တူတဲ့ ထိနမိဒ္ဓကို အရင် ဖြစ်ပျက်ရှုပါ၊ ဖယ် ရှားပစ်ပါ၊ သူ့ကို အရင်ရှုပြီးမှ ပထမ မူလ ကမ္မဋ္ဌာန်း ပြန်ကောက် ပါ၊ ရေညှိ ရေမှော်ကို ဖယ်ရှားကြည့်မှ ကိုယ့်မျက်နှာရိပ် ကိုယ်မြင်သလို ဟဒယ နှလုံးသွေးထဲမှ ထိနမိဒ္ဓကို အရင် ဖြစ်ပျက် ရှုပြီးမှ မူလ ကမ္မ ဋ္ဌာန်း ပြန်ကောက်တော့ကို တကာ တကာမတွေ ပထမရှုတဲ့ ဖြစ်ပျက် ကလဲ ပဋိစ္စသမုပ္ပါဒ် ပြတ်ပါတယ်၊ ဒုတိယ မူလ ကမ္မဋ္ဌာန်းတွေလဲ ထင်မြင်လာသောကြောင့် ထင်မြင်ခံရတာက အနိစ္စ၊ ထင်မြင်တဲ့ဉာဏ်က မဂ္ဂဖြစ်သွားတယ်၊ ခုတင်က သမုတိပဋိစ္စသမုပါဒ်ကော မပြတ်ဘူးလား။

(ပြတ်ပါတယ်ဘုရား)။

အင်း၊ ဒုက္ခ စက်ရဟတ်ကြီးကော၊ (ပြတ်ပါတယ် ဘုရား)၊ တကာ တကာမတွေ နေ့လယ်က မောလာလို့ ထင်ပါရဲ့၊ ပန်းလာလို့ ထင်ပါရဲ့၊ ဒါကြောင့် ဒီလောက်ငိုက်တာ မနက်ဖန်မှ ထရှုတော့မယ်၊ ဒါဟာ နက်ဖန် ထရှုရမှာ မဟုတ်ဘူး၊ ထိနမိဒ္ဓ ဆိုတာ လောဘနှင့် ဒေါသ ယှဉ်ဖြစ်တာ၊ အဲဒီတော့ လောဘ လာရင် လောဘက တဏှာ, ဥပါဒါန်, ကံ, ဇာတိ, ဇရာ မရဏ ဆိုတော့ အပါယ် လေးပါး ရှာတာ။

နက်ဖန် ရှုမယ်ဆိုတာ အပါယ်လေးပါး ရှာသလို ဖြစ်သွားပြီ၊ ကံက မြောက်သွားပြီ၊ တကာ တကာမတို့ မသေသေးလို့ မရောက် တာ၊ သေရင် အမှန်ရောက်မယ်၊ ဒေါသ လာပြန်တော့ကော—ကြည့် လေ၊ ဒေါသ, သောက, ပရိဒေဝ, အဝိဇ္ဇာ, သင်္ခါရတဲ့၊ အပါယ်

လေးပါးက သေချာနေပြီ၊ ဒါကြောင့် သူလာရင် သူ့ကို အရင် ဖယ်ရှားပစ်ပါ၊ ပြီးမှ မူလ ကမ္မဋ္ဌာန်း ပြန်ကောက်ပါ၊ ရှင်းပြီလား။

(ရှင်းပါပြီဘုရား)။

တကာ တကာမတို့....။

စတုတ္ထအချက်ကို ဟောမယ်၊ ဥဒ္ဓစ္စ ကုက္ကုစ္စဆိုတာ စိတ်က မငြိမ်တာ၊ ထားရာမှာ မနေတာဘဲ၊ ရေကို လေတိုက်လို့ လှုပ်နေတယ်၊ ရေချက်ထဲကရေ့ ရေကန်ထဲကရေ လေတိုက်လို့ လှုပ်နေတယ်၊ အဲဒီအခါ မင်းမျက်နှာကို ဟပ်ကြည့်ပါ၊ မင်းအရိပ် မထင်ဘူး၊ မထင်တာ ရေလှုပ်နေလို့၊ ရေလှုပ်တာကြောင့် မထင်တော့ ရေငြိမ်အောင် လုပ်ရလိမ့်မယ်၊ ရေငြိမ်အောင် လုပ်ဆိုတာက ဖြစ်ပျက် ရှုပေးဖို့ ပြောတာ။

(မှန်လှပါဘုရား)။

ဖြစ်ပျက် ရှုလိုက်တဲ့အခါကျတော့ ဥဒ္ဓစ္စကို မိသွားတယ်၊ ဥဒ္ဓစ္စက အနိစ္စ၊ သိတာက မဂ္ဂ ဖြစ်သွားတယ်၊ ဒါဖြင့် စိတ်ပြန့်လွင့်လျှင် ပြန့်လွင့်တဲ့စိတ်ကို ဘာလုပ်ကြမလဲ။

(ဖြစ်ပျက် ရှုရမှာပါဘုရား)။

ဟော့ မောင်ကျော်သိန်း၊ မင်း ဂီလိုနည်း မသိသေးခင်က ဘယ်လို ဖြစ်တတ်သတုံးလို့ မေးတော့ စိတ်က ထားရာမှာ မနေဘူး ဘုရား၊ အဲဒါ တပည့်တော် ဘာဖြစ်တယ်လို့ကို မသိဘူးဘုရား၊ ဘာမှ မဖြစ်ဘူး၊ အပါယ်သွားမလို့၊ ရိပ်မိပြီလား။

(ရိပ်မိပါပြီဘုရား)။

ဥဒ္ဓစ္စဆိုတာ လောဘ၊ ဒေါသ၊ မစ္ဆရိယ၊ ကုက္ကုစ္စ ဆိုတာက ဒေါသ၊ ဣဿာ မစ္ဆရိယတွေပဲ၊ ဥဒ္ဓစ္စ ကုက္ကုစ္စတို့မှာ အဝိဇ္ဇာလဲ ပါတယ်၊ ဒီတော့ အဝိဇ္ဇာပစ္စယာ သင်္ခါရာ၊ သင်္ခါရ ပစ္စယာ ဝိညာဏံ သွားချင်လို့ ပဋိစ္စသမုပ္ပါဒ် ဒုက္ခ စက်ရဟတ်ကြီး လည်မလို့ လာတာ၊ ဒီဥဒ္ဓစ္စကို မရှုလို့ ရှိရင် ပဋိစ္စသမုပ္ပါဒ်ကြီး အစက စမလို့ လာတာ၊ ဒီတော့ သူ့ကို အရင် ရှုပစ်လိုက်ပြီးတော့မှ မူလကမ္မဋ္ဌာန်းကို ပြန်လှည့်။

(မှန်လှပါဘုရား)။

နောက် ရေငြိမ်မှ မျက်နှာဟပ်လိုက်တော့ ကိုယ့်မျက်လုံး ကိုယ့်မျက်ခုံး အကုန် မြင်ရတယ်၊ ဒီမှာလဲ ဥဒ္ဒစ္စ ကုက္ကုစ္စဆိုတဲ့ ပြန့်လွင့်တဲ့ စိတ်က ငြိမ်သွားတဲ့အတွက် ပင်ကိုယ် ဉာဏ်ဟာလဲ ခုတင်က ရေငြိမ်တဲ့ ဆီမှာ မျက်နှာဟပ်ရသလို ခန္ဓာကိုယ်ကြီး ဟပ်ကြည့်တဲ့အခါ အနိစ္စတွေ တစ်ခါတည်း ဉာဏ်ထဲမှာ အကုန်ပေါ်လာတယ်၊ ဒါဖြင့် တကာ တကာမတို့က စိတ်တွေက တောင်ရောက် မြောက်ရောက်နဲ့ဗျာ၊ အလုပ် လုပ်လို့ မဖြစ်ပါဘူးလို့ဆိုရင် အပါယ်သွားဖို့ပဲ ဖြစ်တော့မယ်၊ မသေချာဘူးလား။

(သေချာပါတယ်ဘုရား။)

ဥဒ္ဒစ္စ ကုက္ကုစ္စ ဆိုတာ မောဟနဲ့လဲ ယှဉ်ပါတယ်၊ မောဟဆိုတော့ အဝိဇ္ဇာ မဖြစ်ဘူးလား၊ အဝိဇ္ဇာ ပစ္စယာ သင်္ခါရာ၊ သင်္ခါရပစ္စယာ ဝိညာဏံ၊ ဝိညာဏ ပစ္စယာ နာမရူပံ၊ အဲ ဒုက္ခတွေ တသီ တတန်းကြီး မပေါ်လာဘူးလား၊ ဒါဟာ ဖယ်ရမည့် တရား မဖယ်တတ်တော့ အတော်ဆိုးသွားတယ်၊ ရှင်းပြီလား၊ (ရှင်းပါပြီဘုရား)၊ ဒီတော့ ခင်ဗျားတို့က စိတ်တွေလဲ မငြိမ်ဘူး၊ မငြိမ်တဲ့အတွက် ကမ္မဋ္ဌာန်း အားထုတ်ရသော်လဲ ထိုင်သလောက် ညောင်းရုံပဲရှိမယ်၊ ပေါက်မှာ မဟုတ်ဘူးလို့ စိတ်ပျက်နေစရာမဟုတ်ဘူး၊ ဒီပြန့်လွင့်တဲ့စိတ်တွေ လာရင် ယခု ဆရာဘုန်းကြီးပေးတဲ့နည်း၊ ဘုရားသခင် ကိုယ်တော်မြတ်ကြီး က သင်္ဂါရဝ သတ္တိသား ဟောကြားသောနည်းနဲ့ ဖယ်ရှား ပေးပါ၊ ဖယ်ရှားပြီးမှ ခန္ဓာကိုယ် ပြန်ရှုတဲ့အခါ ရေငြိမ်မှ မျက်နှာရိပ် ထင်သလို ခန္ဓာတွေရဲ့ အနိစ္စ၊ ဒုက္ခ၊ အနတ္တဆိုတဲ့ လက္ခဏာရေး သုံးပါး အနက် တစ်ပါးပါး ဉာဏ်ထဲမှာ ပေါ်လာရမယ်၊ ရှင်းပြီလား။

(ရှင်းပါပြီဘုရား။)

ကုက္ကုစ္စကအရေးကြီးလို့ တကာ တကာမတွေကို သီးခြားပြီး ရှင်းလင်း ဟောပြပါအုံးမယ်၊ မောင်ကျော်သိန်းတို့ တစ်တွေက ငယ်စဉ်တုန်းက မသိမလိမ္မာလို့ ရှုးခဲ့ မူးခဲ့ ပေခဲ့ တေခဲ့တာတွေ ဘာမျှ ကြောက်စရာတွေမရှိဘူး၊ ဒါတွေကို နှလုံးမသွင်းပါနဲ့၊ ဆရာဘုန်းကြီး က မှာပါတယ်၊ နှလုံးသွင်းရင် သူက ကုက္ကုစ္စမို့ သူက မဂ်တား

ဖိုလ်တားမလို့လာတာ၊ ဖယ်ရှားတတ်ရင် အစဉ် မတားနိုင်ဘူးလို့ မှတ်ပါ။

တကာ—တကာမတို့ ငယ်ငယ်တုန်းကစပြီး တောက်လျှောက် လိမ္မာတဲ့ အမျိုးလို မရှိပါဘူး၊ မရှိတဲ့အပြင် အပေါင်းအသင်းနှင့် အမျိုးမျိုးအဖုံဖုံ မိုက်မှားတာကလေးတွေရှိကြတယ်၊မုသား သုံးလိုက်၊ ပျော်ချင်တဲ့ စိတ်ကလေးတွေ ပေါ်လိုက် စသည်ဖြင့် ငယ်ငယ်တုန်းက မိုက်ခဲ့တယ်၊ ယခု ဆရာကောင်း သမားကောင်းနဲ့ တွေ့တော့ တရား အားထုတ်တယ်၊ အဲဒါတွေ ဖြတ်မှပဲလို့ တွေးလျှင် ကုက္ကုစ္စပဲ၊ ဒါတွေက ကိုယ့်သန္တာန်မှာ ချက်ကောင်းမှ လာတတ်တယ်၊ တရား အားထုတ်ပါခိုမှ ကိုယ့်သံသယတွေက ဝင်လာတာ၊ ဒါတွေ စိတ်ထဲ ပေါ်လာရင် ဖြစ်ပျက်ရှုပါ၊ ဒါတွေဟာ အနိစ္စတွေပဲ၊ ခုမှပေါ်လာပြီး ခု ပျက်သွားတာပဲ၊ ပြုပြီးသား ဒုစရိုက်တရားတွေပေါ်သမျှ အကုန် ရှုပစ်လိုက်ပါ၊ တားနိုင်သေးရဲ့လား။

(မတားနိုင်ပါဘုရား။)

ပါဏာတိပါတ, အာဒိန္နာဒါန, ကာမေသုမိစ္ဆာစာရ, သုရာ မေရယ, မုသာဝါဒစသည့် ဒုစရိုက်တရားတွေ လာတိုင်း အာရုံမပြုနဲ့၊ ဘုန်းကြီးပြောတဲ့နည်းနဲ့ ပယ်ရှားလိုက်ပါ၊ ဘာမှ ကိစ္စမရှိပါဘူး၊ မင်းဟာ ခုမှပေါ်ပြီး ခုမှလာတဲ့စိတ်ပဲလို့ဆိုပြီး အနိစ္စရှုလိုက်ပါ၊ အနိစ္စ ရှုခုလိုက်တော့ သူ တားနိုင်သေးရဲ့လား။

(မတားနိုင်ပါဘုရား။)

အရက်မူးရင်း တရားနာရတဲ့ ယစ်ထုတ်ကြီးတောင်မှ သော တာပန်တည်ရတယ်၊ ဘာမျှ ကိုယ့်အတွက် သံသယ မရှိပါနဲ့၊ ဒါဖြင့် အရေးကြုံမှ ပေါ်လာတဲ့ မကောင်းစိတ်တွေကို ဘာလုပ်ရမတုန်း။ (ဖြစ် ပျက်ရှုရမှာပါ ဘုရား။) ဖြစ်ပျက် ရှုပြီးမှ ဆရာပေးတားတဲ့ မူလ ကမ္မဋ္ဌာန်း ပြန်ကောက်ပါ။ (မှန်လှပါ။) လက်ခံရင် တားလိမ့်မယ်၊ လက်မခံရင် မတားပါဘူး၊ အဘိဇ္ဈာသူ့စည်းစိမ်ကို ကြံစည်နေတယ်၊ ကြံစည်ရင် ကြံစည်တဲ့ စိတ်ကလေးကို ဖြစ်ပျက်ရှု၊ ဗျာပါဒကတော့ သူ့ အပေါ် မကျေနပ်တဲ့ စိတ်ကလေးပေါ်လာရင် ဖြစ်ပျက်ရှု၊ မိစ္ဆာဒိဋ္ဌိ

လာရင်လဲထို့အတူ ဖြစ်ပျက်ရှုပေးကြပါ၊ ဒီလိုရှုပစ်လိုက်ရင် ပြုခဲ့ပြီးသား ဒုစရိုက်တွေဟာ တားနိုင်သေးရဲ့လား၊ သူတို့က တကယ့်သူတော်ကောင်းအလုပ်၊ မဂ်ဖိုလ်ရောက်ခါနီးမှ လာတတ်တာနော်၊ဒါတွေကိုအောက်မေ့နေရင် ကုက္ကုစ္စ၊ဒါတွေကို ဖြစ်ပျက် ရှုလိုက်ရင် ဝိပဿနာမဂ် ဆရာဘုန်းကြီးပေးတဲ့နည်းနဲ့ ဖယ်ရှားလိုက်ရင် ဘာမျှ ကိစ္စမရှိဘူး၊ နို့မို့ရင် သေခါနီးများ သူက လာတတ်သေးတယ်၊ သေခါနီးမှာ ကုက္ကုစ္စ ဖြစ်လို့ ဂင်္ဂါမြစ်ထဲမှာပိန်းကောလောက်ရှိတဲ့ နဂါးလာဖြစ်တယ်၊ သိပ် ကြောက်စရာကောင်းတာပဲ။

ဒါကြောင့် တကာ—တကာမတွေကို သေနည်း ခဏ ခဏသင်ပေးနေတယ်၊ သေခါနီးရင် ကိုယ့်ခန္ဓာ ဖြစ်ပျက် ရှုပေးပါ၊ ခင်ဗျားတို့ကို သေခါနီးရင် ကိုယ် ပြိတ္တာဖြစ်အောင်၊ ကိုယ် တိရစ္ဆာန်ဖြစ်အောင် လောကွတ်မချော်ပါနဲ့လို့ ပြောလိုက်ပါတယ်၊ ကျန်ရစ်သူများကတော့ဖြင့် ဆွမ်းသွတ်ပြီးသကာလ တို့အဖေ တို့အမေ ကောင်းရာသုဂတိ လားပါစေလို့ ဆုတောင်းကြသော်လည်း ကိုယ်လောကွတ်ချော်မှုကြောင့် ကိုယ့်အဖြစ်ဆိုး သူတို့က မသိကြဘူး၊ သိပါ့မလား။

(မသိပါဘုရား။)

ခင်ဗျားတို့ လောကွတ်ချော်မှားလွန်းလို့ သားသမီး ဘယ်လိုနေရစ်မလဲ၊ မြေးကလေး ဘယ်သူထိန်းပါ့မလဲ၊ ဒီတိုက်တာတွေ ဒီအလုပ်ကြီးကို အုပ်ချုပ်မှ အုပ်ချုပ်နိုင်ပါ့မလား၊ ဒါတွေက သေခါနီးလာစရာတွေပေါ့ဗျာ၊ ဒါက ဘာတုန်းလို့ဆိုရင် ကုက္ကုစ္စပဲ၊ ပြီးခဲ့ပြီးသား၊ လုပ်ခဲ့ပြီးသား ဒုစရိုက်တွေပြန်တွေးရင် ကုက္ကုစ္စပဲ၊ ကုက္ကုစ္စတွေဝင်လာရင် မဂ်တား ဖိုလ်တားပဲ၊ သူ့ကို ဖြစ်ပျက်ရှုပြီးသကာလ ဆရာဘုန်းကြီး ဆုံးမထားတဲ့ ရုပ်နာမ်တွေ ဓမ္မတွေ ဖြစ်ပျက် ရှုပေး ...က်ရင် ခင်ဗျားတို့သေခါနီးသောတာပန် သကဒါဂါမိဖြစ်နိုင်တယ်။

...င်းပြီ၊ ပဋ္ဌမအချက်ဖြစ်သော ဝိစိကိစ္ဆာ နီဝရဏတရားကို ... ...ဝိစိကိစ္ဆာ)ဆိုတာသံသယရှိတာ၊ ဘုရားဟာ ဘုရားစစ်မှ ...ကဲ့လား၊ တရားဟာ တရားစစ်မှ ဟုတ်ကဲ့လား၊ သံဃာတွေ လဲ သံဃာစစ်တွေမှ ဟုတ်ကဲ့လား၊ ငါကျင့်နေတာ အကျင့်မှ

မှန်ရဲ့လားလို့ မလာစေနဲ့၊ ကိုယ်ဉာဏ်မမှီတဲ့ အတွက်ဘဲ၊ ဘုရားစစ်၊ တရားစစ်၊ သံဃာစစ်ဆိုတာဟာ သောတာပန်တည်ပြီးမှ ဆုံးဖြတ်ချက်ချနိုင်တယ်၊ ဘုရားပေါ်လဲ သံသယ ဖြစ်စရာမလိုဘူး၊တရားပေါ်မှာလဲ သံသယဖြစ်စရာမလိုဘူး၊ သံဃာပေါ်မှာလဲ သံသယဖြစ်စရာမလိုဘူး၊ တရားပေါ် သံသယမရှိလိုက်ပါနဲ့၊ခု ဖြစ်ပျက်ရှုကြည့်၊ခု အကာလိကော ဆိုတဲ့ နိဗ္ဗာန်အကျိုးပေးမယ်။

သံဃာတွေဟာ ကောင်းကောင်းမွန်မွန် ကျင့်ပြီးနေတဲ့ ပုဂ္ဂိုလ်တွေဆိုပြီး ကိုးကွယ်လို့ရှိရင် တကာ—တကာမတို့ ဘုရားလက်ထက်က (၇)ရက်အတွင်း အကျိုးပေးတယ်၊ ဒီမှာလဲ သံဃာတွေကို ဆွမ်းတွေ ကွမ်းတွေအမျိုးမျိုးအပုံပုံပူဇော်ကြတော့(၇)ရက်အတွင်းမှာအကျိုးပေး ပါတယ်၊ ခင်ဗျားတို့က သတိမထားလို့သာ၊ ပထမဇောက ပါရဲ့ မဟုတ်လား၊ ပထမဇောက(၇)ရက် (၇)လ၊ (၇)နှစ်အတွင်းအကျိုး ပေးရမယ်ဆိုတော့ ပထမဇောတွေက နည်းသလား၊ အဲဒါကြောင့် သံဃာအပေါ်လဲ သံသယမရှိကြနဲ့၊ ကိုယ်ကျင့်နေတဲ့ အကျင့်ပေါ်လဲ သံသယ မရှိကြပါနဲ့၊ ရှေးအဖြစ်လဲ ဘာမျှမတွေးပါနဲ့၊ ရှေးက ဖြစ်တာ နာမ်ရုပ်၊ ယခုဖြစ်ဆဲလဲ နာမ်ရုပ်၊ နောင်ဖြစ်လတ္တံ့လဲ နာမ်ရုပ်၊ အဲဒီလိုကာလသုံးပါးပေါ်မှာလည်း သံသယမရှိရင် ဝိစိကိစ္ဆာ စင်သွားတယ်။

ပဋိစ္စသမုပ္ပါဒ်ကြီးပေါ်မှာလဲ သံသယ ရှိသေးရဲ့လား။(မရှိပါ ဘုရား။) အဝိဇ္ဇာဖြစ်ရင် သင်္ခါရလာမှာပဲ၊ သင်္ခါရဖြစ်ရင် ဝိညာဏလာမှာပဲ၊ မလာပါနဲ့ဆိုလို့မရဘူး၊ တဏှာလာရင် ဥပါဒါန် လာမှာပဲ ဥပါဒါန်လာရင် ကမ္မဘဝ မလာပေဘူးလား။ (လာမှာပါဘုရား။)

ဒါ သံသယရှိဖို့ လိုသေးသလား။(မလိုပါဘုရား။) ဖြစ်ပျက်ကို တကယ်တမ်း ရှုနေတာဟာ သံသယသေတဲ့လမ်းပါပဲ၊ ဒိဋ္ဌိမဖြင့် အောင်လုပ်စမ်းပါ။

(မှန်လှပါ။)

ခုဖြစ်ပျက်ရှုလို့ ခုဖြစ်ပျက်သိရင်ဖြင့် ဒိဋ္ဌိမမွော၊ ဖြစ်ပျက် ဆုံးသွားရင် နိဗ္ဗာန် ပေါ်မလာဘူးလား။(ပေါ်ပါတယ်ဘုရား။)

ဒိဋ္ဌိမမှတွေ့ရတဲ့တရားတွေ အဲဒီတော့ ကိုယ်လုပ်ကြည့်ရင် ဒိဋ္ဌိမမှ တွေ့မယ်ဆိုခြင်းကြောင့် သံသယရှိဖို့လိုသေးသလား။ (မလိုပါဘုရား။) အကယ်၍ သံသယလာခဲ့သော် တကာ-တကာမတို့က ဘာလုပ်ကြမလဲ။ (ဖြစ်ပျက် ရှုရမှာပါဘုရား။) အေး....ဝိစိကိစ္ဆာ မင်းဟာ မောဟပဲ၊ တွေ့ပြီ့မင်းလာတာပဲလို့ ဆိုပြီး သံသယကို ဖြစ်ပျက်ရှုပြီး သကာလ မူလ ကမ္မဋ္ဌာန်းပြန်ကောက်ပါ၊ အကယ်၍ ဝိစိကိစ္ဆာမရှုဘူးဆိုရင် ဝိစိကိစ္ဆာဆိုတာ မောဟမူဒွေးထဲက(ဝါ) အဝိဇ္ဇာထဲက၊ သဘောကျ ပြီလား။

(ကျပါပြီဘုရား။)

သူ့ကိုလက်ခံရင် အဝိဇ္ဇာပစ္စယာ သင်္ခါရာ လုပ်မလို့၊ သင်္ခါရ ပစ္စယာ ဝိညာဏံလုပ်မလို့ ၊ ဝိညာဏပစ္စယာ နာမရူပံလုပ်မလို့ဆိုတော့ သံသရာဆက်မနေဘူးလား။ (ဆက်နေပါတယ်ဘုရား။) သံသရာဆက် မလို့လာတာဆိုတော့ မဂ်ဉာဏ် ဖိုလ်ဉာဏ် မတားသေးဘူးလား။ (တားမှာပါဘုရား။) ဒါဖြင့် သူ့ကို ဘာခေါ်ကြမလဲ။ (နီဝရဏဟုရား လို့ ခေါ်ပါတယ် ဘုရား။) တကာ-တကာမတို့ အစကပြောခဲ့တဲ့ အတိုင်း ဝိစိကိစ္ဆာဆိုတဲ့တရားသည် မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်တော့ တားပြီး အပါယ်တော့သွားစေတယ်။

ဝိစိကိစ္ဆာဆိုတာ ရေခွက်ထဲကရေ၊ ရေကန်ထဲကရေ၊ အနယ်ထ နေတာနဲ့ တူတယ်၊ အနယ်ထနေတဲ့ ရေပြင်မှာ မျက်နှာဟပ်ကြည့်ရင် ကိုယ့်မျက်နှာကို မမြင်နိုင်သလို ဝိစိကိစ္ဆာဝင်လာရင် ခန္ဓာအရိုကို ဉာဏ် မျက်စိက မမြင်နိုင်ဘူး၊ အနယ်ထိုင်ပြီး ကြည်လင်လာပြီးမှ ရေပြင် မှာ မျက်နှာကို ဟပ်ကြည့်ရင် ကိုယ့်မျက်လုံး မျက်ခုံး စသည်တို့ကို ကောင်းစွာ မြင်နိုင်တယ်၊ ဒီတော့ ဝိစိကိစ္ဆာဆိုတဲ့ သံသယစိတ် ကလေးလာရင် သူ့ကို အရင် ဖြစ်ပျက် ရှုလိုက်တာပေါ့၊ရှုလိုက်တော ဝိစိကိစ္ဆာ စိတ်ကလေး ရှိသေးရဲ့လား။

(မရှိပါဘုရား။)

ဒီလို ဖယ်ရှားလိုက်ပြီးမှ ခန္ဓာအရိုကို ကြည့်လိုက်တာပေါ့၊ ဒီတော့မှ နဂိုအရှိနှင့် တကယ်အသိ ပေါ်လာမယ်၊ ကိုယ့် အရိပ်ကို

မြင်တယ်၊ ကိုယ့်အရိပ်ဆိုတာ အနိစ္စအရိပ်၊ ဒုက္ခအရိပ်၊ အနတ္တအရိပ်၊ အသုဘအရိပ်၊ ဒုက္ခသစ္စာ အရိပ်တွေပါပဲ၊ ကဲ... တကာ-တကာမတို့ နိဗ္ဗာန်ရဏတရားတွေ ဝင်လာရင် ဖယ်ရှားတတ်ကြပြီလား။ (ဖယ်ရှားတတ်ပါပြီဘုရား။) ဒီတော့ ဘုရားဟောတဲ့နည်း၊ ဆရာဘုန်းကြီးက တစ်ဆင့်ပြောတဲ့နည်းနှင့် ဖယ်ရှားပြီး တရားအားထုတ်ရင် မရမရှိပါဘူး၊ ဆရာဘုန်းကြီးပြောတဲ့နည်းနဲ့ဖယ်ရှားပြီး အားထုတ်ကြပေတော့ တကာ—တကာမတို့၊ ကိုင်း... ဒီနေ့ ဒီတွင် တော်ကြအုံးစို့။

သာဓု... သာဓု... သာဓု...

**မှတ်ချက်။** ။ဤ ထေရုပ္ပတ္တိ စာအုပ်တွင် ပါရှိသော ဆရာတော်ဘုရားကြီး၏ ဟောစဉ် ကျင့်စဉ်နှင့် အလုပ်ပေးတရားတော်များမှာ တရားနာပုဂ္ဂိုလ်၏ စရိုက်ကို လိုက်၍ ခန္ဓာအရှိ ဉာဏ်အသိဖြင့် ဟောပြောခြင်း၊ အချို့တရားတော်များမှာ ဆောင်၍ ဟောပြောခြင်းများ ဖြစ်ရာ ဟောစဉ်တရားသက်သက်သာ ဖြစ်ပါသည်၊ ခန္ဓာဉာဏ်ရောက် ဟောစဉ်များမှာ အချိန်ယူကာ အမျိုးမျိုး ကြံစည်ကိုးကားပြီး ရေး သား ရ သော ရေးစဉ်တရားများကဲ့သို့ ပြေပြစ် ချောမော နိုင်လိမ့်မည် မဟုတ်ပေ၊ စာရေးသူအား ဟောပြောသော ကျင့်စဉ်နှင့် အလုပ်ပေးတရားတော်အချို့မှာ လက်ရေးဖြင့်အမှီလိုက်ပြီး အမြန်ရေးမှတ်ရပါသဖြင့်အနည်းငယ် ချို့ယွင်းချက်နှင့် ကြွင်းကျန်ရစ်သည်များလည်း ရှိကောင်း ရှိပေလိမ့်မည်၊ ထို့ပြင် တချို့တရားများမှာ အသံဖမ်းစက်ကိုင်သူ မကျွမ်းကျင်မှုကြောင့် အသံဖမ်းကြိုးခွေ (တိပ်ရီကော်ဒါ)မှာ အသံ မပီသ မသဲကွဲသည့်အတွက် ကူးယူရာတွင် ချို့ယွင်းသော အချက်များလည်း ပါကောင်း ပါပေမည်၊ သို့ပါ၍ သဘာဝအချက် ဓမ္မအနက်တို့ ကွဲလွဲ ဆန့်ကျင်သည် များနှင့် အကယ်၍ ချို့ယွင်းချက်များ တွေ့မြင် ဖတ်ရှုမိပါက စာရေးသူ၏အပြစ်သာ ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

## စင်္ကြံ လျှောက်တော်မူခြင်း

ဆရာတော် ဘုရားကြီးသည် တရားနာပရိသတ်နှင့် ရဟန်း ရှင် လူများအား နေ့စဉ်အချိန်မှန် ညနေ (၄)နာရီမှ (၅)နာရီထိ တစ်နာရီတိတိ အမရပူရမြို့ မင်္ဂလာကျောင်းတိုက်အတွင်းရှိ ဦးထွန်းကြည်-ဒေါ်စောဦး ဓမ္မာရုံ၌လည်းကောင်း၊ ရိပ်သာအတွင်းရှိ ဦးချစ်ဆွေ-ဒေါ်ဒေါ်မတို့၏ ဓမ္မာရုံ၌လည်းကောင်း အလှည့်ကျ တရားဓမ္မဟော ကြားပြီးတိုင်း (၅)နာရီ အချိန်တွင် ဦးဘတုတ်က ၎င်း၏ကားဖြင့် လာရောက်ပင့်ဆောင်သွားပြီး လူရှင်းသောနေရာမှာ ဆင်းသက်ခါ မန္တလေး စစ်ကိုင်း ကားလမ်း၌ လည်းကောင်း၊ ဦးပိန်တံတား၌ လည်းကောင်း၊ ရာသီဥတု အခြေအနေကိုကြည့်၍ သင့်တော်သော နေရာတွင် အမြဲစင်္ကြံ လျှောက်ပါသည်၊ အမရပူရမြို့ အိုးတော်ရပ်နေ ရက်ကန်းထောင် ဦးဘတုတ် ဇနီး ဒေါ်ခင်ငြိမ်းတို့မှာ ရွှေးယခင်က ပင် ပစ္စည်းလေးပါး ဒါယကာ ဒါယိကာမများဖြစ်ကြပြီး လောကီ စီးပွားကို စွန့်လွှတ်ခါ တရားအားထုတ်နေကြသူများ ဖြစ်ပါသည်။ ဆရာတော်ကြွသည့် နေရာတိုင်းကို မိမိ၏ကားဖြင့် ကိုယ်တိုင်ပို့ပြီး ဝတ်ပြုနေသူ ဖြစ်ပါသည်။ ဆရာတော်ဘုရားကြီးသည် စင်္ကြံလျှောက် သောအခါတွင်လည်း အမှတ်မဲ့လျှောက် ခြင်းမဟုတ်ဘဲ တရားကို သာ နှလုံးသွင်းလျက် တစ်စက္ကန့်လျှင် ခြေနှစ်လှမ်းကျခန့်၊ တစ်မိနစ် လျှင် ခြေလှမ်း (၁၂၀)ခန့် နှုန်းနှင့် နေ့စဉ် တစ်နာရီတိတိ လမ်း လျှောက်မြဲ ဖြစ်ပါသည်။

**မှတ်ချက်။** ။ဆရာတော် စင်္ကြံကြွတိုင်း ဦးဘတုတ်နှင့်ဦးစောမောင် (စမ်းကဖေး) တို့ အမြဲပါကြပါသည်၊စာရေးသူ ရဟန်းဝတ် စဉ်ကလည်း ၎င်းတို့နှင့်အတူ လိုက်ဖူးရာ ဦးစောမောင်ပြော ကြားချက်အရ ဦးစောမောင်က ဆရာတော်စင်္ကြံကြွချိန်မှစ၍ ခြေလှမ်းနှင့်အချိန်ကို မှတ်သားရေတွက်ကြည့်ရာ တစ်နာရီ လျှင် ခြေလှမ်းပေါင်း (၇၂၀၀)ခန့်ရှိကြောင်း သိရပါသည်။ မန္တလေးမြို့တွင် သီတင်းသုံးစဉ်၌ ဦးချစ်ဆွေက ကားဖြင့် ပင့် ဆောင်ကာ လူရှင်းသော မန္တလေးတောင်ခြေနှင့် ရန်ကင်း တောင်ခြေများတွင် စင်္ကြံ လျှောက်လေ့ ရှိပါသည်။

## စကြံ့ကျောင်း၌ တရားစစ်ခြင်း

အပြင်မှ စကြံ့ကြပြီး ပြန်ရောက်လာပြီးနောက် အမရပူရမြို့ မင်္ဂလာတိုက်အတွင်းရှိ ဦးပေါက်ကျော်-ဒေါ်ဒေါ်စီတို့ ကောင်းမှု ဖြစ်သော စကြံ့ကျောင်း၌ သီတင်းသုံးတော်မူလျက် ရှိနေသည့်အချိန်ဖြစ်ရာ တရားအားထုတ်ရန် လာကြသော ယောကျ်ား ယောဂီများသည်၊ ၎င်းစကြံ့ကျောင်းသို့တစ်ဦးချင်းဝင်ရောက်၍တရားအစစ်ခံရပါသည်၊ ထိုသို့ တရားစစ်ချိန်တိုင်းတွင် တရားအားထုတ်သူများ တစ်ဦးစီ မီး ဖွင့်ခွင့်မပြုသဖြင့် မှောင်မဲနေသော စကြံ့ကျောင်းအတွင်း၌ မိမိတို့ထိုင်လိုသောနေရာကို ခဲယဉ်းစွာ စမ်းသပ်ရှာဖွေ၍ ထိုင်ရပါသည်။

ယင်းသို့ထိုင်မိသောအခါ ဆရာတော်က "ဟေ့ မောင်ကျော်သိန်း၊မင်း အချိန်ဘယ်လောက်ကြာကြာတရားထိုင်ခဲ့သလဲ"ဟုမေးရာ။

"တပည့်တော် သုံးနာရီလောက် ကြာကြာ ထိုင်ခဲ့ပါသည် ဘုရား"ဟု အချိန်ကိုပို၍ လျှောက်မိပါသည်။

ထိုအခါ ဆရာတော်ဘုရားက "ဟ မောင်ကျော်သိန်း၊ မင်း တစ်နာရီပြည့်အောင်တောင် မထိုင်ခဲ့ဘူး၊ သမာဓိလဲ ခပ်ကျဲကျဲပဲ"ဟု အမိန့်ရှိလိုက်ရာ ကျွန်တော်မှာ လွန်စွာ အံ့ဩထိတ်လန့်သွားမိပါသည်၊ ကျွန်တော်ကဲ့သို့ အချိန်ပိုပြောသော ယောဂီများကိုလည်း ဆရာတော်ဘုရားက တိကျစွာပင် ကျွန်တော်အား အမိန့်ရှိသကဲ့သို့ အမိန့်ရှိပါသည်။

'အရှင်ဘုရား ဘယ်လိုကြောင့် တပည့်တော် အချိန်မည်မျှ ထိုင်၍ ဘယ်အဆင့်ရှိတယ်ဆိုတာ သိရပါသလဲ ဘုရား၊ တပည့်တော်ကို နားလည်အောင် အမိန့်ရှိပါအုံးဘုရား"ဟု လျှောက်ထားမိပါသည်။

ဆရာတော်ဘုရားက "အေး....ငါ ရှင်းပြောပြမယ်၊ သေသေချာချာ နားထောင်၊ တကာ—တကာမအချို့က ငါ့ကို ဒိဗ္ဗစက္ခုရတယ်လို့ အတတ်ပြောကြတယ် အမှန်က ဘယ်သူဟာ ဘယ်လောက် တရားအားထုတ်လာတယ်၊ ဘယ်လိုကိစ္စမျိုး ဖြစ်ပေါ်လာတယ်ဆိုတာ သိနိုင်တဲ့နည်းရှိတယ်၊ သမာဓိအားကောင်းရင် မင်းတို့ကို အရင်ရက်က သင်ပေးထားတဲ့ ဓာတ်(၆)ပါးကို ဆိုစမ်း"

ကျွန်တော်လဲ မဆိုင်းမတွဘဲ ဆရာတော် သင်ပေးထားသော ဆဓာတုဝိဘင် ကမ္မဋ္ဌာန်းကို ရွတ်ဆိုပြပါသည်။

**ဆရာတော်ဘုရားက အောက်ပါအတိုင်းရှင်းပြပါသည်**

မောင်ကျော်သိန်း လက်တစ်ဆုပ်စာ ရှိတဲ့ နှလုံးသွေးကို ဟဒယဝတ္ထုရုပ်က မှီနေတယ်၊အဲဒီဟဒယဝတ္ထုရုပ်က မနောဝိညာဏဓာတ်ကိုစိတ်စေတသိက်တို့ရဲ့ တည်ရာဌာနပဲ၊ ဒီတော့ ဒီနှလုံးသွေးဟာ တရားထိုင်ပြီး သမာဓိကောင်းကောင်းနဲ့ ရတဲ့အချိန်မယ် သူ့ အဆင့်အတန်းအလိုက် နှလုံးသွေး ကြည်လင် တောက်ပလာတယ်၊ လူ့ရဲ့အသွေးအရောင်ဟာလဲ ပြောင်းလဲလာတယ်၊ တရားထိုင်နေကျ ပုဂ္ဂိုလ်ချင်းဆိုရင် ကြည့်လိုက်တာနဲ့ သူ့ကိုယ်ကာယက ထွက်လာတဲ့ အာရောင်အဝါကို မြင်နိုင်သိနိုင်တယ်၊ ခုလိုညဆိုရင် ပိုပြီး ထင်ရှားတယ်။

ဥပမာ—မင်း တစ်ယောက်ယောက်နဲ့ ခိုက်ရန် ဖြစ်ပွားလာတယ်ဆိုပါတော့၊ အဲဒီ ဒေါသ စိတ်ကြောင့် မင်းရဲ့နှလုံးသွေးဟာ မဲပုပ်ပုပ်ဖြစ်လာပြီး ကိုယ်ရောင်ဟာ ကြည်လင်တောက်ပခြင်း မရှိတော့ဘဲ မဲပုပ် ညိုလာတယ်။

သောမနဿစိတ် ဖြစ်ပြန်တော့လဲ မင်းတို့တစ်ကိုယ်လုံးရှိ ရုပ်တွေဟာ ရှင်လန်းစိုရွှမ်းပြီး ကြည်လင်လာတယ်။

ဒေါမနဿစိတ်ဖြစ်လာတဲ့ အခါမှာ မင်းတို့ ရုပ်တွေဟာ ညှိုးနွမ်း ခြောက်သွေ့သွားပြန်တယ်။

ရာဂစိတ် အားကြီးပြန်တော့လဲ မင်းတို့ရုပ်တွေဟာ နီလာပြီး ကြွရွလှုပ်ရှား သွေးပူအိုက်ခါ အသက်ရှူသံပြင်းလာတယ်။

အကြံအစည် မပိုင်ပြန်ရင်လဲ တစ်ကိုယ်လုံး ချွေးလုံးကြီးများ ကျအောင် ပူလာတတ်တယ်၊ ပင့်သက်ရှူတာ များတယ်။

ပူပန်တဲ့ ဒေါသစိတ်၊ ခံပြင်းမြင်မြင်းတဲ့ ဒေါသစိတ်၊ ကြောက်ရွံ့ကတ်တဲ့စိတ်၊ စိတ်နာတဲ့ဒေါသစိတ်၊ သနားတဲ့ ကရုဏာစိတ်တွေဟာ ရုပ်အေးကို ဖြစ်စေတတ်တယ်၊ အေးအားကြီးရင် နှလုံးသွေး ပြစ်ခဲ့ပြီး မေ့လဲသွားတတ်တယ်၊ လွန်ရင် သေတောင် သေတတ်တယ်၊ ပူပန်နေတဲ့ ရုပ်က သိသာပါတယ်။

သံဝေဂစိတ် ဖြစ်ပေါ်လာတဲ့အခါ ကြက်သီးတဖြန်းဖြန်း ကျောတချမ်းချမ်း ဖြစ်နေတတ်တယ်။

သမာဓိရလျှင် မင်းတို့တရားထိုင်လို့ သမာဓိ အားကောင်းလာလေ၊ မင်း နှလုံးသွေးဟာ အဖြူရောင် သန်းလေပဲ၊ သမာဓိအား ကောင်းလွန်းရင် ကိုယ်အရောင်တောင် ထွက်လာတယ်၊ ဒါတွေဟာ အကြမ်းဖျင်း မင်းတို့ နားလည်ရုံ ပြောပြနေတာ၊ မင်းတို့ရဲ့ စိတ်ကြောင့် ရုပ်တွေအမျိုးမျိုး၊ လက္ခဏာ အမျိုးမျိုး၊ ကိုယ်ရောင် အမျိုးမျိုး ပြောင်းလဲပြီး ဖြစ်ပေါ်နေရတဲ့ အတွက် မင်းတို့လောကီနယ်ပယ်က ဘာပဲ လုပ်လာလာ ဘုန်းကြီးတို့အနေကတော့ အားလုံး သိတာပဲ၊ ဘယ်သူ တရားထိုင်တာ သမာဓိဘယ်လောက် ရရှိတယ်၊ တရား ဘယ်အခြေ ပေါက်ရောက်နေတယ်ဆိုတာ တရားအားထုတ်တဲ့ ယောဂီပုဂ္ဂိုလ်ရဲ့ အင်္ဂါရုပ် မြင်တာနဲ့ သိတာပေါ့၊ ညဆိုရင် ကိုယ်ရောင် အမျိုးမျိုးကြောင့် သိနိုင်တယ်၊

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒါပေမယ့် အချို့ ယောဂီတွေကိုတော့ အလိုက်သင့် ပြောပြီး တရားဘက်ပါလာအောင် ဆွဲယူရတာပဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ကဲ.... မောင်ချစ်စိန်တို့၊ မောင်ညိုတို့ မင်းတို့အားလုံးကိုတော့ မှန်တဲ့အတိုင်း ပွဲညှာပြီးမနေနိုင်ဘူး၊ ဇွတ်ဆွဲကယ်တင်ရမှာပဲ၊ ဒီတော့ မင်းတို့အားလုံးဟာ အိမ်ကကိစ္စဝိစ္စတွေကို တရားအားထုတ်တဲ့နေရာ၊ တရားအားထုတ်တဲ့ အချိန်မှာ တစ်ဦးနဲ့တစ်ဦး ပြောလဲမပြောရဘူး၊ စိတ်ထဲကလဲ အိမ်ကိစ္စတွေကို အိမ်မှာပဲထားခဲ့၊ မတွေးတောရဘူး၊ တရားပဲကြိုးစားအားထုတ်ရမယ်။

စာရေးသူ ။ မှန်ပါဘုရား၊တပည့်တော်တို့ အခုလိုအမိန့်ရှိတဲ့အတိုင်း ကြိုးစားအားထုတ်လျှင် ယခုဘဝမှာပဲ သောတာပတ္တိမဂ် ရနိုင်ပါ့မလားဘုရား။

ဆရာတော်။ အေး.... ရနိုင်တယ်၊ ဘုန်းကြီးလဲ ခဏခဏ ဒါပဲ ဟောနေပါတယ်။

စာရေးသူ ။ မှန်လှပါဘုရား၊ တပည့်တော်တို့ တရားအားထုတ်စဖြစ်နေလို့ မရှင်းလင်းနိုင်သဖြင့် မေးလျှောက်ရခြင်းဖြစ်ပါတယ်ဘုရား။

ဆရာတော်။ ဒီလိုကွယ့်(၁) အချက်မင်းတို့ သစ္စာလေးပါး တရားကိုလဲ နာယူရမယ်၊(၂)အချက်သိထားတဲ့တရားကို ထပ်ပြန်တလဲလဲ ပွားများကျင့်ကြံပြီး သတိထား၊ ဝီရိယစိုက်၊ ပညာနဲ့ကြည့်ပါ၊ ဒီနှစ်ချက်ညီလျှင် ဒီဘဝ မဂ်ရနိုင်တယ်လို့ တရားသဘောကို ဘုရား ဟော အတိုင်း ဘုန်းကြီးကတစ်ဆင့် နေ့တိုင်း ဟောပြောဆုံးမနေရပါတယ်။

စာရေးသူ ။ ဟောပြောဆုံးမတဲ့အတိုင်း လိုက်နာကျင့်ကြံ ပွားများပါမယ် ဘုရား။

ဆရာတော်။ ဟုတ်တိုင်းမှန်ရာ သိမှုက အရေးကြီးတယ်၊ ဟုတ်တိုင်းမှန်ရာ သိထားတဲ့အတိုင်း ကြိုးစားအားထုတ်ကြမယ်ဆိုရင် ရဟန်းသော လူသော မရွေးပါဘူး၊ မဂ်ရမှာကောန်ပါပဲ။

စာရေးသူ။ မှန်လှပါဘုရား။

ဆရာတော်။ မင်းတို့ မဂ်ရအောင်လုပ်ပြီးမှ ပျော်ကြစမ်းပါ၊ မဂ် မရခင် မဆော့နဲ့၊ မပေါ့နဲ့၊ ကျသွားရင် အပါယ်က လွတ်ဖို့မလွယ်ဘူးမှတ်။

စာရေးသူ။ မှန်လှပါဘုရား၊ တပည့်တော် မဂ်ရအောင် လုပ်ပါ မယ် ဘုရား။

ဆရာတော်။ မင်းတို့ကိုယ်မှာ ရုပ် နာမ် နှစ်မျိုးပဲရှိတယ်၊ ထိုင်နေ တာက ရုပ်၊ တရားနာနေတာ တရားရှုနေတာက နာမ်၊ ယောကျ်ားရယ် မိန်းမရယ်လို့ ဆိုကြတာ သမုဒယ သစ္စာနယ်မှာ ပညတ်အားဖြင့် မှန်တယ်၊ ပရမတ် သစ္စာနယ်အားဖြင့် ရုပ်နဲ့ နာမ်သာ ရှိတယ်၊ ဥပမာ— မြစ်ဟိုဘက်ကမ်းကို လူကူးမယ်ဆိုလို့ရှိရင် ဒီလူဟာ လှေ နဲ့ လှော်ခတ်သွားရမယ်၊ လှေကြောင့်လဲ ဟိုဘက်ကမ်း ရောက်တယ်ဆိုရမယ်၊ လူကြောင့်လဲ ဟိုဘက် ကမ်း ရောက်တယ်လို့ဆိုရမယ်၊ တစ်ခုနဲ့တစ်ခု အမှီပြုနေရ တာပဲ၊ သို့ကလို ရုပ်ရှိလို့ နာမ်ရှိရတာ၊ အကြောင်းနဲ့ အကျိုးပဲရှိတယ်၊ ရုပ်ကြောင့် နာမ်ဖြစ်တယ်၊ နာမ် ကြောင့် ရုပ်ဖြစ်ပေါ်လာရတယ်လို့ သတိပြုပါ၊ ဒီ သဘောတွေလဲ ဟောပြောပြီးသားပဲ၊ ရှင်းရဲ့လား။

စာရေးသူ။ မှန်လှပါဘုရား၊ ရုပ် နာမ် အကြောင်းတို့ ရှင်းပါပြီ ဘုရား၊ တပည့်တော်တို့ မရှင်းလင်း၊ နားမလည်တာ ကလေးတွေ လျှောက်ပါရစေဘုရား။

ဆရာတော်။ အေး.... လျှောက်တာပေါ့။

စာရေးသူ။ ယခုခေတ် လူတစ်ချို့ရဲ့ အယူအဆဟာ ကုသိုလ်ကံ အကုသိုလ်ကံ မရှိဘူး၊ သေလျှင် ပြီးတာပဲ၊ ပြတ် တာပဲ၊ နောက်ဘဝရယ်လို့ မရှိဘူးလို့ အယူရှိကြပါ တယ်၊ အဲဒီအယူဟာ မှန်ပါသလား ဘုရား။

**မှတ်ချက် ဆောင်ပုဒ်။** ခန္ဓာထဲမှာ၊ ရုပ်နာမ်သာ၊ မှန်စွာနှစ်ပါးရှိ။
ခန္ဓာ ရုပ်နာမ်၊ လျှောသဏ္ဍာန်၊ မှတ်ရန်ပမာညီ။
လှေထိုးသမား၊ ဉာဏ်စိတ်ထား၊ မခြားတူလှ၏။
ရုပ်နာမ်လှေတွင်၊ ဉာဏ်စိတ်ဝင်၊ အစဉ်ခတ်ပါဘိ။
ရုပ်နာမ်ဆက်ဆက်၊ဖြစ်ခါပျက်၊ဉာဏ်ချက်မျက်ဝါးမိ။
မျက်ဝါးဉာဏ်မြင်၊ ဆက်ရှုလျှင်၊ များမြင်ဖြစ်ပျက်သိ။
ဖြစ်ပျက်သိက၊ ရွှေးနာပ၊ ပျောက်စပြုလေ၏။

**ဆရာတော်။** ဒီအယူယူတဲ့ လူတွေဟာ မကောင်းမှု မှန်သမျှကို လုပ်ကိုင်နေကြလို့ ဒီမကောင်းမှုကို ဖုံးကွယ်ဖို့ရန် အကာအကွယ်ယူတဲ့ အယူပဲ။

**စာရေးသူ ။** မှန်လှပါဘုရား။

**ဆရာတော်။** ပြတ်တယ်၊ သေလျှင် ဘာမှမဖြစ်ဘူးဆိုတဲ့ အယူဟာ ဥစ္ဆေဒဒိဋ္ဌိ အယူပဲ။

**စာရေးသူ ။** မှန်လှပါ၊ ကုသိုလ်ကံ အကုသိုလ်ကံ မရှိဘူးဆိုတာ ကရော ဘုရား။

**ဆရာတော်။** ကံ—ကံ၏ အကျိုးပေးဆိုတာ ရှိတာပေါ့၊ ကာယကံ၊ ဝစီကံ၊ မနောကံတို့ရဲ့ အကျိုးတရားဟာ ဉာဏ်နဲ့မှန်းဆပြီး သိနိုင်တယ်၊ အကြောင်းတရားတိုင်းမှာ အကျိုးတရား ရှိတာချည်းပဲ၊ ကာလသုံးပါးရှိနေသားပဲကွာ၊ အတိတ်ကာလ၊ ပစ္စုပ္ပန်ကာလ၊ အနာဂတ်ကာလဆိုတဲ့ ကာလသုံးပါးရှိလျှင် အတိတ်ဘဝလဲရှိရမယ်၊ ယခု လက်ရှိဘဝလဲ ရှိရမယ်၊ နောက်ဘဝလဲ ရှိရမယ်၊ သဘောပေါက်ကဲ့လား။

**စာရေးသူ ။** မှန်လှပါဘုရား။

**ဆရာတော်။** ကိုင်း.... မင်းတို့ မြင်တွေ့နေရတဲ့ လူတွေဟာ အတိတ်ဘဝကံ အကြောင်းတရားကြောင့် အကျင့်အမျိုးမျိုး၊ ရုပ်ရည်အမျိုးမျိုး၊ စိတ်နေသဘောထား အမျိုးမျိုး၊ ပညာမှာလည်း ထူးချွန်မှု၊ မထူးချွန်မှု အမျိုးမျိုး၊

ဆင်းရဲချမ်းသာအမျိုးမျိုး မတူကြဘဲ အချင်းချင်း ကွဲပြားခြားနားနေကြတာပေါ့။

စာရေးသူ ။ မှန်လှပါ၊ ရာသီဥတုနှင့် ပတ်ဝန်းကျင်အတွေ့အကြုံ ကြိုးစားမှုအပေါ် မတည်ဘူးလားဘုရား။

ဆရာတော်။ အေး…. တည်သင့် သလောက်တော့ တည်တယ်၊ အကြောင်းတရားနားလည်မှုပိုပြီးသဘောပေါက်မယ်၊ ကဲ မင်းရဲ့ မိဘဆွေမျိုးတွေက နွားသတ်သမားတွေ ဆိုကြပါစို့။

စာရေးသူ ။ မှန်လှပါဘုရား။

**မှတ်ချက် ဆောင်ပုဒ်။** ရုပ်နာမ် လောက၊ ခိုင်မြဲစွာ၊ ယူကသဿတ။
ရုပ်နာမ်မမြဲ၊ ပြတ်ယူစွဲ၊ ခေါ်မြဲဥစ္ဆေဒါ။
အဆုံးရှိ၏၊ ဥစ္ဆေသိ၊ မရှိသဿတ။
အသက်ကိုမူ၊ တခြားယူ၊ အတူဟူလည်းဥစ္ဆေဒါ။
သတ္တာ သေမူ၊ ဖြစ်သေးယူ၊ တစ်လှည့်ဟူလည်းကေစ္စာ။
သတ္တာသေက၊ မဖြစ်ကြ၊ ပြတ်က ဥစ္ဆေဒါ။
မဖြစ်မဟုတ်၊ ဖြစ်မဟုတ်၊ စွဲထုတ်အမရာ။

ဆရာတော်။ မင်းရဲ့ ပတ်ဝန်းကျင်မှာ နွားသတ်သမားတွေဆိုတော့ နွားသတ်တာကို တွေ့နေကျ မြင်နေကျ ဖြစ်ရမယ်၊ ဒီတော့ နွားသတ်တဲ့အလုပ်ကို မင်း ကြိုးစားပြီး လုပ် နေမှာလား။

စာရေးသူ ။ တပည့်တော်စိတ်ကတော့ မိဘများက ကျွဲ နွား သတ် တဲ့အလုပ် လုပ်နေတောင်မှ တပည့်တော် မလုပ်ရဲ ပါဘူး ဘုရား။

ဆရာတော်။ ဘာ့ကြောင့် မလုပ်ရဲတာလဲ၊ ပတ်ဝန်းကျင် အတွေ့ အကြုံနဲ့ ကြိုးစားမှုဆိုတာ မယုံလို့လား။

စာရေးသူ ။ တပည့်တော် မလျှောက်တတ်တော့ပါဘုရား။

ဆရာတော်။ မင်း နွားမသတ်ရဲတာ ဘာကြောင့်လဲ၊ ငယ်စဉ်တုန်း ကရော သတ်ရဲခဲ့ရဲ့လား။

စာရေးသူ ။ မသတ်ရဲခဲ့ပါဘုရား၊ တပည့်တော် ငယ်စဉ်တုန်းက လဲ နွားကိုမဆိုထားပါနဲ့ ဘုရား၊ ငှက်ကလေးများ ကိုပင် သတ်ချင်စိတ် သတ်ရဲတဲ့ စိတ်ဓာတ်မျိုး မရှိခဲ့ပါ ဘုရား။

ဆရာတော်။ ကိုင်း.... ဒါဖြင့် မင်း (၁၀)နှစ် (၁၂) နှစ်အရွယ် လောက်က မင်းရဲ့ပတ်ဝန်းကျင် သူငယ်ချင်းကစား ဘက်တွေနဲ့ သားရေခွလေးတွေနဲ့ သေနတ်ကလေး တွေနဲ့ လည်ပြီးပစ်နေတာ မတွေ့ မမြင်ခဲ့ဘူးလား။

စာရေးသူ ။ တွေ့လဲ တွေ့ဖူး၊ မြင်လဲ မြင်ဖူးပါတယ်ဘုရား၊ ပေါင်း လဲ ပေါင်းသင်းခဲ့ဖူးပါတယ်၊ ဒါပေမယ့် သူတို့နဲ့ တပည့်တော်နဲ့ စိတ်ချင်းမတူကြပါ ဘုရား၊ သူတို့က သတ်ရက်တယ်၊ တပည့်တော်ကတော့ မသတ်ရက်ပါ ဘုရား။

ဆရာတော်။ အေး.... အေး.... စိတ်ချင်းမတူကြဘူးဆိုတာ မင်း စကားနဲ့ မင်းရဲ့ အတွေ့အကြုံနဲ့ မင်းပဲ ရှင်းပြောပြီး သား ဖြစ်နေတယ်။

စာရေးသူ ။ မှန်လှပါဘုရား၊ စိတ်ချင်းမတူကြဘူးဆိုတာ သဘော ပေါက်ပါပြီ။

ဆရာတော်။ မင်းရဲ့ ပတ်ဝန်းကျင်မှာ ကျွဲ နွား ကြက် ငှက် သတ်ရဲ တဲ့ လူတွေလဲ တွေ့ကြုံရမယ်၊ ခိုးဆိုးပေတေနေတဲ့ လူ တွေလဲ တွေ့ကြုံရမယ်၊ ငယ်စဉ်ကတည်းက အရွယ်နဲ့ မလိုက်အောင် ပညာတော်တဲ့ လူလဲ တွေ့ကြုံရမယ်၊ မိဘက ဘယ်လောက်ပင် ငွေကုန်ခံပြီး ပညာသင်ပေး မယ့် ကျောင်းပြေးပြီး ပညာမသင်ဘဲ နေတာတွေလဲ တွေ့ရမယ်၊ ဒါတွေဟာ တစ်ဦးနဲ့ တစ်ဦး မတူညီတဲ့ အချက်တွေပဲ၊ ရာသီဥတု ဆိုတာကတော့ သက်ရှိ သတ္တဝါ မှန်သမျှဟာ ရာသီဥတုရဲ့ သားမြေးတွေပဲ၊ ရာသီဥတုလိုက်ပြီး အသားအရောင်ကွဲမယ်၊ ကျန်းမာ ရေး ကွဲပြားခြားနားမယ်၊ရာသီဥတုလိုက်ပြီး စရိုက်ဟာ

တူမညီနိုင်ကြဘူး၊ဒါပေမယ့် မင်း ခုတင်ကပြောတဲ့ စိတ် စေတနာက လူ့ဘဝသက်တမ်းကို ပြဋ္ဌာန်းတယ်၊ ဒါကြောင့် တစ်ဦးနဲ့တစ်ဦးဟာ ဘယ်နည်းနဲ့မှမတူနိုင်ဘူး။

စာရေးသူ ။ တပည့်တော် နားလည်ပါပြီဘုရား။

ဆရာတော်။ ဒီ စိတ်စေတနာဟာ နောင်အချိန် မိမိရဲ့ကံကို ဖြစ်စေတယ်၊ ဘဝရဲ့ ရှေ့ဆောင်လဲ ဖြစ်တယ်။

စာရေးသူ ။ မှန်လှပါ၊ ဒီ စိတ်စေတနာအကြောင်းနဲ့ ဘဝရဲ့ ရှေ့ဆောင်ဆိုတာက ဘယ်လိုပါလဲ ဘုရား၊ ဟို အတိတ်ဘဝနဲ့ ယခုပစ္စုပ္ပန်ဘဝဟာ ဘယ်လိုဆက်စပ်နေပါသလဲ ဘုရား။

ဆရာတော်။ စေတနာဟာသတ္တာကိုဖြစ်စေတယ်၊စေတနာကံကြောင့် ရုပ်နာမ် ခန္ဓာ သတ္တာတွေ ဖြစ်တာ၊ ဒါကြောင့် "ကမ္မံ သတ္တေ ဝိဘဇတိ" လို့ ဆိုတာပဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ သင်္ခါရတရားတို့ဟာ ဘဝဆုံးပြီး သေတဲ့အခါကျမှသာ ပျက်စီးကြတာ မဟုတ်၊ မသေမီ မင်းတို့ ယခုဘဝ အတွင်း ပျက်စီးနေရက်ပဲ၊ ဒီလိုပျက်စီးနေတာကို နည်း အမျိုးမျိုးနဲ့ဆုံးမပြီး မသိ သိအောင် ဟောနေရတာ။

စာရေးသူ ။ မှန်လှပါ၊ ကျေးဇူးတော် ကြီးမားလှကြောင်းပါ ဘုရား။

ဆရာတော်။ ရုပ်ကို ဖြစ်စေတတ်တဲ့ အကြောင်းကတော့ ကံ၊ စိတ်၊ ဥတု၊ အာဟာရလေးပါးလို့ မှတ်ပါ၊ကံဆိုတာကုသိုလ် အကုသိုလ် စေတနာကို ခေါ်တယ်၊ ဒီကုသိုလ် အကုသိုလ် စေတနာကိုကံလို့မှတ်ပါ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ စိတ်ဆိုတာ "ဝိညာဏဓာတ်"ကို ခေါ်တယ်၊ ဒီ ဝိညာဏဓာတ်ကို စိတ်လို့မှတ်ပါ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဥတုဆိုတာ သာမည၊ တရားကိုယ်အားဖြင့် ရုပ်ကလာပ်တိုင်း၊ ရုပ်ကလာပ်တိုင်းမှာ ပါရှိတဲ့ မီးဓာတ်ကိုခေါ်တယ်၊ ဒီမီးဓာတ်ကို ဥတုလို့မှတ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ အာဟာရဆိုတာ သာမည၊ တရားကိုယ်အားဖြင့် ရုပ်ကလာပ်တိုင်းမှာ ရှိတဲ့ ပထဝီဓာတ်၊ အာပေါဓာတ် နှစ်ပါးရဲ့အဆီကို ခေါ်တယ်၊ ဒီအဆီကို ဩဇာလို့လဲ ခေါ်တယ်၊ အခု ပြောခဲ့တဲ့ အကြောင်း လေးပါး ကြောင့် ရုပ်ကို ဖြစ်စေတယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ဒီအကြောင်းကြောင့်ဖြစ်တဲ့ ပရမတ္ထ ရုပ်ကလာပ် ရုပ်မှုန်ကလေး တစ်ခုတစ်ခုမှာ ဖြစ်ပေါ်ဆဲကာလကို ဥပါဒ်ခဏ၊ ပျက်ကွယ်ဆဲကာလကို ဘင်ခဏ၊ ဖြစ်ပြီးမကြာခင် အကြား ရင့်ဆွေးဆဲကာလကို ဌီခဏလို့ ခေါ်တဲ့ခဏ သုံးပါး ရှိတယ်ဆိုတာ မှတ်ထားရမယ်။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ အကြင်အခါ ကံသည် ရုပ်ကလာပ်ကို ဖြစ်ပေါ်တယ်၊ ဒီရုပ်ကို ကံမှ ပေါက်ဖွားသောရုပ် ဖြစ်ခြင်းကြောင့် ကမ္မဇရုပ်လို့ မှတ်ပါ၊ ဒါကို ကံရဲ့သားလို့ပဲမှတ်၊ ကံရဲ့ သားကလာပ်မှာပါတဲ့ တေဇောဓာတ်ဆိုတဲ့ ဥတု၊ အဆီ ဩဇာဆိုတဲ့ အာဟာရတို့ဟာ ဌီခဏရောက်ရင် ရုပ်ကလာပ် တစ်ခုစီဖြစ်စေပြီး ပေါက်ဖွားလိုက်တယ်၊ ဒီ ရုပ်ကလာပ် နှစ်ခုဟာ ကံ အကြောင်းရင်းကြောင့် ဖြစ်တဲ့ ဥတုအာဟာရတို့မှ ပေါက်ဖွားတဲ့ရုပ် ဖြစ်ခြင်း ကြောင့် ကမ္မပစ္စယ ဥတုဇရုပ်၊ ကမ္မပစ္စယ အာဟာရဇ ရုပ်လို့ခေါ်တယ်၊ ဒါကံရဲ့ မြေးတွေလို့ပဲ မှတ်ထားပါ၊ ဒီလိုပဲ ဆက်ခါဆက်ခါ ဖြစ်နေတယ်။

စာရေးသူ ။ မှန်လှပါဘုရား၊ မှတ်ထားပါတယ်ဘုရား။

ဆရာတော်။ နောက်တစ်ဒန် ဆက်ပြောရမယ်ဆိုရင် အကြင်အခါ၌ စိတ်သည် ရုပ်ကလာပ်ကိုဖြစ်ပေါ် ပေါက်ဖွားလိုက်စေတယ်၊ အဲဒီရုပ်ကို စိတ်မှပေါက်ဖွားသောရုပ် ဖြစ်ခြင်းကြောင့် စိတ္တဇရုပ်လို့မှတ်။ ဒါဟာ စိတ်ရဲ့သားပဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ အဲဒီစိတ်ရဲ့ သားကလာပ်မှာရှိတဲ့ ဥတု အာဟာရတို့ဟာ မိမိတို့ ဌီခဏသို့ရောက်လျှင် ရုပ်ကလာပ်တို့တစ်ခုစီ ဖြစ်စေလျက် ပေါက်ဖွားလိုက်ရ ပြန်တယ်၊ အဲဒီ ပေါက်ဖွားလိုက်တဲ့ ရုပ်ကလာပ် နှစ်ခုဟာ စိတ်ရဲ့ အထောက်အပံ့ အကြောင်းရင်းရှိတဲ့ ဥတု အာဟာရတို့မှ ပေါက်ဖွားသောရုပ် ဖြစ်ခြင်းကြောင့် စိတ္တပစ္စယ ဥတုဇရုပ်၊ စိတ္တပစ္စယ အာဟာရဇရုပ်လို့ ခေါ်တယ်၊ စိတ်ရဲ့မြေးတွေပဲ၊ ဒီလိုပဲ အစဉ်ဆက်ပြီး ပေါက်ဖွားလာရတယ်၊ ဥတုဇနှင့် အာဟာရဇတို့ကြောင့်လဲ ရုပ်ကလာပ်ကလေးတွေ အသီးသီး ပေါက်ဖွားကြရတာ၊ စိတ်အားကောင်းရင် ကောင်းသလောက် ပေါက်ဖွားကြရတယ်၊ စိတ်အားညံ့ရင် ညံ့သလောက် ပေါက်ဖွားကြရတာပဲ၊ နောက် ကံဘက်ကဆိုရင် ကံအားကောင်းရင် ကောင်းသလောက် ကံအား ညံ့ရင် ညံ့သလောက် ပေါက်ဖွားကြရတယ်၊ ဥတုဇနှင့်အာဟာရဇတို့လဲ ဒီအတိုင်းပဲ။

စာရေးသူ ။ မှန်လှပါဘုရား။

ဆရာတော်။ ကံ, စိတ်, ဥတု, အာဟာရ တည်းဟူသောအကြောင်းလေးပါးကြောင့် ဖြစ်ပေါ်ရတဲ့ ရုပ်မှုံလေးတွေဟာ ဖြစ်ပြီးရင် တစ်ခဏချင်း ပျက်စီးသွားကြရတယ်၊ မမြဲဘူးလို့ သိရမယ် မှတ်ရမယ်။

စာရေးသူ။ မှန်လှပါဘုရား၊ ရုပ်မှုံကလေးတွေ မမြဲကြောင်း ထင်ထင်ရှားရှား သိပါပြီဘုရား၊ စိတ်ဟာ ဘယ်အချိန်က စရောက်လာပါသလဲ ဘုရား။

ဆရာတော်။ ကိုင်း ဒါဖြင့် အခုစိတ်အကြောင်း ထပ်ပြီးပြောရမယ်၊ မင်းတို့စိတ်ဟာအသစ်အသစ်ဖြစ်နေတဲ့နှလုံးသွေးဟဒယ ဝတ္ထု ရုပ်မှု ကလေးပေါ်မှာ ရုပ်ဖြစ်စက တစ်ပါတည်း မှီတွယ်ပါလာတယ်၊ ဘယ်အချိန်ကစပြီး ဒီ နှလုံးသွေး ရုပ်ရည် မှု ကလေးပေါ်မှာ စိတ်ကလေး ရောက်လာ သလဲဆိုတော့ အစဦးဆုံး ပဌမ ကလလရေကြည် တည်စ ကံကြောင့် ရုပ်ရည်မှု ကလေးသုံးခု အမိ ဝမ်းတွင်းမှာ ဖြစ်ပေါ်လာရော၊ ဒီစိတ်ကလေးမှီတွယ် လျက် ရုပ်နှင့် တစ်ပြိုင်နက်တည်း ပါလာတယ်၊ ဒီစိတ် မှီတွယ်ရာ ရုပ်မှု ကလေးတွေက နှလုံးသွေး ဖြစ်လာရ တယ်၊ ဒါ ဘဝင်စိတ်ပဲ၊ (မနောဝိညာဏ်) ဒီ စိတ်က လေးကတော့ ဖြစ်ပြီးပျက်, ဖြစ်ပြီးပျက်နဲ့ အလွန်တရာ အသက်တိုတယ်၊ စိတ္တက္ခဏ တစ်ချက်တည်းနဲ့ ငါးဒွါရ ရောက်အောင် အဆက်ဆက် (အဟောင်းပျက်, အသစ် ဖြစ်)ခြင်း အားဖြင့် ပြေးသွားတယ်၊ ဒါကြောင့် စိတ် ဘယ်လိုလုပ်ပြီး ဖြစ်ပျက်နေတယ်ဆိုတာ သိဖို့လိုတယ်၊ မှတ်ဖို့လိုတယ်၊ကိုင်း နားလည်ပြီ မဟုတ်လား။

စာရေးသူ။ မှန်လှပါဘုရား၊ အသိဟာ ဒီဘဝင်စိတ်နဲ့ သိနေတာ လားဘုရား။

ဆရာတော်။ ဒီ ဘဝင်စိတ်ကို မင်း နားလည်အောင် ပဋိသန္ဓေစိတ် ပြောရမယ်ဆိုရင် အခု ပစ္စုပ္ပန်ဘဝမှာ ဘဝ မပြတ် အောင် မြစ်ရေယဉ်ကဲ့သို့ ဆက်ခါဆက်ခါ ဖြစ်ပေါ် လာတဲ့စိတ်ဖြစ်လို့ "ဘဝဿအင်္ဂံ ဘဝင်္ဂံ ဘဝဿ" ဘဝ၏အင်္ဂါ အယဉ်မပြတ် ဆက်စပ်သော စိတ် အင်္ဂါ တည်း၊ ဣတိတသ္မာ-ထို့ကြောင့် ဘဝင်္ဂ-ဘဝင်မည်၏။ ဒါကြောင့် (ဘဝင်စိတ်)လို့ ခေါ်တယ်၊ အဲဒီ ပဋိသန္ဓေ စိတ် (ဘဝင်စိတ်) ဟာ ကံပေးသော နိမိတ်အာရုံကိုယူ ပြီး ကံပစ်ချရာ ဘဝမှာ ကံ ကောင်းလျှင် ကောင်း လိုက်, ကံညံ့လျှင်ညံ့လိုက်နဲ့ပဲ ကံပြုပြင်စီရင်သလို ဖြစ်ရ

တဲ့စိတ်ဖြစ်လို့ ကံ၏အကျိုးဝိပါက်စိတ်လို့ ခေါ်တယ်၊ ဒီဝိပါက်စိတ်အစဉ်ဟာလဲ ကံပေးတဲ့ အတိတ်အာရုံကို အာရုံပြုပြီး မြစ်ရေယာဉ်မှာ မျောပါနေတဲ့ ဖက်ရွက်ကလေးလိုအမှုအရာ ဗျာပါဒကင်းပြီး အလွန်ငြိမ်သက်စွာ ဖြစ်နေခြင်းကြောင့် ဒီဘဝင်စိတ် ဖြစ်နေတဲ့အခါ အဲဒီပုဂ္ဂိုလ်ဟာ ဘာမျှမသိတော့ဘူး၊ မင်းတို့ အဲဒီလိုနေတာကို အိပ်ပျော်နေတယ်၊ မျောနေတယ်၊ သတိမေ့နေတယ်လို့ မင်းတို့က ခေါ်ကြတယ်၊ အိပ်နေတဲ့အခါမှာ ဘဝင်စိတ်နဲ့ အိပ်တယ်လို့မှတ်။

စာရေးသူ။ မှန်လှပါဘုရား၊ စိတ်စေတနာကြောင့် ဖြစ်ပေါ်လာပုံကို နားလည်ပါပြီဘုရား၊ ဒီစေတနာကို ပြုပြင်လို့ရပါသလား ဘုရား။

ဆရာတော်။ ကိုင်း မင်း နားလည်သထက် နားလည်အောင်အရှင်းဆုံးနဲ့ တရားသံမပါဘဲ ပြောမယ်ဆိုလျှင် မင်းနဲ့ငါတွေ့ရတာဟာ ရှေး အတိတ်အကြောင်း တရားကြောင့်တွေ့ရခြင်းဖြစ်တယ်၊ အဲဒီလိုတွေ့ရလို့ သူတော်ကောင်းတရား အားထုတ်ရတာ၊မင်းကို စတွေ့....တွေ့ ခြင်းပဲ မင်းရုပ်လက္ခဏာကိုမြင်ရုံနဲ့မင်းကိုအကုသိုလ်ကံတွေ ဖိစီးနေတယ်ဆိုတာ သိလို့ မင်းကို ငါသက်နှင်းဝတ်ပေးပြီး စေတနာကောင်းနဲ့ တရား အားထုတ် ခိုင်းထားတယ်၊ အဲဒါ မင်းရဲ့ အတိတ်က မကောင်းမှု ပြုလုပ်ခဲ့သမျှ အကုသိုလ်ကံတွေကို (စေတနာကံ)ဖြူစင်တဲ့ ဘာဝနာကုသိုလ်နဲ့ ဆေးကြော ပေးထားတယ်၊ ဒါကြောင့် မင်း သက်သာရရတာ။

စာရေးသူ။ မှန်လှပါဘုရား၊ နားလည်ပါပြီဘုရား၊ အရှင်ဘုရား၏ ကျေးဇူးတော် မကုန်နိုင်ကြောင်း တပည့်တော်သိပါပြီဘုရား။

ဆရာတော်။ မင်း လက္ခဏာ ကောင်းကောင်းတတ်တဲ့ ပုဂ္ဂိုလ်ကို လက္ခဏာပြပြီးမေးကြည့်၊ မင်းရဲ့လက္ခဏာထဲမှာအတိတ်

က ဘာဖြစ်ခဲ့တယ်၊ ပစ္စုပ္ပန် ဘဝမှာ ဘာဖြစ်နေတယ်၊ အနာဂတ်မှာ ဘာဖြစ်လိမ့်မယ်ဆိုတာ အတိအကျပါတယ်၊ မင်း ကုသိုလ်ကောင်းမှုလုပ်ခဲ့တာတွေ၊ အကုသိုလ် ဒုစရိုက် မကောင်းမှု လုပ်ခဲ့တာတွေကို ဖုံးကွယ်လို့ မျှား ရမယ် ထင်သလား၊ လက္ခဏာထဲမှာ အတိတ်, ပစ္စုပ္ပန်, အနာဂတ် မင်းလုပ်ခဲ့သမျှ လုပ်သမျှ နောက်ဖြစ်မည့် အကြောင်းတွေ အားလုံးပါတယ်။

စာရေးသူ။ မှန်လှပါ၊ တပည့်တော်တို့ ယခင် အချိန်အခါက ဗေဒင်လက္ခဏာတွေ မေးကြည့်ခဲ့ ဖူးပါတယ် ဘုရား၊ ဒါပေမယ့် ဆရာတော် အမိန့်ရှိသလောက် အသိဉာဏ်မရှိခဲ့ပါ၊ လက္ခဏာဆရာတွေ ရမ်းပြီးတော့ ပြောနေဟောနေကြတယ်လို့ ထင်ခဲ့ပါတယ်ဘုရား၊ အခုတော့ အရှင်ဘုရားရှင်းပြလို့ လက္ခဏာထဲ ပါတာတွေကို ငြင်းပယ်ဖုံးကွယ်လို့ မရတော့ဘူးဆိုတာ သိပါပြီ ဘုရား၊ ဒါပေမယ့် ဒီ "အတိတ်, ပစ္စုပ္ပန်, အနာဂတ်" ဆိုတဲ့ ဘဝ သုံးပါးဟာ တစ်ခုနဲ့တစ်ခု ဘယ်လို ဆက်စပ်နေတယ်ဆိုတာတော့ တပည့်တော် သဘောမပေါက်သေးပါ ဘုရား။

ဆရာတော်။ မင်း မေးတဲ့ "စေတနာကံ" ဆိုတဲ့ ကမ္မဿကတဉာဏ် လေးလောက်နဲ့ အားကိုးစရာ မဟုတ်သေးဘူးလို့မှတ်ပါ၊ မင်းတို့ညနေ အမျှား တရားဟောတဲ့ အချိန်မှာ ဒီဘဝသုံးပါး ဆက်စပ်ပုံကို ငါဟောမယ်၊ မင်းတို့ သေသေချာချာ ဂရုစိုက်ပြီး နာယူ မှတ်သားကြပေါ့။

စာရေးသူ ။ မှန်လှပါဘုရား။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် စာရေးသူအား ဟောကြားဆုံးမသော တရားများမှာ တရား အားမထုတ်ဘူးသေးသော

သူများနှင့်ကိုက်ညီအောင် (သိလွယ်အောင်) လောကဓမ္မ သဘာဝ အချက်များ ခန္ဓာ ဖွဲ့စည်းထားပုံများကို ပိုင်ပိုင်နိုင်နိုင် နှိုင်းယှဉ် ကိုးကားပြသပြီးနောက် ခန္ဓာဖြစ်စဉ် တရားဓမ္မများကို လွယ်လွယ်နှင့် သိရအောင် နည်းနာနိသျှည်း အဖြာဖြာတို့ဖြင့် တန်ဆာဆင်လျက် လယ်ပြင် ဆင်သွားသကဲ့သို့ ထင်ရှားအောင် ပြသပြီး အလွယ်ဆုံးနှင့် ရိုးရိုးစကားလုံးများ သုံးစွဲကာ ဆုံးမဟောပြောခြင်း ဖြစ်ပါသည်။

ယင်းသို့ စေတနာကံ၏ အကြောင်းကို ဟောပြီးနောက် ဘဝသုံးပါးဆက်စပ်ပုံကို တိုနှေ့ညနေ တရားနာပရိသတ်အများ တရားဟောချိန်မှာ အောက်ပါအတိုင်း ဟောကြားပါသည်။



### ၁၃၁၉-ခု၊ တော်သသင်းလဆန်း (၁၀) ရက်နေ့ ဟောသော အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ် တရားတော်

ယနေ့ ကာလလုံးပါး ဆက်စပ်ပုံကို သေသေချာချာ ရှင်းပေးမယ်၊ လွန်ခဲ့တဲ့ဘဝဟာ အတိတ်ဘဝ၊ အခု ရောက်ဆဲဘဝဟာ ပစ္စုပ္ပန်ဘဝ၊ နောက် လာလတ္တံ့သော ဘဝဟာ အနာဂတ်ဘဝလို့ မှတ်ထားကြ၊ ဘဝသုံးပါးကို တန်းပြီးတော့ ပြထားတယ်၊ မင်းတို့မှတ်ထားကြ။

ဘာကြောင့်များ ဒီဘဝသုံးပါးဟာ တစ်ခုနဲ့ တစ်ခု ဆက်မိအောင် ဆက်စပ်နေရပါသလဲဆိုလျှင် အတိတ်ဘဝပြီးဆုံးလျှင် ပစ္စုပ္ပန်ဘဝ စမယ်၊ ပစ္စုပ္ပန်ဘဝ ပြီးဆုံးလျှင် အနာဂတ် ဘဝ စမယ်။

အဲဒီတော့ ဒီလိုဘဝတွေကို ဆက်မိအောင် လုပ်တဲ့ လက်သည်ကို ရှာကြစို့၊ ဘယ်သူကများ ဆက်စပ် ဆက်စပ် ပေးနေပါလိမ့်လို့ မေးစရာရှိလာတယ်၊ အဲဒီတော့ ဆရာဘုန်းကြီးကပဲ ပြောရမယ်ဆိုလျှင် လက်သည်ဟာ ဘယ်သူလဲဆိုတော့ ဟိုဘဝက စုတိ ဆိုတာက ဒုက္ခသစ္စာ၊ အတိတ်ဘဝက မသေဘဲနဲ့ ပစ္စုပ္ပန် ဘဝ မရောက်ပါဘူး၊ ဒါဖြင့် စုတိဆိုတဲ့ တရားကလေးက ဒုက္ခသစ္စာ။

သေခါနီးဖြစ်တဲ့ စိတ်ကလေးဟာ ဘာသစ္စာပါလိမ့်၊ (ဒုက္ခသစ္စာပါဘုရား။) ဒီပစ္စုပ္ပန်ဘဝနဲ့ အနာဂတ်ဘဝ ကြားထဲက ဒုက္ခအမျိုးမျိုးတွေကို အသာထားပါဦး၊ အခု ပစ္စုပ္ပန်ဘဝမှာ မင်းတို့က သေကြရဦးမယ်၊ အဲဒါဟာ စုတိ ဒုက္ခသစ္စာပဲ၊ အနာဂတ် ဘဝ စပြန်တော့လဲ အမိဝမ်းခေါင်းထဲ ပဋိသန္ဓေနေတဲ့ ရုပ်နာမ် ဘဝကလေးကပဲ စတာပဲ၊ မောင်ကျော်သိန်းတို့လူစုက နာမ်က အရင် စနေသလား၊ ...ာ အရင်စနေသလားလို့ မေးစရာမလိုပါဘူး၊ ခန္ဓာငါးပါး တစ်...ိုင်တည်း ရောက်တယ် ဖြစ်တယ်၊ ကာယဘာဝ ဝတ္ထုကလာပ်နဲ့ ...ညာဏ၊နာမ်ရုပ်ပေါင်းပြီးတော့ ပဋိသန္ဓေစိတ်ရတယ်၊ သူနဲ့ ယှဉ်ဖော်

ယှဉ်ဘက်ဖြစ်တဲ့ စေတသိက်နဲ့ နာမက္ခန္ဓာ ၄ ပါး မတွေ့ဘူးလား၊ ကာယဘာဝ ဝတ္ထုကလာပ်စည်းနဲ့ ထည့်ရင် ရုပ်နာမ် ဖြစ်လာတယ်၊ ဒါဟာ ခန္ဓာငါးပါး ပဋိသန္ဓေနေတာပဲ၊ နားလည်ကြရဲ့လား။

(မှန်လှပါဘုရား။)

ဒါလေးဟာ ဘာသစ္စာလဲလို့ မေးပြန်တော့ အမှန်အားဖြင့် အနာဂတ်ဘဝ ပဋိသန္ဓေတည်တဲ့ ဒုက္ခသစ္စာပဲ၊ ဒီဒုက္ခသစ္စာကို ဆက်ပြီး လုပ်တဲ့ လက်သည်ကိုတော့ မင်းတို့ ငါတို့ မရှာလျှင် မဖြစ်တော့ဘူး၊ ရှာကြရလိမ့်မယ်၊ မရှာလျှင် ဒီဒုက္ခသစ္စာဟာ မပြီးတော့ဘူး၊ ရှာကြရလိမ့်မယ်၊ ဒီလက်သည်ကို သတ်ပါ၊ မသတ်လျှင် ဘယ်နည်းနဲ့မှ ဒုက္ခအဆက်ပြတ်စရာ မရှိတော့ဘူး၊ ဆက်ပေးနေတဲ့ လက်သည်ဟာ ဘယ်သူတုံးဆိုတော့ ဒီဒုက္ခတွေ ဆက်စပ် ဆက်စပ် ပေးနေတဲ့သူဟာ မင်းတို့အခု ဝတ်နေတဲ့ လုံချည် အင်္ကျီတွေဟာ အထည်စက်ရုံတို့၊ ယက္ကန်းစင်တို့က ချုပ်ပြီးသား ကွင်းလိုက်ထွက်လာဖို့ မလွယ်ဘူး၊ မင်းတို့ကိုယ်နဲ့ အံကျဖြစ်အောင် စက်ချုပ်သမားက ခါးဝတ်ကိုယ်ဝတ် လုံချည် အင်္ကျီဖြစ်အောင် ချုပ်ပေးလိုက်တာ မဟုတ်လား၊ အဲဒီတော့ စက်ချုပ်သမားအပေါ်မှာ သူ့အတွက်ကြောင့် လုံချည် ဆက်စပ်ပြီးသား၊ အင်္ကျီ ဆက်စပ်ပြီးသား ရတယ်လို့ မဆိုနိုင်ဘူးလား၊ (အံကျဖြစ်အောင် ချုပ်ပေးလိုက်တာပါဘုရား၊ ဆိုနိုင်ပါတယ် ဘုရား။) ထိုနည်းအတူ စက်ချုပ်သမားနဲ့တူတဲ့ သမုဒယသစ္စာ တဏှာလောဘက ဆက်စပ်ပေးတာ၊ လက်သည်အစစ်ဟာ သမုဒယ တဏှာလောဘပဲ ဆိုတာ ရိပ်မိကြပလား။

(ရိပ်မိပါပြီဘုရား။)

အတိတ်ဘဝက စုတေပြီးသည်နှင့် တစ်ပြိုင်နက် ယခုရောက်ဆဲ ပစ္စုပ္ပန်ဘဝကို ဆက်ပေးတာဟာ စက်ချုပ်သမားနဲ့ တူတဲ့ တဏှာလောဘက ဆက်ပေးတာပဲ၊ ဒုက္ခ အဆက်မပြတ်တာဟာ တဏှာလောဘပဲလို့ ယုံယုံကြည်ကြည်နဲ့ သာ မှတ်တော့ သဘောကျပြီလား၊ (ကျပါပြီဘုရား။)

တစ်ခါ ရှေ့ဆက်ပြီးသွားပါဦး၊ ပစ္စုပ္ပန်ဘဝ၊ ဒီဘဝ သေကြရဦးမယ်၊ ဘုန်းကြီးပြောတဲ့ ဝိပဿနာ အလုပ်တွေ နိဗ္ဗာန်ရောက်တဲ့

အလုပ်တွေ မလုပ်သေးပါဘူးဆိုလျှင် ပစ္စုပ္ပန်ဘဝ စုတိစိတ်ကလေးနဲ့ အနာဂတ်ဘဝ ပဋိသန္ဓေစိတ်ကလေးကို ဆက်ပေဦးမယ်၊ ဘယ်သူလဲလို့ လက်သည်ကို ရှာကြည့်တော့။

(တဏှာလောဘပါဘုရား။)

ဩော်.... ဒါဖြင့် စက်ချုပ်သမား တဏှာလောဘကိုဖြင့် ဘုရားက ဟောလို့ ဘုန်းကြီးက ဖမ်းပေးလို့ သူ မသေသရွေ့တော့ ဒုက္ခအဆက်မပြတ်တော့ပါဘူးဆိုတာကို လေးလေးနက်နက်ပဲ ဆုံးဖြတ်ကြပါလို့ သတိပေးလိုက်မယ်။

အတိတ်ဘဝ စုတိနဲ့ ပစ္စုပ္ပန်ဘဝ ပဋိသန္ဓေ ဒုက္ခနှစ်ခုကို ဆက်စပ်ပေးတာ ဘယ်သူပါလိမ့်၊ (တဏှာလောဘပါ ဘုရား။) အခု ပစ္စုပ္ပန်ဘဝ သေလို့ ဆရာကောင်း သမားကောင်းနဲ့ မတွေ့လို့ မင်းတို့ကလည်း တရားဓမ္မမကြိုးစားလို့ရှိရင်ဖြင့် ဩော်.... ငါ ဘာဖြစ်မှာပါလိမ့်မတုံးလို့ မတွေးနဲ့တော့၊ ငါ ဒုက္ခဖြစ်ပြီလို့သာ မှတ်လိုက်ပေတော့၊ မောင်ကျော်သိန်းတို့လူစု သေသေချာချာ မှတ်လိုက်၊ မင်းတို့က ဘဝဆက်စပ်ပေးတာကို သူခထင်နေတဲ့ လူစုတွေ ရှင်းပလား၊ နားလည်ရဲ့လား၊ မင်းတို့သိချင်တဲ့ အချက်တွေ ဟောနေတယ်၊ ကိုင်း....ဘယ့်နှယ်ကြောင့် ဒီဒုက္ခတွေ ဆက်မိနေပါလိမ့်မလဲလို့ ဆန်းစစ်ကြည့်တော့ ပစ္စုပ္ပန်ဘဝ အသေစုတိဖြစ်ပြီးတော့ အနာဂတ်ဘဝ အနေဇာတိ၊ ပဋိသန္ဓေ ဆက်ပေးတာလဲ သူရှိသေးလို့ မှတ်လိုက်ပါတော့၊သဘောပေါက်ရဲ့လား။

(ပေါက်ပါပြီဘုရား။)

အပ်ချုပ်သမားဟာ တဏှာလောဘပဲ၊ ဒီကြားထဲမှာ သူပဲဆက်စပ်ပေးနေတယ်၊ အတိတ်နဲ့ ပစ္စုပ္ပန်ကြားလဲ သူပဲ၊ ပစ္စုပ္ပန်နဲ့အနာဂတ် ဆက်စပ်ပေးတာလဲ တဏှာလောဘ၊ ကိုင်း.... မင်းတို့ဒုက္ခပေးလေသမျှဟာ တဏှာလောဘပဲ၊ ဘုန်းကြီးက လက်သည်ဖမ်းပေးပြီးပြီ၊ မလွဲနိုင်တော့ဘူး၊သူ မသေသရွေ့တော့ စုတိပြီး ပဋိသန္ဓေ၊ ပဋိသန္ဓေပြီး စုတိ ဆက်စပ် ဆက်စပ် ပေးနေမှာပဲ၊ ဟေ့.... မောင်

ကျော်သိန်းတို့ လူစုံ ဘဝဆက်စပ်ပုံ ရှင်းပလား၊ နားကော နားလည်ကြရဲ့လား၊ မင်းတို့က ဘဝဆက်စပ်ရမှာကိုသာ ကြိုက်တဲ့ လူတွေပဲ၊ အကြိုက်မမှားနဲ့၊ ဒုက္ခဆက်ပေးနေတာ၊ ဘဝဆက်စပ်ပေး နေတာ ဘယ်သူလဲဟေ့။

(အပ်ချုပ်သမား တဏှာလောဘပါ ဘုရား။)

ဒီ အပ်ချုပ်သမားကို မင်းတို့တတွေ အသေအလဲရိုက်နှက်ပြီး နှင်မပစ်နိုင်ဘူးဆိုလို့ရှိရင် ကောင်းကျိုးတော့ဖြင့် မတွေ့ပါနဲ့တော့၊ သဘောပေါက်ကြရဲ့လား၊ အရေးကြီးတဲ့အချက်တွေ ပြောတော့ မလို့၊ မင်းတို့ရဲ့ ဘဝတွေဆက်စပ်ပုံ ကောင်းကောင်းကျေနပ်ပလား။

(ကျေနပ်ပါပြီ ဘုရား။)

တစ်သံသရာလုံး မင်းတို့ကို ဒုက္ခအားလုံးနဲ့ ဆက်စပ်ပေးပေး နေတာ ဘယ်သူတုံး။

(တဏှာလောဘပါဘုရား။)

စုံလုံးကန်းဘဝနဲ့ ဆိုလို့ရှိရင် ဘယ်သူကနေပြီးတော့ ငါ့ကို ဒီဘဝ ပို့လိုက်ပါလိမ့်၊ ဘယ်လိုလုပ်ပြီး ဒီဘဝရောက်လာပါလိမ့်မတုံး ဆိုပြီး သံသယနဲ့ နေရတော့မယ်။

ဟေ့.... မောင်ကျော်သိန်း၊ မင်းတို့လူစုဟောနေတာ အခု တော့ မြတ်စွာဘုရားရဲ့ အကူအညီ၊ ဆရာဘုန်းကြီးရဲ့ အပြောအဆို အဆုံးအမနဲ့၊ ပါဠိတော်ကြီးများ လာတာနဲ့ မင်းတို့သိစေချင်လို့ ထုတ်ဖော်ပြောတော့မှပဲ ဒီနေ့ဟာ လက်သည်ဖမ်းမိတဲ့ နေ့ပါပဲ၊ (လက်သည်ဖမ်းမိတဲ့နေ့ပဲ)လို့ ဆုံးဖြတ်ချက် ချလိုက်ပါ။

ဘာများ ဖမ်းမိကြတုံး—

(တဏှာလောဘပါ ဘုရား။)

တဏှာလောဘကို ဖမ်းမိတယ်ဆိုတာကိုတော့ဖြင့် ငြင်းစရာ မလိုတော့ပါဘူး၊ ဒုက္ခ အဆက်မပြတ်ပေးနေတဲ့သူကို တို့က အနိုင်ယူ

တဲ့နည်း မတွေ့သမျှကာလပတ်လုံး ဘယ်တော့မှ ဒုက္ခဆက်ပြတ်တော့မှာ မဟုတ်ဘူးလို့ ထပ်ပြီး ဆုံးဖြတ်ချက်ချပါ။

(မှန်လှပါဘုရား။)

ကောင်းပြီ၊ ဒါဖြင့် တပည့်တော်တို့ဘုံဘဝကို ဆက်ပေးတဲ့ လက်သည်ဖြင့် ဘယ်သူရယ်လို့ အရင်တုန်းက မသေချာခဲ့ဘူးဘုရား၊ ကုသိုလ်ကံက ဆက်သလိုလို မောင်ကျော်သိန်းတို့လူ့တစ်စု ထင်ချင်ထင်မယ်၊ မောင်လှဘူးတို့ မောင်ချစ်စိန်တို့ကလည်း ထင်ချင်ထင်မယ်၊

(မှန်လှပါဘုရား။)

မဟုတ်ပါဘူး၊ ကုသိုလ်ကံပေမယ့် ဒီတဏှာမရှိရင် ဒီကုသိုလ်ကံဟာ နိဗ္ဗာန်ပို့မယ်၊ သူဆက်ပေးနေတဲ့အတွက် နိဗ္ဗာန်မရောက်တာ၊ ကုသိုလ်ကံက တဏှာရဲ့ လက်အောက်ခံဖြစ်တဲ့အတွက် လူစုတိနဲ့ နတ်ပဋိသန္ဓေ ဆက်ပေးလိုက်တာပဲ၊ ကုသိုလ်ကံက သူဆက်ချင်သလို ဆက်လိုက်တာလား၊ တဏှာသြဇာခံပြီး ပို့လိုက်ရတာလား။

(တဏှာသြဇာခံပြီး ပို့လိုက်ရတာပါဘုရား။)

လက်သည် အရင်းကျကျရှာတော့ မောင်ကျော်သိန်းတို့လူ့စု ဘာတွေ့တုံး၊ (တဏှာလောဘကို တွေ့ပါတယ်ဘုရား။)

မင်းတို့ကတော့ သာမညဉာဏ်ကလေးနဲ့ ကြည့်လိုက်တဲ့၊ အဲဒါ၊ ဩော်... ကံကောင်းလို့လူ့ပြည်ရောက်လာတယ်၊ ကံကောင်းလို့ နတ်ပြည် ရောက်လာတယ်လို့ ထင်ကောင်း ထင်ကြလိမ့်မယ်၊ ဒီကံတွေဟာ ဘယ်လိုကောင်းကောင်း တဏှာသေရင် အဟောသိကံသာ ဖြစ်ရမယ်။

ဘုရားဖြစ်ခါနီး ဝေဿန္တရာမင်း လက်ထက်မှာ လှူလိုက်တန်းလိုက် ပေးလိုက်ကမ်းလိုက်တာ ဆင်ဖြူတော်ကို သိန်းပေါင်းများစွာ ဆင်ယင်ပြီး လှူလိုက်သေးတယ်။

အဲဒီတော့ ဘုရားအဖြစ်ရောက်တောင် သူ လှူဒါန်းပေးကမ်းထားတဲ့ ကုသိုလ်ကံတွေဟာ ကုန်ပြီလို့ ဆိုနိုင်ပါ့မလား။

(မဆိုနိုင်ပါ ဘုရား။)

တဏှာရှိတဲ့ ပုဂ္ဂိုလ်သာဆိုရင် အကျိုးပေးလို့ ကုန်နိုင်ပါ့ မလား (မကုန်နိုင်ပါ ဘုရား။)

သို့သော် ဗောဓိပင်နဲ့ ရွှေပလ္လင်မှ ဝိပဿနာအလုပ်ကို ကြိုးစား လုပ်လိုက်တဲ့အတွက် တဏှာလောဘ ပြတ်ထွက်သွားတော့ ဘုရား ပရိနိဗ္ဗာန်စံပြီး ဘယ်မျှားဆက်သေးသတုံး၊ ကံကုန်လို့ မဆက်တာ လား၊ တဏှာကုန်လို့ မဆက်တာလား။

(တဏှာကုန်လို့ မဆက်တာပါဘုရား။)

ကံကတော့ မကုန်ဘူး၊ တဏှာကုန်လို့သာ မဆက်နိုင်တော့ တာ၊ ဩော်....နဂိုစွဲနေတဲ့ဟာ ကံ၊ စွဲနေတဲ့ကံက ပို့ပေးလိုက်တာပဲ လို့ ဒီကံလေးတစ်လုံးကိုပဲ ကောင်းကံ၊ဆိုးကံဆိုပြီးလို့ ယူဆထားကြ ပြီးသကာလ ဟုတ်မှုဟုတ်ပါမလားလို့ အမေးထုတ်ကြည့်တော့ အခု ရှင်းပြလိုက်တော့မှ မဟုတ်ဘဲဖြစ်သွားတယ်။

ကံတွေကရော မရှိဘူးလား။

(ရှိပါတယ်ဘုရား။)

သို့သော် တဏှာ မရှိသည့်အတွက်ကြောင့် နောင်ဘဝ အနာ ဂတ်ဘဝတွေကို ဘုရားဟာ ဆက်သေးသလား။

(မဆက်တော့ပါဘုရား။)

ဒါဖြင့် ဘဝ ဆက်လေသမျှတွေဟာ တဏှာလောဘလို့သာ မှတ်လိုက်ကြပေတော့။

ဒါဖြင့် ကံဟာ ကြောက်စရာကောင်းသလား။

တဏှာဟာ ကြောက်စရာကောင်းသလား။

(တဏှာဟာ ကြောက်စရာ ကောင်းပါတယ်ဘုရား။)

အခုမှပဲ အဖိုးတန်ပေတော့တယ်၊ နဂိုတုန်းကတော့ ဩော် အကုသိုလ်ကံမျှား နှိပ်စက်မှာ ကြောက်လိုက်ကြတာ။ တဏှာကြောက်

တယ်လို့ မပါဘူး၊ ဘာကြောင့် ကြောက်တယ်ပြောသလဲ၊ အကုသိုလ်ကံအကျိုးပေးလိုက်တော့ ဒိုင်းကနဲလဲပြီး သေရမှာ ကြောက်တယ်၊ စီးပွားရေး ချို့ယွင်းသွားမှာကိုလဲကြောက်တယ်။

တစ်သက်လုံး မုဆိုး လုပ်စားနေတဲ့ မုဆိုးကြီးမှာ သား(၇)ယောက်၊ ချွေးမ(၇)ယောက်တို့နဲ့မုဆိုးလုပ်စားနေကြတာ အကုသိုလ်ကံတွေ မနည်းပါဘူး၊ သို့သော်လဲ မြတ်စွာဘုရားနှင့်တွေ့လို့ မြတ်စွာဘုရားကတရားဟောပြီး ဝိပဿနာအလုပ်နှင့် နိဗ္ဗာန်ရောက်ကြောင်းအလုပ် လုပ်နိုင်းလိုက်တော့ အဲဒီအကုသိုလ်ကံတွေဟာ အကျိုးပေးနိုင်သေးသလား၊ ဆက်နိုင်သေးသလား။

(မဆက်နိုင်ပါဘုရား)။

ဘာပြုလို့လဲဆိုတော့ တဏှာချုပ်လို့၊ သဘောကျပလား။

(ကျပါပြီဘုရား။)

ဒါဖြင့် မင်းတို့တတွေကုသိုလ်ကံတွေကိုလဲ ဒီလောက် အားကိုးစရာ မလိုပါဘူး၊ အကုသိုလ်ကံတွေကိုလဲ ဒီလောက်ကြောက်စရာမလိုပါဘူး၊ ကုသိုလ်ကံတွေ တပည့်တော်တို့အတော် ကြိုးစား လုပ်ထားရတာ၊ ဝဋ်ထဲလည်မည့်ကံတွေ တစ်ပုံကြီးရှိပါတယ်၊ မသိမလိမ္မာတဲ့ အရွယ်တုန်းက ဘုန်းကြီးနှင့်မတွေ့ခင်တုန်းက လောဘ၊ ဒေါသ၊ မောဟ နောက် လိုက်ပြီး လုပ်ထားတာတွေ အတွက်တော့ ခက်ပါသေးတယ်ဆိုပြီး မညည်းလိုက်ပါနဲ့၊ ဝဋ္ဋ ကုသိုလ်တွေ၊ မကောင်းမှုပြုလုပ်ထားတဲ့ အကုသိုလ်တွေ၊ မှုးယစ်ပေတေရေပြီး ပြုမိထားသော မကောင်းမှုတွေကိုလဲ မကြောက်ပါနဲ့၊ဘဝဆက်တတ်တဲ့ တဏှာသေရင် ကုသိုလ်ကံ အကုသိုလ်ကံဟာ အဟောသိကံ ဖြစ်ပါတယ်။

(မှန်လှပါဘုရား။)

ကုသိုလ်ကံ အကုသိုလ်ကံတို့နဲ့ တဏှာလောဘဟာ ဘယ်ဒင်းက ကြောက်စရာကောင်းသလဲ။

(တဏှာ လောဘက ကြောက်စရာကောင်းပါတယ်ဘုရား။)

ဒီနေ့တရားမှာ လက်သည်ကို ဖမ်းပေးရတဲ့ တရားဆိုတာ ကောင်းကောင်း ရှင်းသွားပြီလား (ရှင်းပါပြီဘုရား။)

လက်သည်အစစ်ကော မိကြပြီလား။ (မိပါပြီဘုရား။)

ဘာမိကြတာလဲ။ (တဏှာလောဘပါ ဘုရား။)

ဝဋ္ဋ ကုသိုလ်ကံကိုလဲ မသိ မလိမ္မာလို့လုပ်ထားတာ မကြောက်ကြပါနဲ့၊ အကုသိုလ်ဆိုတာလဲ လူတိုင်းမှာ ရှိကြတာပဲ၊ ရှိပင်ရှိငြား သော်လည်း ကံကြီးတွေလုပ်တဲ့လူတွေ မဟုတ်ကြတော့ ကြောက်စရာ မလိုပါဘူး၊ ကြောက်စရာကို ဒီနေ့ ပြောတော့ ဘာအမိကထားပြော မလဲ။ (တဏှာလောဘပါ ဘုရား။)

အဲဒါလေးတစ်လုံးကို ကြောက်လိုက်ရင်ဖြင့် ဘုန်းကြီးပေးတဲ့ နည်းနဲ့ မင်းတို့လုံ့လ ပယောဂနှင့် တဏှာလောဘကို သတ်မယ်ဆိုရင် ဘာမှမပူကြနဲ့။

အတိတ်စုတိနဲ့ ပစ္စုပ္ပန် ပဋိသန္ဓေဆက်တာကော ဘယ်သူတုံး။

(တဏှာပါဘုရား)။

ကံကဆက်ပေးတာလား၊ သူရှိလို့ ကံကဆက်ပေးတာလား။

(သူရှိလို့ဆက်ပေးတာပါဘုရား။)

ကံက အစေခံဖြစ်နေတော့ခေါင်းဆောင်သတ်လိုက်ရင် အစေခံ က ငါဆက်ပါဦးမည်ဆိုလို့ ဆက်နိုင်စရာအကြောင်း ရှိသေးရဲ့လား၊ (မရှိပါဘုရား)။ ဒါကြောင့် ကံကိုဘာမှမကြောက်နဲ့၊ သစ္စာလေးပါး မှာ အကုသိုလ်ကံတွေ ကုသိုလ်ကံတွေ ဒီလောက်မဟောပါဘူး၊ သမုဒယသေရင်ပြီးတာပဲလို့ ဘုရားက ဒီတစ်လုံးတည်းဟောထားတယ်၊ သမုဒယ ပဟာတဗ္ဗကို မဂ်နဲ့ပယ်ချလိုက်ပါ၊ မင်းတို့ ဘာမှပူစရာမ ပါဘူး။

ဟေ့....မောင်ချစ်စိန်၊ မောင်လှဘူး၊ မောင်ကျော်သိန်း တို့ ကိုယ့်သံသယကို အကုန်ဖြုတ်လိုက်ပါ၊ ငါမိုက်ခဲ့တယ်၊ မှုးခဲ့တယ်၊ ပေခဲ့တာတွေနဲ့ မသိမလိမ္မာလို့ ပြုလုပ်ခဲ့မိတဲ့ ဝဋ္ဋ ကုသိုလ်တွေကို သစ္စာလေးပါးနဲ့ ဝေဖန်ကြည့်၊ သစ္စာလေးပါးကျတော့ သမုဒယ

သစ္စာ တစ်လုံးတည်းပါပဲ၊ ဒီ သမုဒယသတ်ရင် သေတာပဲ၊ မရှင်းဘူးလား၊ (ရှင်းပါပြီဘုရား။)

မင်းတို့က ကုသိုလ်ကံလေးတွေ ဝင်လာနေပြန်တော့လဲ တပြုံးပြုံးနဲ့၊ အကုသိုလ်ကံလေးတွေဝင်လာပြီဆိုရင် မဲ့ကာရှုံ့ကာနဲ့ မဖြစ်ကြဘူးလား၊ (ဖြစ်ပါတယ်ဘုရား။) မင်းတို့က ကုသိုလ်ကံကျတော့ ပွေ့ပိုက်ထားချင်ကြတယ်၊ အကုသိုလ်ကံကျတော့ မဲ့ရှုံ့ကာနဲ့၊ မင်းတို့က ကုသိုလ်ကံကို ဝမ်းမြောက်တာလဲ မှားတယ်၊ အကုသိုလ်ကံကိုကြောက်တာလဲ မှားတယ်၊ မင်းတို့ဟာ သမုဒယသစ္စာ တဏှာလောဘတို့ကို ကြောက်မှ အကြောက်မှန်၊ ရှင်းကြပြီလား။

တဏှာ အပ်ချုပ်သမားလို့သာ ဘုရားက ဟောတယ်၊ ကံ အပ်ချုပ်သမားလို့ ဘုရားက မဟောခဲ့ဘူး၊ သဘောကျပြီလား။

(ကျပါပြီဘုရား။)

ဒါဖြင့် မင်းတို့ထဲတွေ အင်မတန်ဆိုးဝါးနေတဲ့ (တဏှာ)တရားဆိုတာပေါ်ပြီလား၊ တဏှာအကြောင်း ကောင်းကောင်း သိပြီလား၊ (သိပါပြီဘုရား။) ကောင်းကောင်းသိရင် မင်းနဲ့တော့ မနေတော့ဘူးဆိုပြီး ပြေးဖို့ကောင်းတယ်၊ ဒီလိုမျိုး လာရဲလား၊ (မလာပါဘုရား။) ဘာကြောင့် မလာပါလိမ့်၊ လက်သည် မဖမ်းမိလို့၊ သူကလဲခိုင်းသေးတယ်၊ ဘယ်သူမှန်းလဲ မသိရဘူး၊ ကံမကောင်းလို့ဆိုပြီး ကံပေါ်သာ လွှဲချတယ်၊ သူကတော့ ပုန်းနေတယ်၊ မင်းတို့စွဲချက်တင်တော့ ကံ၊ လုပ်နေတာက ဘယ်သူလဲ။ (တဏှာပါဘုရား။)

အဖမ်းခံရတာက ဘယ်သူလဲ၊ (ကံပါဘုရား)၊ တဏှာကို မမိကတည်းက သူ့ကိုသတ်လို့ ရပါဦးမလား၊ (မရပါဘုရား။) တကယ်ဒုက္ခပေးတာ ဘယ်သူတုံး (တဏှာပါ ဘုရား။) ဒုက္ခရောက်လာတော့ အဖမ်းခံရတာ ဘယ်သူတုံး၊ (ကံပါဘုရား။)

ညာက်နဲ့ဖမ်းမှ မိမယ်နော်၊ ညာက်နဲ့မဖမ်းရင် မိပါ့မလား။

(မမိပါဘုရား။)

ကိုင်း....ဒါဖြင့် တော်တော် အရှောင်ကောင်းတဲ့သူ၊ အခိုင်းလဲ ခိုင်းတယ်၊ ဘယ်သူမှန်းလဲ မသိရဘူး၊ ဘုရားသခင်တောင်မှ ဗောဓိပင်နဲ့

ရှေပလ္လင်ပေါ် ရောက်ပါမှ မင်းအကြောင်း ကောင်းကောင်း သိပြီလို့ ကြွေးကြော်ရဲတာ၊ နောက်ကို မင်းဘယ်တော့မှ ဒုက္ခပေးလို့ မရဘူး လို့ ဆိုရဲတာ၊ မင်းတို့ကတော့ ခေါင်းငုံ့ပြီးခံနေတာ၊ အဲဒီတော့ ဘယ် လိုလုပ်ကြမလဲ၊ (တဏှာကို သတ်ရပါမယ်ဘုရား။) တဏှာကို သတ် တော့မယ်ဆိုရင်ဖြင့် ဒီတဏှာမှီရာကိုရှာကြပါစို့၊ တစ်နေရာရာမှာ ကပ် နေမယ်၊ မှီနေမယ်။

အဲဒီကပ်မှီနေတဲ့ နေရာကိုမှ သူ့ကိုဖမ်းမိမှာ၊ သူက တစ်ခါ တလေကျပြန်တော့ ကိုယ့်အဆင်းလေးကို ကိုယ်ပိုင်လုပ်ပြီး ရှုပါရုံမှာ ကပ်နေတယ်၊ တစ်ခါကရုံမှာ မျက်လုံးကလေးမှာ ကပ်နေတယ်၊ မျက်လုံးကလေးကို ဘယ်လိုကပ်နေသလဲ ဆိုရင်ဖြင့် မျက်လုံးကလေး ကောင်းလို့ အကောင်းအဆိုး သိနိုင်တယ်ဆိုတာဟာ(တဏှာ)က မျက် လုံးကို သွားကပ်နေတယ်၊ ဒီခြေထောက်ကလေး သန်မာနေလို့ သွား လာနေနိုင်တယ်ဆိုရင် တဏှာက ခြေထောက်ကို သွားကပ်နေတယ်။

အင်း....ဒီရက္ကန်းစင်ကထွက်တဲ့ အထည်ကလေးတွေနဲ့ ရောင်း ဝယ်စားရမယ်ဆိုတဲ့ စိတ်ကူးကလေးတွေ ကူးနေရင်၊ ဒီစိတ်ကူးကလေး မှာ ဘယ်သူ သွားကပ်နေသလဲ။ (တဏှာကပ်နေပါတယ်ဘုရား။)

အဲဒီလို တဏှာကပ်နေတာဟာ နည်းတာမဟုတ်ဘူး၊ မျက်စိလဲ ကပ်နေတယ်၊ ခြေထောက်လဲ ကပ်နေတယ်၊စိတ်လဲကပ်နေတယ်၊ အပြင် အာယတန(၆)ပါးနဲ့ အတွင်း အာယတန (၆)ပါးမှာ သူ(တဏှာ) ကပ်နေမှာပဲ၊ တစ်ခါတလေ ကိုယ့်အသားအရေ အဆင်းကလေးကြည့် ပြီး၊ အင်း....ငါနေမယ်ဆိုရင် နေနိုင်သေးတယ်ဆိုပြီး သဘောကျနေ တယ်၊ဒီနေ့အသံဟာ မနေ့ကအသံနဲ့ဆိုရင် မတူတော့ဘူး၊နက်ဖြန်ဆိုရင် ဒီထက် ပိုကြည်လင်နိုင်စရာအကြောင်းရှိတယ်ဆိုပြီး ဒီအသံကလေးကို တဏှာက ကပ်နေတယ်၊ ဒါကြောင့် အတွင်းအပြင်လဲ ကပ်နေတယ်၊ အလယ်ကပ်တာလဲ ပါသေးတယ်၊ မပါဘူးလား။

(ပါပါတယ်ဘုရား။)

ဒီစက္ခုကလေးဟာ အဆင်းနဲ့ ပေါင်းတော့ စက္ခုဝိညာဏ်ဆိုတဲ့ မြင်စိတ်ကလေးဖြစ်လာတယ်၊ ဟော မျက်လုံးက မြင်သေးတယ်၊ မျက်

မှန်တောင် မတပ်ရသေးဘူး၊ တော်သေးတယ်ဆိုပြီး ဝမ်းသာနေတယ်၊ မျက်မှန်မတပ်ရသေးဘူးဆိုရင် ကိုယ့်မျက်လုံးနှင့် မြင်စိတ်ကို ကိုယ်သာယာတယ် မဟုတ်လား။

(သာယာပါတယ်ဘုရား။)

အေး....အဲဒါ အလယ်ကပ်နေတာပဲ၊ ရိပ်မိပြီလား။

(ရိပ်မိပါပြီဘုရား။)

ဒါတွေဟာ တဏှာကပ်တဲ့ နေရာတွေပဲ၊ ဒါဖြင့် စက္ခုဝိညာဏ်၊ သောတဝိညာဏ်၊ ဃာနဝိညာဏ်၊ ဇိဝှာဝိညာဏ်၊ ကာယဝိညာဏ်၊ မနောဝိညာဏ်ဆိုတဲ့ နေရာတွေကို အကုန်ကပ်တာပဲ၊ အဲဒီတော့ ဘယ်နှစ်ပါးရှိပြီလဲ။

(တစ်ဆယ့်ရှစ်ပါး ရှိပါပြီဘုရား။)

ဒါကြောင့် တဏှာကပ်တဲ့နေရာ (၁၈)နေရာဖြစ်တယ်။ အစကတည်းက တဏှာကပ်တဲ့နေရာ ရှာလိုက်တာ တစ်ကိုယ်လုံး ထပ်နေတာပဲ၊ ကပ်တယ်—မကပ်ဘူးဆိုတာ မင်းတို့ပြောနေတဲ့ စကားအတိုင်း အို....ဆံတစ်ပင် အကျွတ်မခံနိုင်ဘူးလို့ ပြောနေကြတယ်၊ ဒါကြောင့် တစ်ကိုယ်လုံးမှာ တဏှာကပ်နေတယ်ဆိုတာ သေချာတယ်၊ တဏှာကို သတ်ရမယ်၊ တဏှာသတ်နည်းကို နောက်မှ ဟောကြစို့။

သာဓု....သာဓု....သာဓု

*

မှတ်ချက်။ ။အဆင်းတည့်တည့်,မျက်လုံးလှည့်,မြင်သိစိတ်ပေါ်လာ။
စက္ခု ပဋိစ္စ, ရူပေစ, နေတ္တ ဝိညာဏာ။
အကြောင်းဆုံမှ, ပေါ်လာကြ, မူလ မရှိပါ။
စက္ခုဝိညာဏ်,ညွှဲသည်မှန်, ဖြစ်ပြန် ပျက်မြဲသာ။
ကြောင်းကျိုး ဆက်ဆက်, ဖြစ်တုံ့ပျက်, စဉ်ဆက် ခြောက်ဒွါရာ။
အနှစ်မရှိ, အကာတိ, မျက်လှည့်ဥပမာ။
မသိမိုက်မဲ့,တဏှာစွဲ, ငါပဲ ထင်မိရှာ။

မသိလိုချင်, စွဲလမ်းဝင်, အားအင်ထုတ်ရှာရခန္ဓာ။
ခန္ဓာရပြန်, တဏှာပြဒါန်, ကမ္မဇာတိလာ။
တစ်ခုဒွါရ, ပဋိစ္စ, ဒုက္ခ စက်လှည့်ကာ။
ဒွါရခြောက်ခွင်, သတိယှဉ်,ဉာဏ်မြင် ရှုကြည့်ရာ။
ဖြစ်ပျက်မြင်က, နောက်မဂ္ဂ, ဒုက္ခပြတ်နည်းနာ။



## မင်္ဂလာ ဝိပဿနာ မဂ္ဂင်ရိပ်သာအတွင်း
## စာရေးသူ
## ကျောင်းဆောက်လှူဒါန်းခြင်း

၁၃၂၀—ခုနှစ်တွင် ဆရာတော်ဘုရားကြီး သီတင်းသုံးရန်အတွက် ရိပ်သာအတွင်း၌ စာရေးသူသည် ၁၃၁၈-ခုနှစ်ကုန်လောက်မှစ၍ မင်္ဂလာရိပ်သာ ကျောင်းတိုက်တစ်တိုက်ကို ဆရာတော်ဘုရားကြီးနှင့် ဥတုသပ္ပါယ ညီမျှအောင် ဆောက်လုပ်ခဲ့ရာ ၁၃၁၉—ခုနှစ်တွင် ပြီးစီးပါ၍ ရေစက်ချ လှူဒါန်းရန် ဆရာတော်ဘုရားကြီး မိုးကုတ်မြို့၌ သီတင်းသုံးတော်မူခိုက် ဖြစ်၍ လိုက်၍ပင့်ရာ ဆရာတော်ဘုရားကလက်ခံတော်မမူသေးဘဲ ''တရားကို အရင် အားထုတ်နှင့်ဦး၊ ငါ မိုးကုတ်က ပြန်ကြွလာပြီး မင်းတို့ကိုကြပ်မတ်ကာ ဝိဝဋ္ဋဒါနလဲ ဖြစ်အောင် တရားလဲပေါက်မြောက်အောင် လုပ်ပေးအုံးမယ်၊ နောက်မှ ငါကြွလာမယ်''ဟု အမိန့်ရှိသဖြင့် ပြန်လာကာ တောင်မြို့မင်္ဂလာတိုက်တွင် ဒုလ္လဘရဟန်းအဖြစ် တက်ရောက်ပြီး တရားအားထုတ်နေနှင့် ရပါသည်။

မိုးကုတ်မြို့မှ ဆရာတော်ဘုရားကြီး ပြန်ကြွလာသောအခါ ရိပ်သာတွင်း၌စာရေးသူ ဆောက်လုပ်လှူဒါန်းထားသော ကျောင်း၌ ကျွန်တော်များ၏လျှောက်ထားချက်အရချီးမြှင့်သောအားဖြင့်သီတင်းသုံးနေသော်လည်း ရေစက်ချ လှူဒါန်းခြင်းကို လုံးဝလက်မခံသေးဘဲ ဝါတွင်း လေးလတိုင်တိုင် ဆရာတော်ဘုရား၏ ဝေယျာဝစ္စကိုပြုစုရင်း တရားအားထုတ်နေရပါသည်။ ဆရာတော်ဘုရားသည် ရပ်ဝေးမှ

ဘရားအားထုတ်ရန် လာကြသော အာဂန္တုများ မရှိသောအချိန်တွင် နွေ (၁၂) နာရီမှ (၃)နာရီတိုင်အောင် ရိပ်သာတွင်းကျောင်းအောက်ထပ်အခန်း၌ တရားအားထုတ်နေလေ့ ရှိပါသည်။

၁၃၂၀–ခုနှစ်မှစ၍ စကြံ့ကျောင်း၌ ညနေပိုင်းသာ သီတင်းသုံးတော်မူပြီး ကျန်ရှိသောအချိန်များ၌ မင်္ဂလာရိပ်သာကျောင်းမှာပင် ညတရား၊ နေ့တရားပွဲများ ကျင်းပဟောပြောကာ သီတင်းသုံးတော်မူပါသည်။

ကျွန်တော်လည်း ဇဟန်းသတဖြင့်ပင် ဆရာတော်ဘုရားကြီး တရားအားထုတ်ရာ၌ အခြားပရိသတ်များ အနှောင့်အယှက်ပေးမည် စိုး၍ အခန်းအပြင်မှ စောင့်ရှောက်ရင်း ဝေယျာဝစ္စများ ဆောင်ရွက်ရပါသည်။

ဆရာတော်ဘုရားကြီးက တရားနာပရိသတ်များအား တရားဟောသောအခါ ကိုယ်တိုင်တရားထိုင်ပြီးမှ ပေါ်လာသော ဖြစ်စဉ်များကို ဘုရားဟော ဒေသနာ ကျမ်းဂန်များနှင့်ညှိ၍ ဟောပြောဆုံးမတော် မူလေ့ရှိပါသည်။ ကျွန်တော်ကိုယ်တိုင် ဆရာတော်ဘုရားကြီးတရားမထိုင်မီ ဘလားအုပ်နှင့် ဖောင်တိန်ကို တရားအားထုတ်သောနေရာ၌ အမြဲ ထားပေးရပါသည်။ တရားထိုင်ချိန်မှာလည်း မည်သည့် ဣရိယာပုတ်မှ ပြောင်းလဲခြင်း ပြုသည်ကို မတွေ့ဘူးပါ။ တရားထိုင်ပြီးသောအခါမှ ညနေပိုင်းဟောမည့် တရားပါဠိ တစ်ပုဒ်စာနှင့် ရက်စွဲ မှတ်ထားသည်ကို အမြဲတမ်း တွေ့မြင် သိမ်းဆည်းရပါသည်။

ဆရာတော်ဘုရားကြီးသည် စာရေးရာ၌လည်းကောင်း၊ တရားအားထုတ်ရာ၌ လည်းကောင်း၊ စကြံ့ကြွရာ၌လည်းကောင်း နာရီကိုကြည့်လေ့မရှိဘဲ ပြုလုပ်တော်မူသော်လည်း နာရီကိုကြည့်ပြီး ပြုလုပ်သူများထက်ပင် အချိန် တိကျမှန်ကန်ခြင်းကို ဖူးတွေ့ရပါသဖြင့် ကြည်ညိုလေးစားမိပါတော့သည်။ အထူးသဖြင့် တရားနာပရိသတ်များကို တရားဟောစဉ်တွင်လည်း မိမိခန္ဓာကို ညာဏ်စိုက်၍ ပေါ်လာသော အချက်အလက်များ မှတ်သားထားသည်ကို သိမ်းဆည်းရင်း မှတ်ကြည့်သော ကျွန်တော်မှာ သာလွန်၍ပင် အံ့ဩလျက် ကြက်သီး

မေးညင်းများထကာ ထပ်လောင်း၍ ဆရာတော်ဘုရားကြီး၏ ဉာဏ်တော်ကို ကြည်ညိုသဒ္ဓါပွားများကာဖြင့် ပူဇော်မိ ပါတော့သည်။

**မှတ်ချက်။** ၎င်းစာအုပ်ကို ကြည့်ခြင်းအားဖြင့် ညနေတွင် မည်သည့် တရားကို ဟောမည်ကို ကြိုတင်သိရပါသည်။ အဆိုပါ ဆရာတော် လက်ရေးဖြင့် ရေးသားထားသော စာအုပ်ကို ဆရာတော် ခန္ဓာဝန် ချတော်မူပြီးနောက် တပည့်ရင်းဖြစ်သူ ဦးပဏ္ဍိတ အရှင်မြတ်က အလှူခံသဖြင့် လှူလိုက်ရပါသည်။

ည (၇) နာရီအချိန်တွင် ရိပ်သာကျောင်းသို့ ကြွလာ၍ တရားအားထုတ်ကြသော ယောဂီပုဂ္ဂိုလ်နှင့် သီလရှင်များအား (၇)နာရီခွဲထိ နာရီဝက်လုံးလုံး ညအထူးတရားများ ဟောကြားလေ့ရှိပါသည်။ တရားဟောပြီးနောက် တပည့်ရင်းဖြစ်သူများ၏ ဝတ်ဖြည့်ပေးခြင်းကို ခံတော်မူရင်း ဆုံးမသြဝါဒများ ပေးလေ့ရှိပါသည်။ ၎င်းနောက် (၉) နာရီခွဲမှ (၁၀) နာရီထိ ဘုရားဝတ်ပြု၍ ည (၁၀)နာရီမှ (၁၁) နာရီထိ ကျိန်းစက်ရာအခန်းဝင်၍ တရားအားထုတ်တော်မူသည်။ ည (၁၁)နာရီမှ (၁၂)နာရီထိ အခန်းမှထွက်၍ ကျောင်းပေါ်၌ပင် စင်္ကြံလျှောက်ရင်း တရားဘာဝနာ ပွားများတော်မူမြဲ ဖြစ်ပါသည်။

ည (၁၂) နာရီမှ နံနက် (၄) နာရီအထိ ကျိန်းစက်ရာအခန်းတွင်းသို့ဝင်၍ သီတင်းသုံးတော်မူလေသည်။ ယင်းသို့ဝင်၍ သီတင်းသုံးတော်မူသော်လည်း စာရေးသူသည် ဆရာတော်ဘုရားအား တရားအားထုတ်နေသည်ကိုသာ အမြဲတမ်း ဖူးတွေ့ရပါသောကြောင့် ကျိန်းစက်ခြင်း မရှိပါ။

စာရေးသူသည် ရဟန်းဝတ်ဖြင့် ဆရာတော်ဘုရား၏ ဝေယျာဝစ္စများ ဆောင်ရွက်ရန် ခြေတော်ရင်းမှ အမြဲမကွာ နေရပါသဖြင့် ဆရာတော်ဘုရား၏အချိန်ကို တိကျမှန်ကန်စွာ နေထိုင်သီတင်းသုံးပုံကို သိရ၍ အထူးကြည်ညို လေးစား မိပါတော့သည်၊

ထိုနောက် ကျွန်တော်လည်း သီတင်းကျွတ်သဖြင့် ဒုလ္လဘ ရဟန်းဘဝမှ လူဝတ်လဲကာ နေအိမ်သို့ ပြန်နေပြီး ကျွန်တော်၏ဇနီး

ဒေါ်တင်လှအားတစ်လှည့် ရိပ်သာသို့ တရားအားထုတ်ရန်လွှတ်လိုက်ရပါသည်၊ ဒေါ်တင်လှကိုလည်း သူနှင့်ထိုက်တန်သောတရားများကို သဘောပေါက်နားလည်စေရန် နည်းမျိုးစုံဖြင့် သွန်သင် ဆုံးမပြသ၍ တရားများကို အားထုတ် စေပါသည်၊ ဆရာတော်ဘုရားကြီးသည် လာရောက်အားထုတ်ကြသော ယောဂီပုဂ္ဂိုလ်တို့အား အိမ်ထောင်ရေး၊ စီးပွားရေးတို့ကို ဉာဏ်ဖြင့်စွန့်လွှတ်ထားရန် အမြဲတမ်း ဩဝါဒပေးလေ့ ရှိပါသည်။

ထို့ပြင် ဆရာတော်ဘုရားကြီးက ဒေါ်တင်လှအား အရောင်းအဝယ်နှင့် အိမ်ထောင်ရေးရာစကားများကို မည်သူကမှ လာရောက်ပြောဆိုခြင်းကို လက်မခံရန် အထူးတားမြစ်တော်မူသည့်ပြင် တရားကိုသာ အချိန်ပြည့်အားထုတ်ရန် ဆုံးမတော်မူပါသည်၊ ဒေါ်တင်လှနှင့်တကွ တရားလာ အားထုတ်ကြသော သီလရှင်များနှင့် တကာ— တကာမများတို့ကို ထိုအချိန်က ကျက်မှတ်ကာ လိုက်နာဆောင်ရွက်ကျင့်သုံးရသည်မှာ....

မစွန့် ကာမ၊ ဆရာမရှိ၊ ငိရိယလျော့၊ အားအင် ပျော့ကာ၊ လွန်စွာယူမှား၊ ဤငါးပါး၊ တရားမင်ဖိုလ် ဝေးသတည်း။

သီလဦးဝယ်၊ လုံခြုံတယ်ဟု၊ တင်းတိမ်ရုံမျှ၊ မနေရ၊ စိတ်ချ၍လည်း မနေနဲ့။

ဗဟုသုတဝယ်၊ ပြည့်စုံတယ်ဟု၊ တင်းလိမ်ရုံမျှ၊ မနေရ၊ စိတ်ချ၍လည်း မနေနဲ့။

သမာဓိဝယ်၊ တည်ကြည်တယ်ဟု၊ တင်းတိမ်ရုံမျှ၊ မနေရ၊ စိတ်ချ၍လည်း မနေနဲ့။

ဆိတ်ငြိမ်ရာဝယ်၊ နေနိုင်တယ်ဟု၊ တင်းတိမ်ရုံမျှ၊ မနေရ၊ စိတ်ချ၍လည်း မနေနဲ့။

အနာဂါမ်ဝယ်၊ တည်ပြီကွယ်ဟု၊ တင်းတိမ်ရုံမျှ၊ မနေရ၊ စိတ်ချ၍လည်း မနေနဲ့။

*

## ကျောင်းအမ ဒေါ်တင်လှနှင့် ယောဂီများအား ဟောကြားတော်မူသော တရားတော်

မတင်လှတို့ တကာမတို့ သား-လင်-ခင်ပွန်းနှင့် ပစ္စည်းတွေ ခင်တွယ်နေတဲ့ ပုဂ္ဂိုလ်များဟာ ခွေးအမဲရိုးကိုက်ထားတာနဲ့ တူတယ်၊ အမဲရိုးရထားတော့ သူက ကောင်းလို့ ထင်တယ်၊ အမဲရိုးကရိုးတွင်းခြင်ဆီ အနံ့ကလေးမို့ အရသာရှိသလိုလိုနဲ့ နောက်ဆုံးပိတ်ကျတော့ ဝါးရင်းမေ့တော့ ပစ်ချလိုက်ရတယ်၊ ဝပြီး ပြန်ရတာလား၊ အညှီနံ့ကလေးရရုံနဲ့ ပြန်ရတာလားဆိုတော့ အညှီနံ့ကလေးရရုံနဲ့ ပြန်ရတာ၊ နက်ဖြန်ကျပြန်တော့လဲ ဒီအမဲရိုးပဲလာပြီးဝါးရပြန်တယ်၊ ဝါးရတော့လဲ ဝပြီးပြန်ရတာမဟုတ်ဘဲ အညှီနံ့ကလေးရရုံနဲ့ ပြန်ရတာပဲ၊ ဝါးရတာနဲ့ အညှီနံ့ကလေးရရုံနဲ့ ပြောပလောက်အောင် ချမ်းသာမှုရရှိကြရဲ့လား။

(မရှိပါဘုရား။)

ထို့အတူပဲ သား—လင်—ခင်ပွန်း ပစ္စည်းတွေ ခင်ကြရတာ တစ်နေ့တော့လဲ (ဒီအမဲရိုးနဲ့) ဒီဆိုင်နဲ့၊ ဒီသားသမီးနဲ့၊ ဒီရက်ကန်းနဲ့သွားပြီး ဝါးရပြန်တာပဲ၊ နက်ဖြန် သဘက်ကျတော့ကော သွားပြီး ဝါးရပြန်တာပဲ၊ မိုးချုပ်နေဝင်ကျတော့လဲ ဟိုဟာကလေးတွက် ဒီဟာကလေးတွက် ဘယ်လောက်ကုန်တယ်၊ ဘယ်လောက်ကျန်တယ် စသည်ဖြင့် ကြံစည်ရတယ်။

ဝသလား, စားတော့ မဝဘဲ ပြန်ခဲ့ရတယ်၊ နက်ဖြန် ဒီသား—လင်—ခင်ပွန်းများအတွက် သွားရပြန်တာပဲ၊ တစ်နေ့လုံး ဝါးနေတော့တာပဲ၊ ညနေရောက်လို့ စာရင်းတွက်တော့ ၂၀-ကျပ်၊ ၂၅—ကျပ်၊ ၃၀—ကျပ် အမြတ်ကလေးကျန်မယ်၊ ဒီအညှီနံ့ကလေးခံပြီး ပြန်ခဲ့ရတာပဲ၊ ဘယ်လောက်ကြာကြာ ဝါးရမှာလဲလို့ မေးလို့ရှိရင်ဖြင့် သွားတွေသာ ကျိုးစရာအကြောင်းရှိတယ်၊ ဝပါမလားမေးရင် (မဝပါဘုရား။)

အဲဒီတော့ မင်းတို့ အရောင်းအဝယ်လုပ်ကြတဲ့ ပုဂ္ဂိုလ်တွေရဲ့ ဖြစ်စဉ်ဟာ ခွေးအမဲရိုးကိုက်သလိုပဲ၊ ကိုက်လို့မောတာနဲ့ အညှီနံ့ ကလေးခံရတာနဲ့ မမျှတပါဘူး။ အနံ့ကလေးက မဖြစ်လောက်ဘူး၊ ဒါကို တစ်နေ့လုံးလောက် ဝါးနေရတယ်၊ ဒါကြောင့် ဘုရားသခင် ကိုယ်တော်မြတ်ကြီးက ငါးပါးအာရုံ(ကာမဂုဏ်)တွေဟာ သာယာ စရာ နည်းနည်းကလေးသာ ရှိတယ်၊ ဒုက္ခတွေက သိပ်များတယ်လို့ ဟောကြားတော်မူတယ်။

မတင်လှတို့ တစ်နေ့တာလဲ ဒီအမဲရိုးနဲ့တူတဲ့ ဆိုင်ကိုပဲသွား တယ်၊ နောက်တစ်နေ့တော့ကော ဒီအမဲရိုးနဲ့တူတဲ့ဆိုင်ကိုပဲ သွားရ ပြန်တာပဲ၊ ဒီအမဲရိုးကို စိတ်မပျက်သ၍ ကာလပတ်လုံးဟာ သူသွား ပြီး ဝါးမှာပဲ၊ မဝမှုနဲ့ပဲ သေသာ သေရော:မဝပဲနဲ့ သေရတော့မှာပဲ၊ သေပွဲဝင်တော့လဲ မပြီးသေးဘူး၊ ရောက်ရာဘဝမှာလဲ ကိုက်အုံးမှာပဲ၊ ဝပြီး သေတဲ့သဘောပါသေးရဲ့လား၊ (မပါ ပါဘုရား။)

တန်းလန်းနဲ့ပဲ ပစ်ထားခဲ့ရတာပဲ၊ သဘောပါကြရဲ့လား၊ (ပါပါတယ်ဘုရား။) ဒါကြောင့် ဘုရားသခင် ကိုယ်တော်မြတ်ကြီးက သာယာစရာ အမဲရိုးဟာ အညှီနံ့လောက်ရှိတာပဲ၊ ဒီမှာလဲ သား တွေ သမီးတွေ ဆွေတွေ မျိုးတွေ ပစ္စည်းတွေကို ချစ်တာ ခင်တာတွေ က နည်းနည်းလေး၊သူတို့အတွက် ဒုက္ခခံရတာတွေက အများကြီးပဲလို့ ဟောတော်မူတယ်။

ဒါ ဘာဟောနေတာလဲဆိုတော့ တဏှာသတ်ဖို့ ဟောနေ တာ၊ ဒီတဏှာက မဝဘဲနဲ့ ခဏခဏဒုက္ခပေးတဲ့တရား၊ ဝလဲဘယ်တော့ မှ မဝဘူး၊ ဒုက္ခပေးလိုက်တာကတော့ နေ့စဉ်နဲ့အမျှပဲ၊ ဆိုင်ခင်တဲ့သူ ကို ဒီဆိုင်က ဒုက္ခပေးနေတယ်၊ သားခင်တဲ့သူကိုလဲ ဒီသားက ဒုက္ခ ပေးနေတယ်၊ ဒီတော့ မင်းတို့ဟာ ခွေးသေ သေရပုံ ဖြစ်နေရတယ်၊ ဘာဖြစ်လို့တုံးဆိုတော့ မဝသေလို့ပဲ၊ (မဝသေ)ဆိုတာ စားချင်ရဲ့ တန်းလန်းနဲ့သေတာ၊ စားချင်ရဲ့တန်းလန်းနဲ့ သေသွားတာက တဏှာ နဲ့ မဝတာ၊ဥပါဒါန်ချုပ်ပြီး ဒီအမဲရိုးကိုပစ်သွားသလားလို့မေးတော့ အိုလို့သာ သေလိုက်ရတယ်၊ စွဲလမ်းမှုက ရှိတယ်၊ဝါးတာက တဏှာ၊ စွဲလမ်းပြီးနေတာက ဥပါဒါန်၊ စွဲလမ်းတဲ့တရားကြောင့် ကာယကံ၊

ဝစီကံ၊ မနောကံတွေ လာပြန်တာပဲ၊ အဲဒီတော့ ဒီကံတွေကြောင့် မင်းတို့သည် ရောက်ရာ အပါယ်လေးပါးမှာ ခန္ဓာသွားဖြစ်ကြရတယ်၊ ရှင်းပြီလား။ (ရှင်းပါပြီဘုရား။)

တဏှာကလဲ မဝ၊ ဥပါဒါန်ကလဲ စွဲလမ်း၊ ဘာနဲ့စွဲလမ်းသလဲလို့ မေးတော့ ဒီဆိုင်၊ ဒီကား၊ ဒီသမီး သား၊ ဒီပစ္စည်းများကို စွဲလမ်း တွယ်တာတာက ကာမုပါဒါန်၊ ငါ့ဆိုင်၊ ငါ့ကား၊ ငါ့သမီး သား၊ ငါ့ပစ္စည်းများဟု အထင်မှားတာက ဒိဋ္ဌုပါဒါန်၊ ငါ့ကိုယ်နဲ့လဲ ငါ သည် မတတ်သာလို့ ခွဲရတော့မယ်ဆိုတော့ အတ္တဝါဒုပါဒါန်လဲ ပါတယ်၊ ဒီဥပါဒါန်တရား (၃) ပါးနဲ့ ကံတွေ လုပ်လိုက်တဲ့အခါ ကျတော့ ဟောဒီမှာ အပါယ်လေးပါး ဇာတိ အပါယ်လေးပါး ခန္ဓာကြီးဟာ တစ်ခါတည်း ပေါ်လာတယ်။

ဩော်.... နေ့တိုင်းလုပ်နေရတာလဲ မဝဘူး၊ သေခါနီးကျပြန် တော့လဲ စွဲလမ်းမှုက လာသေးတယ်၊ စွဲလမ်းမှုရှိတဲ့အခါကျတော့ အမျိုးမျိုး ကံတွေကလဲ မလာဘူးလား၊ (လာမှာပါဘုရား။)ကံတွေ လာတော့ ကံပစ်ချရာ မခံရပေဘူးလား၊ (ခံရမှာပါဘုရား။) အဲဒါ မဝတဲ့အလုပ်ကို လုပ်မိလို့ပဲ၊ သဘောကျရဲ့လား။ (ကျပါပြီဘုရား။)

ဘယ်သူက မဝသတုံးဆိုရင် တဏှာက မဝတာ၊ တဏှာက မဝတော့ ဥပါဒါန်က စွဲလမ်းတယ်၊ ဥပါဒါန်က စွဲလမ်းတော့ မကောင်းတဲ့ ကံတွေက ပေါ်လာတယ်၊ မကောင်းတဲ့ကံတွေပြုပြီး သေ သွားရတော့ ကမ္မဘဝ ပစ္စယာ ဇာတိမို့ ခန္ဓာ ၅ ပါး မလာဘူးလား၊ ဒီခန္ဓာက ခန္ဓာကောင်းလား ခန္ဓာဆိုးလားဆိုတော့ တဏှာကလဲ မကောင်း၊ ဥပါဒါန်ကလဲ မကောင်းတော့ ခန္ဓာဆိုးပေါ့၊ ရှင်းပြီ လား။ (ရှင်းပါပြီဘုရား။)

အရောင်းအဝယ်နဲ့ စီးပွားရှာတဲ့ပုဂ္ဂိုလ်ကလဲ တော်ပြီတန်ပြီ ဆိုပြီး သေသွားတဲ့ပုဂ္ဂိုလ်က အလွန်ရှားတယ်၊ ရက်ကန်းထောင်တဲ့ ပုဂ္ဂိုလ်ကလဲ တော်ပြီတန်ပြီဆိုပြီး သေသွားတဲ့ပုဂ္ဂိုလ်က အလွန်ရှား တယ်၊ ဒီတော့ သုဂတိဘုံတို့ နိဗ္ဗာန်တို့ ရောက်မယ့်ပုဂ္ဂိုလ်များ ပါရဲ့ လား။ (မပါပါ ဘုရား။)

ဒါဖြင့် မဝဘဲနဲ့ စွဲလမ်း၊ စွဲလမ်းပြီး အားထုတ်၊ အားထုတ် လို့လဲ အခု အပါယ်လေးပါးရောက်မယ်၊ ဒါ ဘယ်သူ့သတ္တိလဲဆိုပြီး

လက်သည် အရင်းကျကျရှာတော့ မဝနိုင်တဲ့ တဏှာသတ္တိပဲ၊ ဒီတဏှာ မသေသရွေ့ အပါယ်လေးပါးက လွတ်ဖို့ရာအကြောင်း မြင်သေးသလား၊ (မမြင်ပါဘုရား။) ဒါဖြင့် တယ်ဆိုးတဲ့တရားပါလားလို့ ဒီနေ့ မပေါ်သေးဘူးလား။ (ပေါ်ပါတယ်ဘုရား။)

သူက ဘယ်တော့မှ ဝရိုးထုံးစံမရှိဘူး၊ ဒီသားခင်ရတာတော်ပြီ၊ ဒီသမီးခင်ရတာ တော်ပြီ၊ ဒီသား လင် ခင်ပွန်းတို့ ချစ်ရ ခင်ရတာ တော်ပြီ၊ ဒီအလုပ်လုပ်ရတာ တော်ပြီလို့ များ လာကြရဲ့လား။

(မလာပါဘုရား။)

ဟာ ဒါဖြင့် တင်လှတို့ဟာ ဘယ်တော့မှ မဝတဲ့အလုပ်ကို လက်ကိုင်ထားပြန်တော့ စွဲလမ်းမှုနဲ့ပဲ သေရမယ်၊ စွဲလမ်းမှုနဲ့ သေရတော့ အပါယ်လေးပါးမှ တစ်ပါး ရွေးချယ်စရာရှိသေးသလား၊ (မရှိပါဘုရား။) ဒါကြောင့် ဝိပဿနာအလုပ်ကို လုပ်ကြလို့ တိုက်တွန်းတာ၊ ဝိပဿနာအလုပ် လုပ်ကြဆိုတာ ဒါတွေကိုလွတ်လိုက်လို့ ပြောတာ၊ ရှင်းပြီလား။ (ရှင်းပါပြီဘုရား။)

နောက်ပြီး ဘုရားသခင် ကိုယ်တော်မြတ်ကြီးက ဒုတိယ ဥပမာနဲ့ ဟောပြန်သေးတယ်၊ သား သမီးနဲ့ ပစ္စည်းဥစ္စာ တည်းဟူသော ၅ ပါး အာရုံ ကာမဂုဏ်တွေဟာ မြက်မီးရှူးနဲ့ တူတယ်၊ မြက်ခြောက်ကလေး ကို ကြိုးနဲ့စုစည်းပြီး အဖျားကိုမီးရှို့ပြီး ညာလမ်းသွားတာနဲ့တူတယ်၊ ညာဘက်လမ်းသွားတော့ လေကလဲတိုက်ပြန်၊ မီးကလဲ လောင်နေပြန် ဆိုတော့ ကိုယ့်ဘက်ကို လောင်မယ်ဆိုတာ မသေချာဘူးလား။

(သေချာပါတယ်ဘုရား။)

ဒါဖြင့် ဒီမီးကို လွှတ်ပစ်လိုက်ရင် လောင်နိုင်ပါဦးမလား၊ (မလောင်နိုင်ပါ ဘုရား။) မင်းတို့ လောင်မှာသိလျက်နဲ့ ဘာကြောင့် မလွှတ်ပစ်နိုင်သလဲဆိုရင် ဒီမီးရှူးကလေး ခင်တွယ်နေလို့ လွှတ်မပစ်နိုင်ရင် မင်းတို့ အလောင်ခံပြီး သေရုံပဲရှိတော့မှာပဲ၊ ဒီမီးအလင်းကလေး မရှိရင် မဖြစ်ဘူးဆိုပြီး တအားဆုပ်ကိုင်ထားတာလို ဒီသား လင် ခင်ပွန်းနဲ့ ပစ္စည်းဥစ္စာတွေကိုလဲ မရှိရင် မဖြစ်ဘူးဆိုပြီး ဆုပ်ထားတယ်၊ ဘုရားသခင်ကိုယ်တော်မြတ်ကြီးက ဒါတွေဟာ မီးတွေကွ၊

ဆုပ်ထားတဲ့လူကိုဖြင့် လောင်လိမ့်မ ယ်၊ ဆုပ်ထားတဲ့မီးကို လွှတ်ပစ်လိုက်ရင်တော့ မလောင်ပါ နေရင်တော့ လောင်မှာပဲ၊ ဒါဖြင့် မင်းတို့ လွှတ်ပစ်ပလ ဘားမလားလို့ မေးရင် မင်းတို့ ဘယ်လိုဖြေကြမလဲ။ (ဆ ားမှာပါဘုရား။)

ဘယ်နှယ်ကြောင့် ဆုပ်ထားရသလဲဆိုတော့ အပူခံချင်လို့မှ တစ်ပါး တင်လှ ဘာရသေးသလဲ၊ (မရပါဘုရား။) လောင်တာတောင်မှ မလွှတ်ချင်သေးဘူးဆိုတော့ ဒါထက်မိုက်တာ ရှိသေးသလား၊ (မရှိပါ ဘုရား။) သားပူကတော့ မလောင်ဘူးလား၊ သမီးပူကတော့ မလောင် ဘူးလား၊ ပစ္စည်းပူကော မလောင်ဘူးလား လောင်မှန်းသိလို့ရှိရင် လွှတ်ပစ်လိုက်လို့ရှိရင်ကော လောင်ပါအုံးမလား။ (မလောင်ပါ ဘုရား။)

မင်းတို့ကလဲ လွှတ်ကို မလာက်နိုင်ဘူး အလောင်ခံမိုက်နေကြ တယ်၊ သူတို့နဲ့ဝေးရင် အေးတယ်ဆိုတဲ့သဘောကို မလာကြဘူး၊ သူ တို့နဲ့ မခွဲနိုင်ဘူးဆိုတာ ဆုပ်ထားတဲ့အမိပွါယ် ရောက်နေတယ်၊ ဘာ ဆုပ်ထားသလဲဆိုတော့ ပူစရာရှိတာတွေ ဆုပ်ထားတယ်၊ သားချစ်လို့ ရှိရင် သားကိုဆုပ်ထားတာ၊ သမီးချစ်ရင် သမီးကိုဆုပ်ထားတာ၊ ပစ္စည်းဥစ္စာတွေခင်ရင် ပစ္စည်းဥစ္စာတွေ ဆုပ်ထားတာပဲ၊ ဒီပစ္စည်း ဥစ္စာတွေဟာ ပစ္စည်းပူတွေမို့ မလောင်ဘူးလား၊ (လောင်မှာပါ ဘုရား)၊ သူတို့အတွက် ညမအိပ်ရ၊ နေ့မအိပ်ရ စိုးရိမ်ရ၊ ကြောင့်ကြ ရနဲ့ အပူတွေ ဝမ်းထဲမလောင်ဘူးလား။ (လောင်ပါတယ်ဘုရား။)

မီးတွေမို့ လွှတ်ပစ်လိုက်ပါလို့ဆိုတော့ မင်းတို့က ဘယ်ပစ်နိုင် ပါ့မလဲလို့ ပြောသေးတာ၊ မင်းတို့မိုက်ချက်က မလွန့်လွန်းဘူးလား (လွန်လွန်းပါတယ် ဘုရား)။ မြက်မီးရှူးကိုကိုင်ပြီး လေလာတဲ့ဘက်ကို လဲ အပြေးသွားရ၊ ကိုင်ထားတဲ့လက်ကိုလဲ မီးလောင်ပြန်မို့၊ ဟဲ့ လူမိုက် အမြန်လွှတ်ပစ်လိုက်ပါတော့လား ဆိုဖို့ရာ ဘုရားပွင့်လာတာ ဘုရားပွင့်လာတာရိပ်မိကြပြီလား၊ (ရိပ်မိပါပြီဘုရား။) လောင်မှန်း လျက်နဲ့အမြဲဆုပ်ထားတဲ့လူမိုက်၊ လွှတ် လိုက်၊ လွှတ်ပစ်နိုင်ရင် မင်းဟာ မီးလောင်ပြီးမသေရဘူး၊ မလွှတ် မင်းတို့က ပေတေတေ လုပ်ရင် ဘုရားသခင်ကိုယ်တော်မြတ်ကြီး ကရုဏာနဲ့ အမှန်ပြော၊

မင်းတို့က ကန့်လန့်စကားတွေသုံးဆိုတော့၊ မင်းတို့က ဘုရားရဲ့ရန်သူတွေ ဖြစ်ကြတာပေါ့၊ ရိပ်မိပြီလား။

(ရိပ်မိပါပြီဘုရား။)

ဪ ...သူတော်ကောင်းက ပြောရှာတယ်၊ လွှတ်လိုက်လို့ရှိရင် ဖြင့် ကိုယ်သက်သာမှုရမှာပဲဆိုပြီး နားထောင်လိုက်လို့ရှိရင် ဘုရားသခင် ကိုယ်တော်မြတ်ကြီး၏ တပည့်သား ဖြစ်တယ်၊ မလွှတ်နိုင်ဘူး အသေ ဆုပ်ထားမယ်ဆိုရင်ဖြင့် ဘုရားကို ကန့်လန့်လုပ်တာပဲ၊ တို့က တော့ လေးသင်္ချေနဲ့ ကမ္ဘာတစ်သိန်းတို့အတွက် ပြင်ပေးမလို့ ဒီအသိ ဉာဏ်တွေရအောင် မနည်း ကြိုးစားရှာမှီးခဲ့ရတယ်၊ အဲဒီ ရှာမှီးထားတဲ့ သဗ္ဗညုတ ဉာဏ်တော်ကြီးနဲ့ပြောတာ၊ မင်းတို့က ဘယ့်နှယ် လုပ်ပါ့ မတုံး၊ တည်ထောင်မိပြီးကပဲဆိုတော့ မင်းတို့ ကိုယ့်ခန္ဓာ ခင်မှု၊ သား သမီး ခင်မှု၊ ပစ္စည်းဥစ္စာခင်မှု စသည့် မီးတွေကို သွားကိုင်တာလား၊ ဟိုက အလိုလို လာလောင်တာလား၊ မင်းတို့ကလဲ သွားကိုင်သေး တယ်၊လွှတ်ပစ်လိုက်ပါလားဆိုတော့ မင်းတို့က မလွှတ်ပစ်နိုင်ဘူး၊တယ် ိက်လုံးသန်ပါလားဟေ့၊ တင်လှ ဘယ့်နှယ် ဖြစ်နေသလဲ (မိုက်လုံး ာန်နေပါတယ်ဘုရား။)

သည့်ပြင် အဖြေထွက်စရာမရှိဘူး၊ မီးကလာပြီး ကိုင်ပါလို့ ပြောတာလား, မင်းတို့က သွားကိုင်တာလား။ (တပည့်တော်တို့က ည္ဆားကိုင်တာပါဘုရား။) ဘုရားသခင်ကိုယ်တော်မြတ်ကြီးက မင်းတို့ ၁တွက် ပြောပြန်တော့လဲ မင်းတို့က နားမထောင်ဘူး၊ ကိုင်တော့ ▪င်းတို့ သွားကိုင်တာ၊ ကိုင်တော့ လောင်ပြန်တယ်၊ လောင်တာမြင်လို့ လွှတ်ပစ်လိုက်ပြောသော်လဲ မလွှတ်နိုင်ဘူးဆိုတော့ ဘုရားသခင် ကိုယ် တော်မြတ်ကြီးရဲ့ ကရုဏာတော်က ထက်သန်လွန်းလှတယ်၊ မင်းတို့ မိုက်ချက်ကလဲ ကြီးလွန်းလှချည့်လား၊ (မှန်လှပါဘုရား။)

ဘုရားသခင် ကိုယ်တော်မြတ်ကြီးကညည်းရှာတယ်၊ငါဟာ ပထု ဗဉ် အကန်းတွေကို သား, လင်, ခင်ပွန်းနဲ့ ပစ္စည်းဥစ္စာတွေဟာ မီး တွေကွ၊ မကိုင်နဲ့ လွှတ်ပစ်လိုက်လို့ပြောတော့ သူတို့က နားမထောင် ဘူး၊ ကိုင်တော့တာပဲ၊ ကိုင်ပြီးသကာလ ငါပြောတာကို သူတို့က ကန့်

လန့်လို့ ထင်နေသေးသတဲ့၊ ဒါ လူတွေရဲ့ ထုံးစံပဲဆိုပြီးတော့ လူထုနဲ့ ကိုင်ပေါက်ပြန်တယ်၊ တော်တော်ကြာ မျက်ရည်စက်လက်တွေကလဲ မရှိဘူးလား။

(ရှိပါတယ်ဘုရား။)

အပါယ်သွားတာတွေလဲ မရှိဘူးလား။

(ရှိပါတယ်ဘုရား။)

အဲဒါကိုမြင်လို့ ဟဲ့....လွှတ်ပစ်လို့ အမြင်ကျယ်သလောက် အမှန်ပြောတာ၊ အမှန်ပြောငြားသော်လည်း မင်းတို့ လူစုက ပေလိုက်တာ လွန်လို့ ရှင်းပြီလား။

(ရှင်းပါပြီဘုရား။)

ဒီအပေဇာတ် မသိမ်းသရွေ့ ဒီအလောင် ရပ်ပါ့မလား။

(မရပ်ပါဘုရား။)

မရပ်လို့ ရှိရင်ဖြင့် မီးလောင်ပြီး သေတဲ့အခါ ဘယ်အပါယ် သွားမလဲဆိုရုံ ရှိတော့တယ်၊ ဝိညာဏ် မချုပ်နိုင်ဘဲ အမောဆိုက်နေတာ တောင်မှ သားတွေ သမီးတွေ ပစ္စည်းတွေ မခင်နဲ့၊ မစွဲလမ်းနဲ့၊ လွှတ် ပစ်လိုက်ပါလို့ အနားက ဆိုတာတောင် မကြားချင်ယောင်ဆောင်ပြီး လွှတ်မှာမဟုတ်ဘူး၊ ရှင်းပြီလား။

(ရှင်းပါပြီဘုရား။)

မင်းတို့ဟာ မီးကိုင်တာမှန်းလဲမသိဘူး၊ လွှတ်ပစ်ရင် လွှတ်မယ် ဆိုတာလဲ မသိဘူး၊ မလွှတ်ဘဲသေရင် အပါယ်လေးပါး ရောက်မယ် ဆို တာလဲ မသိဘူးဆိုတော့ မသိ (၃)မျိုး လွှမ်းမိုးနေတယ်၊ မသိ(၃)မျိုး လွှမ်းမိုးနေတဲ့ ပုထုဇဉ် အကန်း, ပုထုဇဉ် အရူး ဖြစ်နေတယ်၊ အကန်း လို့လဲ ဆိုရမှာပဲ, မီးမှန်းမသိဘူး၊ အရူးလို့လဲ ဆိုရမှာပဲ၊ ကိုယ့်ကို လောင်တဲ့မီး ကိုင်ထားတာ ရူးလို့ပေါ့၊ ဟုတ်ကဲ့လား။ (ဟုတ်ပါတယ် ဘုရား။)

မီးအလောင် ပြင်းထန်ပါလား၊ ဒီအပူဟာ ဘာအပူနဲ့မှ မတူ ဘူးလို့ ပါးစပ်က ဖွင့်ပြောပေမယ့် ဒီအပူကို ဖယ်ပါတော့မယ်

ရှားပါတော့မယ်လို့လဲ ပလာဘူး၊ ပူရက်နဲ့ပဲ ဆုပ်ထားတယ်၊ ဟာ ဒါဖြင့် လွန်ကုန်ပြီ၊ မလွန်သေးဘူးလား၊ (လွန်ပါတယ် ဘုရား။) လွန်မှန်းသိလို့ မင်းတို့မှာ ပြင်ချိန်ကလေးရှိတုန်း ပြင်လိုက်ရင်ကောင်းမယ်၊ နို့မို့လို့ရှိရင် မီးလောင်သေမယ်၊ မီးလောင်ပြီးသေရတဲ့ မသာကလဲ အပါယ်သွားမယ်၊ သေပြီးတော့ အပါယ်သွားတယ်၊ မသေခင်က မီးလောင်နေတယ်၊ ရိုပ်မိပြီလား။ (ရိပ်မိပါပြီဘုရား။)

ဘာဖြစ်လို့ လောင်သလဲ၊ သွားကိုင်မိလို့ပေါ့၊ ဘာဖြစ်လို့ အပါယ်ရောက်ရသလဲ၊ မီးလောင်ခံ သေခြင်းဆိုးနဲ့သေရလို့ပဲ၊သဘော ပါရဲ့လား။ (ပါပါတယ်ဘုရား။)

သေသေချာချာ နားကြီးကြီးနဲ့ထောင်မှ အရှုံး ၃ ချက်နဲ့ နေရ ပါကလားလို့သိမယ်၊ သွားကိုင်မိလို့ အမှားတစ်ချက်ကလဲရှုံးတာပဲ၊ လွှတ်ပစ်ရမယ့်အချိန် မလွှတ်ပစ်တာလဲ အမှားတစ်ချက်မို့ ရှုံးလာပဲ၊ နောက်သေလို့ အပါယ်ရောက်ရမှာလဲ အမှားတစ်ချက်မို့ ရှုံးတာပဲ၊ အမှား(၃)ချက်ကြောင့် အရှုံး(၃)ချက်ရတဲ့တရားပဲ၊ အခုအချိန် ရိပ်မိလို့ရှိရင်ဖြင့် သောင်ကမ်းလေးကို မြင်ပါသေးတယ်၊ ဒီသောင်ကမ်း ပေါ် တက်လိုက်ရင် လွတ်ပါသေးတယ်။

လွတ်နိုင်သော်လဲ မင်းတို့က ဒီ သား၊ လင်၊ ခင်ပွန်း၊ ဒီပစ္စည်း တွေနဲ့ ဘယ့်နှယ်လုပ်မတုံး၊ ဘုရားတပည့်တော်တို့က တည်ထောင်ခဲ့ ပြီးသားဆိုတဲ့ စကားတစ်လုံးနဲ့သာ ဆင်ခြေလဲလိုက်ရင် သွားပေတော့၊ မင်းတို့အသံတွေက ငရဲသံတွေ ထွက်နေတယ်၊ ငရဲသွားမယ်ဆိုတဲ့ အသံ ကလွဲ၍ သည့်ပြင် အသံများ ထွက်သေးသလား။(မထွက်ပါဘုရား။)

ပူတတ်တဲ့တရား လက်သပ် မွေးလို့ရှိရင်ဖြင့် ဘယ်တော့မှ မအေးတော့ဘူး၊ မင်းတို့ ည အေးအေးချမ်းချမ်း အိပ်ရရဲ့လားလို့ မေးရင် မအိပ်ရပါဘူး၊ ဟိုကလေးကဆူ၊ ဒီကလေးကငို၊ နက်ဖြန် စား ဖို့သောက်ဖို့က စိတ်ကူးရနဲ့ နေ့လဲမအေး၊ ညလဲမအေး၊ မနက်ကျ ပြန်တော့လဲ မအေးတဲ့အတိုင်း ထပြီးလုပ်တော့တာပဲ၊ ထလုပ်တော့လဲ ဒုက္ခတွေ မရဘူးလား။

(ရပါတယ်ဘုရား။)

ဒီလိုနဲ့ပဲ မင်းတို့ဟာ အပါယ်သာ ရောက်သွားတော့တာပဲ၊ သဘောပါကြရဲ့လား (ပါကြပါတယ်ဘုရား။)

မင်းတို့ ဆရာကောင်း သမားကောင်းနဲ့ တွေ့တုန်း သား လင် ခင်ပွန်းနဲ့ ပစ္စည်းဥစ္စာတွေအားလုံးဟာ အနတ္တသဘောတွေလို့ ညာက်နဲ့ ရှုပေးပါ၊ ရှုပေးလိုက်တော့ သွားပြီးကိုင်မိသေးရဲ့လား။

(မကိုင်မိပါ ဘုရား။)

မကိုင်မိလို့ မပူဘူး၊ ကိုင်မှမကိုင်တဲ့ပုဂ္ဂိုလ်ဟာ ဆုပ်ထားစရာ မရှိဘူး၊ ရှိသေးသလား။ (မရှိပါဘုရား။)

မကိုင်မိတာက တဏှာချုပ်တာ၊ ဆုပ်ထားတဲ့ဥစ္စာ မရှိတာက ဥပါဒါန်ချုပ်တာဆိုတော့ ကာယကံ၊ ဝစီကံ၊ မနောကံတွေချုပ်မသွား ဘူးလား။ (ချုပ်သွားပါတယ်ဘုရား။)

တဏှာဥပါဒါန်ကံတွေ ချုပ်သွားတော့ အပါယ်လေးပါး တံခါးဟာ ပိတ်မသွားဘူးလား။ (ပိတ်သွားပါတယ်ဘုရား။)

ဒီလိုပိတ်သွားတာသည် သွားမကိုင်ရဲတဲ့ သတ္တိကြောင့်ပဲ၊ မကိုင် ကောင်းဘူးလို့ သိတာဟာ ဝိပဿနာရှုလို့၊ အဲဒီဝိပဿနာရှုတဲ့အလုပ် မှတစ်ပါး မင်းတို့အား ကယ်မဲ့သူမရှိဘူးဆိုတာ ဆုံးဖြတ်ချက်ချပါ၊ ဒါဖြင့် မင်းတို့ ဝိပဿနာ ရှုပါ၊ အဲဒီလို ရှုနိုင်ကြလို့ ရှိရင်ဖြင့် တဏှာ က သွားကိုင်မိသေးသလား။

(မကိုင်မိပါ ဘုရား။)

ဥပါဒါန်က ဆုပ်မိသေးသလား။ (မဆုပ်မိပါဘုရား။)

မဆုပ်တော့ ကံစီမံနိုင်စရာ ရှိသေးသလား။ (မရှိပါဘုရား။)

တဏှာ ဥပါဒါန် ကံတွေ မဖြစ်ပေါ်တာဟာ သမုဒယသစ္စာ ချုပ်တာ၊ သမုဒယသစ္စာချုပ်မှတော့ ဒုက္ခသစ္စာတွေကော။

(ချုပ်မှာပါဘုရား။)

ချုပ်မှာပေါ့၊ မကိုင်ကောင်းဘူးလို့ သိတာက ဝိပဿနာရှုတဲ့ မဂ်ကနေပြီး ဖြတ်ချလိုက်တာ ရှင်းပြီလား။ (ရှင်းပါပြီဘုရား။)

ကဲ....ယနေ့ ဒီတွင် တော်ကြစို့....။

■

## မင်္ဂလာရိပ်သာအတွင်း ကျောင်းနှင့် ကမ္မဋ္ဌာန်းတိုက်သစ်များကို ဝိဝဋ္ဋဒါန ဖြစ်မြောက်အောင် ရေစက်သွန်းချ ပေးတော်မူခြင်း

၁၃၂၀– ခုနှစ်ဦးပိုင်းတွင် ကျေးဇူးရှင် မိုးကုတ်ဆရာတော် ဘုရားကြီးသည် မင်္ဂလာရိပ်သာ ကျောင်းတိုက်သစ်၌ သီတင်းသုံးနေ ဘိုင်ပါသော်လည်း ရေစက်ချ လှူဒါန်းခြင်းကို လက်မခံသေးဘဲ ဝိဝဋ္ဋ ါန ဖြစ်မြောက်စေရေးအတွက် တရား အားထုတ်ခိုင်းပါသည်။ ှန်တော်နှင့်တကွ မတင်လှကိုပါ တရားအားထုတ်မှုကိုကျေနပ်တော် သဖြင့် အဆိုပါကျောင်းတိုက်ကို ရေစက်သွန်းချ လှူဒါန်းရန် ထိုနှစ် ာသိုလဆန်း (၁၃)ရက်နေ့တွင် ပဋ္ဌာန်းနေခြင်း၏ ဆင်းရဲပုံ၊ ဇရာ ဏတို့၏ ဆင်းရဲပုံများကို ထင်ရှားပေါ်လွင်အောင် ဟောပြ က်မူပါသည်။ ထို့ပြင် လှူသောပုဂ္ဂိုလ်၏ အင်္ဂါ ၃–ပါး၊အလှူခံ ုလ်၏ အင်္ဂါသုံးပါးတို့နှင့် ညီညွတ်စေပြီး အလှူရှင်သည် လှူဆဲ စေတနာအချိန်၌ ရာဂ၊ဒေါသ၊မောဟမခြံရံစေဘဲ သမထ ဝိပဿနာ သာ ခြံရံစေလျက် ကြိုတင် ရေစက်ချပေးတော်မူပါသည်။ ပြာသို ပြည့်နေ့တွင် သံဃာတော် အပါး ၂၀၀ အား ဆွမ်းကျွေးပြီး ဒါန်းဖွယ်ပစ္စည်းအစုံတို့ဖြင့် ဆက်ကပ် လှူဒါန်းပြီးနောက် ကြွ ာက်လာသောပရိသတ်များအား တရားဟောပြော ဆုံးမပြီး မင်္ဂလာ သာကျောင်းတိုက်ကို ထပ်မံ ရေစက်သွန်းချခြင်း ပြုတော်မူပါ သည်။

ဆရာတော်၏တရားဓမ္မ ဟောပြသွန်သင်မှုသတင်း ကျော်စော းကြောင့် မြန်မာပြည်အရပ်ရပ်မှ တရားအားထုတ် အလုပ်လုပ်လို ူများ တစ်နေ့တခြား များပြားသလောက် ရိပ်သာတွင်း၌လည်း ဒ္ဓါတရား တိုးပွားထက်သန်သူများက နေ့ချင်းညချင်းပင် ဆောက် ုပ် လှူဒါန်းကြသည်မှာ....

အမရပူရမြို့ သင်ပန်းကုန်းရပ် ပိုးဘန်ကောက်ကုမ္ပဏီပိုင်ရှင်။
ဦးကြွယ်–ဒေါ်သန်းသန်း သားသမီးတစ်စုတို့ကတိုက်တစ်လုံး။

အမရပူရမြို့၊ အိုးတော်ရပ်၊ ပိုးကုန်သည်
ဦးထွန်းကြည်—ဒေါ်ဒေါ်စောတို့က .... .... တိုက်တစ်လုံး
မန္တလေးမြို့ ဒေါ်တင်တင်က .... .... တိုက်တစ်လုံး။

၎င်းနောက် ကြီးကျယ်ခမ်းနားသော ခုနစ်ခန်းတွဲ ၂-ထပ်တိုက်၊ ရေ မီး အပြည့်အစုံဖြင့် တရားနာ တရားအားထုတ်လာသူများ တည်းခိုနိုင်ရန် ရည်သန်၍ အောက်ပါ အလှူရှင်များက စုပေါင်း ဆောက်လုပ် လှူဒါန်းကြပါသည်။

၁။ မိုးကုတ်မြို့ ကျောင်းအမကြီး ဒေါ်ဒေါ်အုံ၊
ဒေါ်ဒေါ်ဖုံ သားသမီးတစ်စုက .... ၂—ခန်း။
၂။ အမရပူရမြို့ ဦးကတုတ်-ဒေါ်ခင်ငြိမ်းတို့က .... ၁—ခန်း။
၃။ အမရပူရမြို့ ဦးအောင်မြင့်-ဒေါ်သိန်းမြ
သားသမီး တစ်စုတို့က .... ၁—ခန်း။
၄။ မန္တလေးမြို့ ရှမ်းပွဲရပ် ကြည်တင်ဆေးလိပ်ရုံ
-ပိုင်ရှင်၊ ဒေါ်ကြည်မြတို့က ၁—ခန်း။
၅။ မန္တလေးမြို့ ရွှေဟိုင်းဈေး
ဦးသိန်း ဇနီးဒေါ်သက်တင်တို့က ၁—ခန်း။
၆။ မန္တလေးမြို့ ဒေါ်မိမိက ၁—ခန်း။
စသည်ဖြင့် လှူဒါန်းကြပါသည်။

မိုးကုတ်မြို့ ကျောင်းအမကြီး ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံ မိသားစုက ရေစင်ကြီးတစ်စင်နှင့် ရိပ်သာတစ်ခုလုံး သုံးစွဲနိုင်ရန် ရေပိုက်များ တပ်ဆင်လှူဒါန်းကြပါသည်။

**မှတ်ချက်။** ၁၃၂၀—ခုနှစ် ကျောင်းအခကြီး ဒေါ်တင်လှနှင့် တကွ ယောဂီများအား ဟောကြားထားသော အထူး အလုပ်ပေးညတရားများကို တရားအားမထုတ်ဘူးသေး သော ပုဂ္ဂိုလ်များအတွက် အခြေမှစ၍ နိဗ္ဗာန် မြင်နိုင် သည့်တိုင်အောင်ရှင်းရှင်းလင်းလင်းဂဃနဏ ပြတ်သား စွာ အပင်ပန်းခံပြီး ဟောကြားပြသ ဆုံးမထားခဲ့သော တရားများဖြစ်ပါ၍ ဝေနေယျအများတရားအားထုတ် နိုင်ရန်အတွက် ဤစာအုပ်တွင် ထည့်သွင်း ဖော်ပြရန်

ဖြစ်သော်လည်း စာမျက်နှာမရပါ၍ နောက်ထပ်သီးသန့် ဖတ်ရှုလေ့လာရန်အတွက် ဆရာတော်ဘုရားကြီးဟော ကြားခဲ့သော နိဗ္ဗာန်ရောက်ကြောင်း တရားကောင်း စာအုပ် ထုတ်ဝေမည် ဖြစ်ပါကြောင်း။

## အဝေးပရိသတ်များ ရောက်ရှိလာခြင်း

မဂ္ဂင်ရိပ်သာအတွင်း၌လည်း အဆောက်အဦများ များပြား တိုးတက်လာသလောက် နီးဝေးရပ်ရွာ မြို့တကာမှ တရားအားထုတ် လာသူများ အထူး များပြားလာလေတော့သည်။ ၁၃၂၀–ခုနှစ်တွင် ဟင်္သာတမြို့မှ ဆီစက်များနှင့်ဆန်စက်များပိုင်ရှင် ဦးမာဒင်နှင့် ဟင်္သာ တ ဦးမြတို့သည် ဆရာတော်ဘုရား၏ အဆုံးအမခံယူပြီး တရားအား ထုတ်ရန် ရောက်ရှိလာကြလေသည်။ ဆရာတော် ဘုရားကြီးကလည်း ထိုပုဂ္ဂိုလ်တို့ကို အကြောင်းပြု၍ ရိပ်သာကျောင်းပေါ်၌ နေ့(၁)နာရီ မှ နေ့ (၂) နာရီအထိ အထူး သီးသန့်တရားများကို ဟောပြောတော် မူပါသည်။ ဦးမာဒင်တို့ကလည်း တရားတော်ကိုလည်းနာ၊ အားလဲ ထုတ်၊ အသံဖမ်းစက်များနှင့်လည်းဆရာတော်၏တရားများကို အထူး ကြိုးစားကာ ဖမ်းယူကြလေသည်။ နောက်ပိုင်းတွင် ရန်ကုန်မြို့မှ မြို့ မျက်နှာဖုံး လူကြီးများဖြစ်ကြသော၊ ဦးသံဒိုင်၊ (ဦးဘိုးငြိမ်းကုမ္ပဏီ ပိုင်ရှင်၊ ဦးထွန်းရင် (ပုန်းနိုပ်တိုက်ပိုင်ရှင်)၊ ဦးသန်းမောင် (ကျားပုံ ဆေးလိပ်ခုံ ကုမ္ပဏီပိုင်ရှင်)၊ ဦးတင်၊ဦးအောင်ဇံဝေ (ဝန်ကြီးဟောင်း များ)၊ သခင်ဝတင်၊ မုံရွာမြို့မှ ဦးဒွေး (ဂျစ်ကားတံဆိပ် ရက်ကန်းရုံ ပိုင်ရှင် စသည်ပုဂ္ဂိုလ်ကြီးများနှင့် ရဟန်းသံဃာများပါ မပြတ်ရောက် လာကြသဖြင့် နေ့ အထူး တရားပွဲများကို အမြဲတမ်းတရားပွဲ အဖြစ် အချိန်သတ်မှတ်၍ ဟောကြားတော်မူပါသည်။

နိုင်ငံခြားသားများလည်း ဆရာတော်ဘုရားကြီးထံ လာ ရောက်ပြီး တရားအားထုတ်ကြပါ၍ စာရေးသူက ၎င်းတို့၏အနေ အတိုင် အစားအသောက်များကို တာဝန်ယူ ဆောင်ရွက်ပေးရပါ

သည်။ ၎င်းတို့အား ဆရာတော်ဘုရားကြီး အကြိမ်ကြိမ် အဖန်ဖန် ဟောကြားတော်မူအပ်သော တရားတော်အကျဉ်းချုပ်မှာ—

"ကမ္မဋ္ဌာန ဝိနိမုတ္တော ဓမ္မော နာမ နတ္ထိ" ကမ္မဋ္ဌာန်းမှ လွတ်သောတရားမည်သည် မရှိ။

"စတုသစ္စ ဝိနိမုတ္တော ဓမ္မော နာမ နတ္ထိ" သစ္စာလေးပါးမှ လွတ်သော တရားမည်သည် မရှိ။

"တိလက္ခဏ ဝိနိမုတ္တော ဓမ္မော နာမ နတ္ထိ" လက္ခဏာရေး သုံးပါးတရားမှ လွတ်သော တရားမည်သည် မရှိ။

မင်းတို့ အိပ်ပျော်နေချိန်မှတစ်ပါး တရားကိုအားထုတ်လို့ မရသော အချိန်အခါမည်သည် မရှိ၊ ဘယ်အခါမဆို မဂ်ဖိုလ်ရအောင် အားထုတ်နိုင်တဲ့ အချိန်အခါချည့်ပဲ၊ အချိန်ကို အလပ်မထားဘဲ တရားကိုနှလုံးသွင်းပါဟု ဆုံးမတော်မူလေ့ ရှိပါသည်။

**မှတ်ချက်။** အဆိုပါနိုင်ငံခြားသားများအား ဆရာတော်ဘုရားကြီး ဟောကြားတော်မူသော တရားများကို သီးခြား စာအုပ်ဖြင့် ထုတ်ဝေပါမည်။



## ဆရာတော်ဘုရားကြီး လေငန်းရောဂါ စွဲကပ်ခြင်း

ဆရာတော်ဘုရားကြီးသည် အမရပူရမြို့တွင် ဝါကပ်တော်မူပြီး နောက် ကထိန်သင်္ကန်း ဆက်ကပ်လှူဒါန်းခြင်းကို ခံယူပြီး မြန်မာသက္ကရာဇ် ၁၃၂၂—ခု တပို့တွဲလဆန်း (၄) ရက်နေ့တွင် မန္တလေးမြို့ ရွှေလှန်ရပ်ရှိ (စခမ်းသာသွဲ့ရုံပိုင်ရှင်) ပွဲစားကြီး ဦးချစ်ဆွေ-ဒေါ်ဒေါ်မတို့၏တိုက် ယာယီစံကျောင်းသို့ ကြွရောက် သီတင်းသုံးပြီး၊ ၁၃၂၂—ခု တပို့တွဲလပြည့်နေ့မှစ၍ မန္တလေးမြို့သူမြို့သားများအား ညစဉ်(၇) နာရီမှ (၈)နာရီအထိ တရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူလေသည်။

အဆိုပါ တရားပွဲသို့ တရားနာပရိသတ် ၅၀၀၀ ကျော် ၆၀၀၀ ခန့် ညစဉ် စုဝေးလာရောက်ပြီး ဆရာတော်ဘုရားကြီး၏ ခန္ဓာညာဏ်

ရောက် ဝိပဿနာ အလုပ်ပေးတရားတော်ကို နာကြရာ, အလွန်ပင် ကျယ်ဝန်းလှသော ဦးချစ်ဆွေ-ဒေါ်ဒေါ်မတို့၏ ဝင်းခြံ အတွင်းရှိ အဆောက်အဦများနှင့် မြက်ခင်းများပေါ်တွင်ပင် နေရာမလုံလောက် ပါသောကြောင့် ဝင်းခြံအပြင်လူသွားလမ်းပေါ်မှာလည်း နေရာမလစ် လပ်အောင် စည်ကားလှသဖြင့် ယာဉ်ထိန်းရဲများပင် အသွားအလာ များကို ထိန်းသိမ်းပေးရလေသည်။

တရားနာပရိသတ်တို့၏ ကိုယ်ပိုင်ကားကြီး ကားငယ်များနှင့် နီဗွာန်ကူးတို့ပို့သော ယာဉ်များဆိုက်ကပ်ထားရန်နေရာ မရှိသလောက် အောင်ပင် များပြားလေတော့၏။

၁၃၂၂-ခု တပေါင်းလပြည့်ကျော် (၇)ရက်နေ့သည်ကျောင်း အမ ဒေါ်တင်လှ၏ မွေးနေ့ဖြစ်၍ ထိုနေ့ည တရားပွဲတွင် ဒေါ် တင်လှကိုယ်တိုင် လာရောက်တရားနာကြသောပရိသတ်တို့အား တစ်ဦး လျှင် ယပ်တောင်တစ်ခုကျစီ ကမ်းလှမ်းရာ, ယပ်တောင် ၆၀၀၀ မှာ မလုံလောက်သဖြင့် ရင်းနှီးသော ဓမ္မမိတ်ဆွေအချို့အား ချန်လှပ် ထားခဲ့ရပါသည်။

ထိုသို့ အလွန်စည်ကားလှသော တရားနာပရိသတ်ကြီးအား ဟောပြော ဆုံးမမြဲဖြစ်သည့် တရားဓမ္မများကို ဟောပြောနေစဉ် ၁၃၂၂-ခု တန်ခူးလပြည့်ကျော် (၂) ရက်နေ့တွင် ဆရာတော်ဘုရား ကြီးသည် ရှုတ်တရက် အပလေအေးပတ်၍ လေငန်းရောဂါ စွဲကပ် ဖိစီးသဖြင့် တရားကို ဆက်လက် မဟောနိုင်တော့မူဘဲ ရုပ်သိမ်းလိုက် ရပါတော့သည်။ ယင်းသို့ လေငန်းရောဂါ စွဲကပ်လျှင် စွဲကပ်ချင်း ဆရာတော်ဘုရားကြီးရာ ဒေသတိုင်းသို့လိုက်၍ခြေတော်ရင်းတွင် တရား အားထုတ်နေကြသော ရန်ကုန်မြို့မှ ဦးအောင်ဇံဝေ၊ ဦးသံဒိုင် တို့သည် မန္တလေးမြို့မှ ဦးချစ်ဆွေတို့နှင့်တိုင်ပင်ပြီး ဒေါက်တာဆိုနီအားပင့်၍ ဂရုတစိုက် ကုသကြပါသည်။ စာရေးသူကလည်း ရှမ်းကလေးကျွန်းမှ နာမည်ကျော် မြန်မာ လက်နှိပ်ဆရာကြီး ဦးထူးအားပင့်၍ ဆရာတော် ဘုရားကြီးအား အထူးဂရုစိုက်ပြီး ဝတ်ပြုကြပါသည်။

နောက်ရက်တွင် စာရေးသူကိုယ်တိုင် ဒေါက်တာသာလှအား သွားရောက်ပင့်ရာ အကြောင်းမညီညွတ်၍ မလိုက်နိုင်သော်လည်း

"ဆရာတော်ဘုရားကြီးရဲ့လေငန်းရောဂါမှာ သွေးကြောထဲတွင် သွေးခဲကလေးများ ပိတ်ဆို့နေတာပါ၊ ဆီးချိုနှင့် သွေးတိုးမှာ မယုတ်မလွန်မျှတနေရင် စိုးရိမ်စရာမရှိပါဘူး၊ ယခုခေတ်ပေါ် အင်္ဂလိပ်စားဆေးထိုးဆေးကောင်းများလဲ ရှိပါတယ်၊ မြန်မာလက်နှိပ်ကိုလဲ မလွှတ်ဘဲအနှိပ်ခံဖို့ လိုတယ်"ဟု အကြံဉာဏ်များ ပေးလိုက်ပါသည်။

ထိုကဲ့သို့ ဦးချစ်ဆွေ၊ ဦးသံဒိုင်၊ ဆရာဝန်ကြီးများ၊ မြန်မာလက်နှိပ်ဆရာကြီးများ၏ ဂရုတစိုက် ကြပ်မတ်ကုသကြပါသဖြင့် ဆရာတော်ဘုရားကြီး၏ ရောဂါမှာ တစ်နေ့တခြား သက်သာလာပါတော့သည်။ ရောဂါမှာ သက်သာခါစဖြစ်၍ ဆရာဝန်ကြီးများက တရားမဟောပါရန် အထူး တောင်းပန် လျှောက်ထားကြပါသော်လည်းဆရာတော်ဘုရားကြီးသည် မိမိ၏ခန္ဓာကိုယ်ကို မငဲ့ညှာဘဲ ကျွတ်သင့်ကျွတ်ထိုက်သော ဝေနေယျအပေါင်းအား တရားမေ့ရရှိစေရန် ရည်သန်၍ တရားရေအေး အမြိုက်ဆေးကို နေ့စဉ်တိုက်ကျွေးမြဲ တိုက်ကျွေးတော် မူလေသည်။ ထိုမှတစ်ဖန် ဆရာတော်ဘုရားကြီးသည် မိုးကုတ်မြို့သို့အလှည့်ကျ သီတင်းသုံးတော်မူမြဲအတိုင်း ကြွသွားတော်မူပါသည်။

၁၃၂၃-ခုနှစ်၊ နယုန်လကုန်တွင် မိုးကုတ်မြို့မှ အလှည့်ကျဖြစ်သော အမရပူရမြို့ မင်္ဂလာကျောင်းတိုက်သို့ ဝါကပ်ရန်ကြွရောက်လာပါသည်။ ထိုနှစ်၌ တရားအားထုတ်သူ လူမျိုးကွဲများ အထူးများပြားပါသည်။ တကာ တကာမ အပေါင်းက ဆရာတော်ဘုရားကြီး၏ ကျန်းမာရေးအတွက် အထူးဂရုစိုက်ကြပြီး သင့်လျော်သောဘောဇဉ် (ဂျုံနှင့်ပြုလုပ်သော အာဟာရ) များကိုသာ ဆက်ကပ်ကြပါသည်။

၁၃၂၃-ခု၊ သီတင်းကျွတ်လပြည့်ကျော် (၃) ရက်နေ့တွင် ဆရာတော်ဘုရားကြီးသည် မိုးကုတ်မြို့မှ ပထမဦးဆုံး တကာရင်းဖြစ်သော ဂျော့တောင်ရပ်နေ ကျောင်းတကာကြီး ဦးလယ် နေထိုင်မကောင်းပါသဖြင့် မိုးကုတ်မြို့သို့ပင့်၍ ခေတ္တကြွသွားကော်မူပါသည်။ မိုးကုတ်မြို့တွင် ဦးလယ်အား ခန္ဓာဉာဏ်ရောက် သစ္စာဆုံကိုသည့် တရားဓမ္မကိုသာ ဟောကြားတော်မူပြီးနောက် ခန္ဓာရှိသူတိုင်း ခံစားရမည့်

(ကျော်လွန်ပြီး ဖြစ်သော) ဝေဒနာကို အမြဲတမ်း အာရုံမပြတ် နှလုံးသွင်းဖို့ရန် (၅) ရက်တိုင်တိုင် တိုက်တွန်းတော်မူပါသည်။

ဦးလယ်ကလည်း ဆရာတော်ဘုရားကြီးဟောကြားသော တရားတော်များကို အားရစွာ နှလုံးသွင်းလျက် ၎င်း၏ ၇၉-နှစ်မြောက် မွေးနေ့တွင် ဆရာတော်ဘုရားကြီးနှင့်တကွ သံဃာတော်များကို ဆွမ်းကျွေး၍ လှူဖွယ်ဝတ္ထုပစ္စည်းများကို ကိုယ်တိုင် အားရရွှင်လန်းစွာ ဆက်ကပ်လှူဒါန်းပါသည်။ ထို့နောက် ဆရာတော်ဘုရားကြီးသည် ထိုနှစ် သီတင်းကျွတ်လပြည့်ကျော် (၁၂) ရက်နေ့တွင် အမရပူရမြို့သို့ ပြန်လည်ကြွလာတော်မူပါသည်။



## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ကပ်လှူခြင်းကို ခံယူတော်မူခြင်း

မြန်မာသက္ကရာဇ် ၁၃၂၄–ခု၊ ဝါဆိုလဆန်း (၁) ရက်နေ့တွင် ဆရာတော်ဘုရားကြီးသည် အလှည့်ကျ သီတင်းသုံးတော်မူမြဲအတိုင်း မိုးကုတ်မြို့မှ အမရပူရမြို့သို့ ကြွရောက်သီတင်းသုံးတော် မူပါသည်။ ၁၃၂၄–ခု၊ ဝါဆိုလဆန်း (၅) ရက်နေ့ (၆–၇–၆၂)တွင် ရန်ကုန်မြို့တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းခြင်းကို ခံယူရန် ဆရာတော်ဘုရားကြီးသည် မန္တလေးမြို့မှ ရန်ကုန်မြို့သို့ သီးသန့်အထူးမီးရထား တွဲလုံးဖြင့် ကြွသွားတော်မူရာ တကာရင်း တကာမရင်း အချို့ပါ ဝတ်ပြုလျက် တစ်ပါတည်းလိုက်ပါသွားကြပါသည်။ ထိုသို့ ဆရာတော်ဘုရားကြီး မန္တလေးမြို့မှ ရန်ကုန်မြို့သို့ မီးရထားဖြင့် ကြွသွားမည့်အကြောင်း မည်သူအားမျှ ကြိုတင်အကြောင်းကြားသားခြင်း မပြုပါဘဲလျက် မီးရထားလမ်းတစ်လျှောက်ရှိ မြို့တိုင်းသို့လို့ ကာ တကာမတို့သည် ဘူတာတိုင်းလိုလိုပင် လာရောက်ကြပြီး ဆရာတော်ဘုရားကြီးအား ဖူးမျှော်ကန်တော့ကြသည်မှာ အံ့မခန်းရှိလှပါပေသည်။ ထိုစဉ်က စာရေးသူလည်း ဆရာတော်ဘုရားကြီးအား

ဝတ်ပြုရင်း လိုက်ပါသွားကြသူများအနက် တစ်ဦးအပါအဝင် ဖြစ်ခဲ့ပါသည်။

ထိုသို့ မီးရထားဆိုက်ရောက်ရာ မြို့တိုင်းလိုလိုမှာ ပရိသတ်များစုဝေးလာရောက်ကာ ဆရာတော်ဘုရားကြီးအား ဖူးမျှော်ကန်တော့ကြည်ညိုကြပုံများကို မြင်ရသော စာရေးသူမှာ ကြက်သီးမွေးညင်းများထလျက် ဩော်.... ဆရာတော်ဘုရားကြီး. တန်ခိုးကြီးမားပါပေစွ။

သို့ဖြင့် ညောင်လေးပင်မြို့သို့ ရောက်ရှိကာမှ မြို့လုံးကျွတ် ပရိသတ်ကြီးမှာ ဘူတာတစ်ကွင်းလုံး ပြည့်လျှံလောက်အောင် လာရောက်ပြီး ဆရာတော်ဘုရားကြီးအား ဖူးမျှော်ကန်တော့ ကြည်ညိုကြသည်မှာကြောက်ခမန်းလိလိပင်။ ညောင်လေးပင်မြို့မှ တကာရင်း တကာမရင်းများက အထုပ်တွဲပေါ်သို့တက်ရောက်ကာ ဆွမ်းဘောဇဉ်ခဲဖွယ်များကိုဆက်ကပ်လှူဒါန်းကြပါသည်။ ဆွမ်းကိစ္စ ပြီးစီးပြီးနောက် လာရောက်ဖူးမျှော် ကန်တော့ကြသော ပရိသတ်ကြီးအား တရားဟောပြော ဆုံးမဩဝါဒ ပေးတော်မူနေသဖြင့် မီးရထားကို ရပ်နားချိန်ထက် နာရီဝက်ကျော်ကျော် ရပ်နားပေးရပါသည်။

ညောင်လေးပင်ဘူတာမှ ရထားထွက်ခွာသော်လည်း တကာရင်း တကာမရင်း အချို့တို့သည် ခြေတော်ရင်း၌ လိုက်ပါလျက် ဆရာတော်ဘုရားကြီးအား ရွှေယခင်ကကဲ့သို့ ညောင်လေးပင်မြို့သို့ ကြွရောက်ပြီး တရားချီးမြှင့်ပါရန် ပင့်ဖိတ်လျှောက်ကြရာ ဆရာတော်ဘုရားကြီးက "ငါ့ ရှပ်နာမ် မပြိုကွဲသေးလို့ အကြောင်းညီညွတ်ရင် မင်းတို့မြို့ကို လာရောက်တရားချီးမြှင့်ရမှာပေါ့၊ တကာ တကာမတို့ကလဲ အမြန်ဆုံး တရားပေါက်အောင် အားထုတ်ကြပါ၊ ခန္ဓာကြီးကဖြင့် သေဘက်သို့ ဒုန်းစိုင်းပြီး ပြေးနေတယ်" ဟု ဆုံးမဩဝါဒ ပေးတော်မူလေသည်။

အဆိုပါ တကာ-တကာမတို့လည်း ဆရာတော်ဘုရားကြီး၏ ဆုံးမဩဝါဒကို ညောင်လေးပင်မှ ဒိုက်ဦးမြို့အထိ လိုက်ပါနာယူကြပါသည်။ ဆရာတော်ဘုရားကြီး၏ အစ်မရင်း သီလရှင်ဆရာကြီး သုစာရီ နေထိုင်သော ပဲခူးမြို့သို့ ရထားဆိုက်ရောက်သောအခါ ဆရာတော် ဘုရားကြီးအား ပဲခူးမြို့မှ လာရောက်ဖူးမျှော် ကြည်ညိုကန်တော့

ကြသော တကာရင်း တကာမရင်းများနှင့် လူပရိသတ်ကြီးမှာ ညောင်လေးပင်တွင် လာရောက်ဖူးမျှော် ကြည်ညိုကြသော လူထုတစ်မျိုးများပြားစည်ကားလှပါသည်။

ရန်ကုန်ဘူတာကြီးသို့ မီးရထားဆိုက်ရောက်သောအခါ ရန်ကုန်မြို့မှ မြို့မျက်နှာဖုံး လူကြီးများဖြစ်ကြသော ဦးတိုးငြိမ်း ကုမ္ပဏီပိုင်ရှင် ကျောင်းတကာကြီး ဦးသံဒိုင်၊ ကျားပုံဆေးလိပ်ရုံပိုင်ရှင် ဦးသန်းမောင်၊ ဝန်ကြီးဟောင်း ဦးအောင်ဇံဝေ၊ ဝန်ကြီးဟောင်း (မြန်အောင်) ဦးတင်၊ ဘလောက်နှင့် ပုံနှိပ်တိုက်ပိုင်ရှင် ဦးထွန်းရင်၊ (ဆန်း) ဦးညွန့်၊ (ဟံဇား) ဦးညွန့်၊ ဦးဘသောင်း၊ ဟင်္သာတမြို့ စက်ပိုင်ရှင် ဦးမြ၊ စက်ပိုင်ရှင် ဦးမဒင် စသည်တို့ ဦးဆောင်ကာ ဆရာတော်ဘုရားကြီးအား လာရောက်ကြိုဆို ဖူးမျှော်ကန်တော့ကြသော လူထုပရိသတ်ကြီးမှာ ၅၀၀၀ ကျော် ၆၀၀၀ မက ရှိပြီး ဆရာတော်ဘုရားကြီးအား ရန်ကုန်ဘူတာကြီးမှ ဦးသံဒိုင်၏တိုက် ယာယီကျောင်းသို့ ကားကြီးကားငယ် အသွယ်သွယ်တို့ဖြင့် သိုက်မြိုက်စွာ ပင့်ဆောင်ကြသည်မှာ အံ့ဩ၍မကုန်နိုင်လောက်အောင်ပင် စည်ကားလှပါပေသည်။

ဆရာတော်ဘုရားကြီးသည် ခရီးပင်ပန်းလာသည်ကိုပင် သည်းခံတော်မူပြီး ရန်ကုန်မြို့ ဦးသံဒိုင်၏တိုက် ယာယီကျောင်းသို့ ရောက်သည်မှစ၍ နေ့အခါတွင် တကာရင်း တကာမရင်းတို့အား ဟောပြောဆုံးမဩဝါဒပေး၍ ညစဉ် ၆ နာရီမှ ၇ နာရီအထိ တရားနာ ပရိသတ်ကြီးအား တရားရေအေး အမြိုက်ဆေး တိုက်ကျွေးတော်မူပါသည်။ ထို့ပြင် လျှောက်ထားချက်အရ ရန်ကုန် ဘုရားကြီးတိုက်မှ သံဃာတော် အရှင်မြတ်တို့ထံ ကြွရောက်ကာ တရားဟောပြ ဩဝါဒပေးတော်မူပါသည်။

ဆရာတော်ဘုရားကြီးသည် ပိဋကတ်စာပေ ပို့ချတော်မူရာ၌ ကျော်စောခြင်း၊ ကျမ်းပြုတော်မူခြင်း၊ သတ္တဝါဝေနေယျ အပေါင်းတို့အား တရားရေအေး တိုက်ကျွေးတော်မူရာ၌ ကျော်စောခြင်း၊ ယင်းသို့ ပိဋကတ္တယဆောက အဘိဓမ္မာပါဠိကဋ္ဌ ဂန္ထကာရက စသော ဂုဏ်ထူးသော သတ္တုနှင့် ပြည့်စုံတော်မူခြင်းကြောင့် ၁၃၂၄–ခု၊ ဝါဆိုလဆန်း

(၇) ရက်၊ (၈–၇–၆၂) တနင်္ဂနွေနေ့ မွန်းလွဲ (၁) နာရီ အချိန်တွင် ရန်ကုန်မြို့ ကုက္ကိုင်းရပ် ဟာမစ်တစ် သာသနာ့ရိပ်သာ ဖလိယဉ် ဓမ္မာရုံ၌ ပြည်ထောင်စုမြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ သာသနာရေးဌာနမှ ဆရာတော် ဘဒ္ဒန္တဝိမလအား(အဂ္ဂမဟာပဏ္ဍိတ)ဘွဲ့တံဆိပ်တော် ဆက်ကပ် လှူဒါန်းခြင်းကို ခံယူတော်မူပါသည်။

**မှတ်ချက်။** အမရပူရမြို့တွင် ဦးသံဒိုင်တို့အား ဟောသောတရားများနှင့် ရန်ကုန်မြို့ဟော တရားများ ထုတ်ဝေပြီးဖြစ်ပါ၍ ဤ ထေရုပ္ပတ္တိနှင့် တွဲ၍ ဖတ်ရှုပါရန် တိုက်တွန်းအပ်ပါသည်။

ရန်ကုန်မြို့တွင် ဆရာတော်ဘုရားကြီး ခေတ္တသီတင်းသုံးတော်မူစဉ် ရန်ကုန်မြို့မှ တကာရင်း တကာမရင်းများနှင့် တရားနာပရိသတ်တို့အား နေ့စဉ် နံနက် အရုဏ်တက်မှ ညဥ့်နက်သန်းခေါင်အထိ ဟောပြောဆုံးမ ဩဝါဒပေးတော်မူပါသည်။ အထူးသဖြင့် ဦးသံဒိုင်ကို တရားဓမ္မမပြတ်အောင် ဟောပြောလေ့ရှိပါသည်။ ရန်ကုန်မြို့မှ တကာရင်း–တကာမရင်းများက နှစ်စဉ် ရန်ကုန်မြို့သို့ကြွရောက်ပြီး သတ္တဝါ ဝေနေယျတို့အား တရားရေအေး အမြိုက်ဆေး တိုက်ကျွေးပါရန် လျှောက်ထားကြရာ, ဆရာတော်ဘုရားကြီးက ငါ့ခန္ဓာက ပြောပါလိမ့်မည်ဟု အမိန့်ရှိတော်မူဖူးပါသည်။

ထိုသို့ ရန်ကုန်မြို့တွင် ခေတ္တသီတင်းသုံးနေတော်မူစဉ် တကာ တကာမတို့၏ သိလိုဇောနှင့် မေးမြန်းကြသော တရားဓမ္မ အဝဝကို ဆရာတော်ဘုရားကြီးသည် စိတ်ရှည်လက်ရှည် နားလည်သဘောပေါက်သည်အထိ ရှင်းလင်းဟောပြောတော်မူလေသည်။ ယင်းသို့ သိလိုရေးနှင့် မေးမြန်းကြသော ပုဂ္ဂိုလ်များအနက် ခရစ်ယာန် ဦးဖေဝင်း၏ လျှောက်ထား မေးမြန်းချက်နှင့် ဆရာတော်ဘုရားကြီး၏ ပြန်လည်ဟောပြော ဖြေရှင်းဆုံးမချက်များကို အတိုချုံး၍ ကဏ္ဍတစ်ခုအနေဖြင့် အသံသွင်းထားသော တိပ်မှ ကူးယူပြီး သီးသန့်ဖော်ပြလိုက်ပါသည်။

*

## ဆရာတော်ဘုရားကြီးက ဦးဖေဝင်း၏ သံသယများကို ဖြေရှင်းပေးတော်မူခြင်း

ဦးဖေဝင်းသည် တောင်ကြီးမြို့တွင် အထက်တန်းလွှာမှ ကြီးပြင်းလာသူဖြစ်၍ ခရစ်ယာန်ဘာသာကို သက်ဝင်ယုံကြည်သူတစ်ဦး ဖြစ်ပါသည်။ အဆိုပါပုဂ္ဂိုလ်ကြီးမှာ ခေတ်ပညာတတ်လည်းဖြစ်၊ အပေါင်းအသင်းလည်း ဆန့်သူဖြစ်၍ အလွန်ထင်ရှား ကျော်စောသူတစ်ဦး ဖြစ်ပါသည်။ ထိုပုဂ္ဂိုလ်ကြီးသည် ကူးသန်းရောင်းဝယ်ရေးဘက်တွင် လုပ်ကိုင်နေရသဖြင့် နိုင်ငံခြားတိုင်းပြည်များသို့ အကြိမ်ကြိမ်ရောက်ခဲ့ဖူးသူ ဖြစ်သည့်အလျောက် အဘက်ဘက်မှ ပညာဗဟုသုတ ကြွယ်ဝသူတစ်ဦးဆိုပါက မလွဲပါ။

ဆရာတော်ဘုရားကြီးသည် (အဂ္ဂမဟာပဏ္ဍိတ) ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းကို ခံယူရန် ရန်ကုန်မြို့သို့ ကြွရောက်စဉ်က ဦးဖေဝင်းမှာလည်း ရန်ကုန်မြို့ (ရှမ်း-ဗမာ ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ) လီမိတက်တွင် မန်နေဂျင်းဒါရိုက်တာ ဖြစ်ပြီး ရန်ကုန်မြို့တွင် နေထိုင်ချိန် ဖြစ်ပါသည်။ မြန်မာနိုင်ငံတစ်လွှားတွင် ရှင်းလင်းပြတ်သားစွာ တရားဟောပြနိုင်စွမ်းရှိသော ဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းကို ကြားသိရသော ဦးဖေဝင်းသည် မိမိ၌ ဘာသာရေးနှင့်ပတ်သက်၍ သံသယဖြစ်သည်များကို မေးမြန်းလျှောက်ထားရန် မိတ်ဆွေများ၏ ပို့ဆောင်ချက်အရ ဆရာတော်ဘုရားကြီးထံမှောက်သို့ ရောက်ရှိလာပြီး အောက်တွင် ဖော်ပြပါအတိုင်း လျှောက်ထားခြင်းကို ပြုပါတော့သည်။

ဦးဖေဝင်း။ တပည့်တော်ဟာ ခရစ်ယာန် ဘာသာဝင်တစ်ယောက် ဖြစ်ပါသည် ဘုရား။

ဆရာတော်။ အေး....

ဦးဖေဝင်း။ တပည့်တော်သည် သာသနာဘက်ဆိုင်ရာ ပုဂ္ဂိုလ်များအား တပည့်တော်၏ သံသယဖြစ်မှုများကို မေးမြန်း

ရာ ဘယ် ပုဂ္ဂိုလ်ကမှ တပည့်တော်အား ကျေနပ်လောက်အောင် အဖြေမပေးနိုင်ကြပါ။

ဆရာတော်။ အေး....

ဦးဖေဝင်း။ တပည့်တော် သိရသလောက်ဟာ ဗုဒ္ဓဘာသာ ဆိုတာ ကိုယ်ကျင့်တရားကို ဟောတယ်လို့ သိရပါတယ်ဘုရား။

ဆရာတော်။ အေး....ကိုယ်ကျင့်တရားဆိုတာ ကိုယ်ကျင့်မှ ကိုယ်ရတာ ဟုတ်တယ်။

ဦးဖေဝင်း။ တပည့်တော် အနောက်နိုင်ငံကိုသွားတဲ့အခါ အနောက်နိုင်ငံမှ စက်မှုလက်မှုလုပ်တဲ့ သူဌေးကြီးတွေနဲ့ တွေ့ပြီး ဘာသာရေး၊ တိုင်းပြည်ရေး၊ စီးပွားရေးနဲ့ ပတ်သက်ပြီး ဆွေးနွေးတဲ့အခါမှာ ဘယ်လို သူတို့က ပြောကြသလဲဆိုရင် သူတို့ တိုင်းပြည်မှာ သူတို့ ယုံကြည်တဲ့ ဘာသာတရားကတော့ ခရစ်ယာန် ဘာသာတရားဖြစ်ပါတယ်၊ ခရစ်ယာန်ဘာသာတရားက ဘယ်လိုများ ဆိုပါသလဲဆိုရင် လူသားများ တရားကျင့်တယ်ဆိုတဲ့ ဥစ္စာဟာ ကျင့်လို့ ဘယ်နည်းနဲ့မှ မပြည့်စုံနိုင်ပါဘူး၊ နိဗ္ဗာန် မရောက်နိုင်ပါဘူးလို့ ပြောကြပါတယ်ဘုရား။

ဆရာတော်။ အင်း....အင်း....ဆက်ပြောပါအုံး။

ဦးဖေဝင်း။ သူတို့က ဘယ်လိုပြောပါသလဲဆိုရင် သူတို့ဘုရားက ယုံကြည်မှုသာ အဓိကဖြစ်တယ်၊ သူတို့ဘုရားကို ယုံကြည်ခြင်း အားဖြင့်သာ ကယ်တင်ခြင်းကို ရမယ်၊ နိဗ္ဗာန် ရောက်မယ်လို့ သူတို့ ပြောပါတယ်၊ ဒီတော့ ခု တပည့်တော် လျှောက်ထားချင်တာက လူဟာ ကျင့်ခြင်းအားဖြင့် နိဗ္ဗာန်ကို ရောက်နိုင်ပါသလား၊ ခရစ်ယာန်ကျမ်းများလိုပဲ ဘုရားကိုယုံကြည်ရုံနဲ့ နိဗ္ဗာန်ရောက်နိုင်ပါသလား၊ ဒီနှစ်ခု ခွဲခြားပြီး အရှင်ဘုရားကို မေးလျှောက်ပါတယ် ဘုရား။

ဆရာတော်။ ဒီနှစ်ခု ခွဲခြားပြရမှာလား။

ဦးဖေဝင်း။ မှန်လှပါ၊ ဒီနှစ်ခု စဉ်းစားမရပါဘုရား၊ တပည့်တော် ယူဆတာက လူသားဟာ အယ်လောက်များ ကျင့်နိုင်ပါသလဲ၊ ကျင့်တော့ ကျင့်တာပဲဘုရား၊ သို့သော်လဲပဲ ကျင့်တာကို အကောင်းလို့ ယူပါတယ် ဘုရား၊ မကောင်းတာ လုပ်တာ မဟုတ်ဘူး၊ ကောင်းတာ လုပ်တာပါဘုရား၊ တပည့်တော်တို့က လူလောကထဲ မှာနေတော့ မကောင်းတဲ့စိတ်တွေဟာသာ များနေတာ ပါဘုရား၊ မကောင်းတဲ့အလုပ်တွေက ပတ်ဝန်းကျင် မှာ များနေတဲ့အတွက် အဲဒါကို အရှင်ဘုရားတပည့် တော် နားလည်အောင် ရှင်းပြပေးပါဘုရား။

ဆရာတော်။ ရှင်းပြမယ် နားထောင်၊ ဗုဒ္ဓဘာသာ လက်တွေ့ကို ပြောရရင်ဖြင့် ယုံကြည်တယ် ဆိုတာလဲ သူတစ်ပါး အပေါ် ယုံကြည်တာ တစ်မျိုး၊ ကိုယ့်အပေါ်မှာ ကိုယ် ယုံကြည်တာတစ်မျိုး၊ နှစ်မျိုးရှိတယ်၊ သူတစ်ပါး ပြောတာကို ယုံကြည်တာတစ်မျိုး၊ သူတစ်ပါးဆိုတာ တခြားမဟုတ်ပါဘူး၊ ယခု ဘာသာတိုင်း ဘာသာ တိုင်း ကိုးကွယ်နေကြတဲ့ဘုရား၊ အချပ်လေး အလိုက် ဆည်းကပ်ကိုးကွယ်နေကြတဲ့ ဘုန်းကြီး၊ ဒီလိုဆိုရင် ဒီ ယုံကြည်မှုဟာ သူတစ်ပါးအပေါ်မှာ လမ်းဆုံးနေ တယ်၊ ထာဝရဘုရားဆိုရင် ထာဝရဘုရားကို ယုံကြည် တဲ့အတွက် ပြောတာ၊ ကောင်းသည်ဖြစ်စေ၊ ဆိုးသည် ဖြစ်စေ သူယုံကြည်တဲ့အတွက် (သူ့) ကိုယ်ပိုင်ဉာဏ် မပါဘူး၊ ထာဝရဘုရားမှာသွားပြီး လမ်းဆုံးနေတယ်။

တစ်ဆင့်တစ်ဆင့် ဟောပြော ဆုံးမလာတဲ့ စကား တွေသာ သူတို့မှာ လမ်းဆုံးနေတယ်၊ သူတို့အဟုတ် သိပြီး ပြောရင် ကိစ္စမရှိဘူး၊ ခွဲခြာကိုယ်ကို ကြည့်ပါ၊ သူမသိဘဲနဲ့ သူ့စိတ်ကူးနဲ့သူ ပြောတာတွေကို ယုံကြည်

မယ်လို့ဆိုရင် သူ့ပါးစပ်မှာ ကိုယ့်ဉာဏ်လမ်းဆုံးနေတယ်၊ ကိုယ့်ဉာဏ်က သူတစ်ပါး အပြင်ဘက်ကို ထွက်မသွားတော့ဘူး၊ သူ သိသလောက်ကလေးနဲ့ပဲ လမ်းဆုံးနေတယ်၊ သူသိသလောက်တောင် ကိုယ်က ဉာဏ်မမှီရင် သူ့ထက်အောက်ကျပြီး လမ်းဆုံးရတယ်။

ဒါကြောင့် သူတစ်ပါးအပေါ် ယုံကြည်မှုကို ဗုဒ္ဓဘာသာဘုရားက မကြိုက်ဘူး၊ ယုံကြည်မှုနဲ့မပြီးဘူး၊ ယုံကြည်မှုသည် သူတစ်ပါးပါးစပ်မှာ လမ်းဆုံးနေတယ်ဆိုတာ အကျဉ်းချုပ်မှတ်ထားပါ၊ ဒီပါးစပ်သည် အကောင်းပါးစပ်လား၊ အဆိုးပါးစပ်လားဆိုတာကို မဝေဖန်ဘူး။မဝေဖန်တော့လဲ ကိုယ်သာ မသိရာမလိမ္မာရာရောက်သွားတယ်။

ဦးဖေဝင်း။ တပည့်တော် ပြောချင်တာက အရှင်ဘုရား ခုတင်က အမိန့်ရှိတဲ့အတိုင်း ကိုယ်ပိုင်ဉာဏ်မပါဘူး၊ သူတို့ ဘုရားက ဘယ်လိုများ ပြောပါသလဲဆိုရင် ငါ့ကို အကြွင်းမဲ့ ယုံကြည်ပါတဲ့။

ဆရာတော်။ အင်း....ပြောပါအုံး။

ဦးဖေဝင်း။ အဲဒီလို အကြွင်းမဲ့ယုံကြည်ရင် ငါ မင်းတို့ကို ကယ်တင်မယ်။

ဆရာတော်။ ဒါ ကိုယ်ပိုင်ဉာဏ်နဲ့ဆိုမလား၊ သူ့ဆီက တစ်ဆင့်ကြား အသိလို့ ဆိုမလား။

ဦးဖေဝင်း။ တစ်ဆင့်ကြား အသိပါဘုရား။

ဆရာတော်။ ဒါဖြင့် ကိုယ့်ဟာကို စစ်ဆေးတာပါသလား, ကိုယ်ပိုင်ဉာဏ်နဲ့ တွေးတောတာပါသလား။

ဦးဖေဝင်း။ မပါပါဘုရား။

ဆရာတော်။ ဒါဖြင့် သူ့ပါးစပ်မှာ လမ်းဆုံးနေတယ်။

ဦးဖေဝင်း။ ဒါဖြင့် ဘယ်လိုမှ မှန်ပါသလဲဘုရား။

ဆရာတော်။ မင်းဉာဏ်နဲ့ မင်းခန္ဓာကိုယ် ကြည့်ပြီးတော့ မင်းဉာဏ်နဲ့ မင်းခန္ဓာကိုယ်ထဲမှာ ဖြစ်နေတာနဲ့ နှစ်ခုကိုက်ပြီး ဆုံးဖြတ်ချက်ချ၊ အဲဒီတော့မှ ကိုယ်တိုင်သိပြီး ယုံကြည်မှ အမှန်ရောက်ပါတယ်၊ သူတစ်ပါး ပါးစပ်မှာ လမ်းဆုံးတာ အမှန်မရောက်ပါဘူး၊ ကိုယ်တိုင် သိပြီး ကိုယ်တိုင် ယုံကြည်တာက တစ်မျိုး၊ သူတစ်ပါး ပါးစပ် ယုံကြည်တာကတစ်မျိုး၊ ခင်ဗျားကိုယ်တိုင်ပင်လျှင်အလုပ်တစ်ခု လုပ်လို့ရှိရင် သူများပြောလို့ ယုံကြည်တာနဲ့ ကိုယ်တိုင် စစ်ဆေးပြီး ယုံကြည်တာနဲ့ ဘယ်ဟာကို ရဲရဲတင်းတင်း ယုံကြည်ရမှာလဲဆိုတာ မေးပါတယ်။

ဦးဖေဝင်း။ ကိုယ့်ဟာကိုယ်စစ်ဆေးပြီး ယုံကြည်တာကို ရဲရဲယုံကြည်ပါတယ် ဘုရား။

ဆရာတော်။ အဲဒါမှ မှန်တယ်၊ ဒါဖြင့် ဆရာမကူလို့ရှိရင် ဘယ့်နှယ်လုပ်မလဲဆိုတဲ့ ပုစ္ဆာ ထွက်လာပါတယ်၊ ဆရာမှားနဲ့ ဆရာမှန် နှစ်မျိုးရှိတယ်၊ ခင်ဗျားကိုယ်တိုင်က ဝေဖန်ပါ၊ ဆရာက မှန်ထာကို ပြောတာကိုလဲ ကိုယ့်ဉာဏ်နဲ့ ဝေဖန်စစ်ဆေးပါ၊ ကိုယ့်ခန္ဓာကိုယ်ကို ချိန်ခွင်အဖြစ်ထားပြီး ဆရာမှားကပြောပြော ဆရာမှန်ကပြောပြော ကိုယ့်ခန္ဓာချိန်ခွင်နဲ့ စစ်၊ ကိုယ့်ခန္ဓာနဲ့ကိုက်ကြည့်၊ တိုက်ဆိုင်တာကို ခင်ဗျားအမှန်ယူပါ၊ ဒါကြောင့် ဆရာလဲပါရမယ်၊ ကိုယ့်ကိုယ်ကိုလဲ ချိန်ရမယ်၊ ကိုယ့် ချိန်သားနဲ့ကိုက်နေမှ အမှန်ယူ၊ သဘောပါပြီလား။

ဦးဖေဝင်း။ သဘော ပါပါပြီဘုရား၊ သူတို့ပြောတော့ ဗမာလို နိဗ္ဗာန်၊ ခရစ်ယာန်လို ကောင်းကင်ဘုံ၊ အဲဒါကို နမူနာ ပေးပါတယ်ဘုရား၊ ဘယ်လို ပေးသလဲဆိုတော့ ပင်လယ်ကြီးရဲ့ ဟိုဘက်ကမ်း၊ ဒီဘက်ကမ်း၊ ဒီဘက်ကမ်းက လောကီ၊ ဟိုဘက်ကမ်းက လောကုတ္တရာ ဖြစ်ပါတယ် ဘုရား၊ ဒီတော့ ဒီပင်လယ်ကြီးကို လက်ပစ်ကူးတဲ့ လူ၊ ယခု တပည့်တော်တို့က ပင်လယ်ကို လက်ပစ်ကူးလျက်

ပါဘုရား၊ ယခု ကူးဆဲပါ၊ ကိုယ်ကျင့်တရား ကျင့်တယ်ဆိုတာ သူတို့က ဘာပြောသလဲဆိုရင် ကိုယ့်ဟာကိုယ် ပင်လယ်ကြီး လက်ပစ်ကူးတဲ့သူနဲ့ တူပါတယ်၊ ဒီလက်ပစ်ကူးနေတဲ့ သူဟာ ဟိုဘက်ကမ်းကို အကူအညီမရှိဘဲ မရောက်နိုင်ပါဘူးတဲ့၊ သူတို့ဘုရားကတော့ သူ့ကို ယုံကြည်မှုရှိရင် ဖောင်ကြီးကို စီးသွားသကဲ့သို့ ဟိုဘက်ကမ်းကို အမှန်မုချရောက်မတဲ့၊ ဗုဒ္ဓဘာသာကတော့ ကိုယ့်ဟာကိုယ် ကျင့်ပြီးတော့မှ ကူးနေရမယ်ဆိုရင် ဟိုဘက်ကမ်းကို ဘယ်နည်းနဲ့မှ ရောက်ဖို့ဆိုတာ ခဲယဉ်းပါတယ်၊ ဝေးပါတယ်၊ ခက်ပါတယ်လို့ ပြောပါတယ်ဘုရား။

ဆရာတော်။ ။ဟုတ်တယ်.... ဟုတ်တယ်.... ခုပြောနေတဲ့ သူဟာ ခင်ဗျားတို့ ကျုပ်တို့နားနဲ့ဆိုရင် ဟုတ်တာပဲ၊ သူကတော့ ဖောင်ဆင်ပေးနိုင်တဲ့ သူတစ်ယောက် ဖြစ်တယ်၊ သူ့ဖောင်နဲ့ မင်းစီးသွား၊ သူ့ဖောင်ကတော့ ယုံကြည်ချက်နဲ့မှ စီးလို့ရမယ်။

ဦးဖေဝင်း။ ခုတင်က အရှင်ဘုရားကို တပည့်တော် လျှောက်လိုက်တဲ့ အတိုင်းပဲ၊ သူတို့ယုံကြည်တာနဲ့ တစ်ပြိုင်နက် လက်ပစ်ကူးနေဖို့မလိုဘူး၊ တက်စီးပြီးသားဖြစ်သွားတယ်။

ဆရာတော်။ သူတို့က ဘာသုံးသလဲမေးတဲ့အခါကျတော့ (တန်ခိုး) က (သူ့ဖောင်) အဲဒီတန်ခိုးနဲ့ မင်းကိုပို့ရမယ်၊ အဲဒီ တန်ခိုးဖောင်နဲ့ မင်းဟာ ဟိုဘက်ကမ်း ရောက်သွားမယ်။

ဦးဖေဝင်း။ သူတို့ဘာသာက ဖန်ဆင်းတာကို ယုံကြည်တာကို ဘုရား၊ သူတို့က လူကို ဖန်ဆင်းနိုင်ရင် ဘာပြုလို့ နိဗ္ဗာန်ရောက်အောင် မလုပ်နိုင်ရမှာလဲ၊ လူတို့ကို ဖန်ဆင်းသော ဘုရားက သူတို့ယုံကြည်ရင် ကောင်းကင်ဘုံရောက်ဖို့ရန် အင်မတန်လွယ်ပါတယ်တဲ့၊ ဗုဒ္ဓဘာသာ

ဘုရားက လူသားကို ဘုရားပို့လိုက်တယ်လို့ မပြော ဘူးတဲ့၊ကိုယ့်ဟာကိုယ်ကျင့်မှုဆိုတော့ အင်မတန် ကျယ် သော ပင်လယ်ကြီးကို ဘယ့်နှယ်လုပ်ပြီး လက်ပစ်ကူး လို့ ရနိုင်ပါ့မလဲတဲ့၊ သူတို့ဘာသာက အင်မတန် စိတ်ချရပါတယ်တဲ့။

ဆရာတော်။ ကောင်းပြီ၊ ဒါကို သူတို့ဘာသာနဲ့ သူတို့ ယုံကြည်ချက် ကို ထားလိုက်ပါတော့၊ ကျုပ်တို့က သူ့ကို စစ်ဆေး ရမယ်၊ ဝေဖန်ရမယ်၊ အားလုံးက သူ့ကို ယုံကြည်လို့ ရှိရင်ဖြင့် ဘယ်ဟာမျိုးမဆို သူ ကယ်တင်နိုင်တာချည့်ပဲ ဆိုကြပါစို့၊ မယုံကြည်တဲ့သူကို မတတ်နိုင်ဘူး၊ မကယ် တင်နိုင်ဘူး၊လျစ်လျူရှုထားမယ်ဆိုတဲ့သဘော မရောက် ဘူးလား၊ ခင်ဗျားပဲ စောဒကတက်ပါ၊သူက အားလုံး သော ပုဂ္ဂိုလ် သတ္တဝါတွေကို သနားကြင်နာတတ်တဲ့ စိတ် ရှိ-မရှိ၊ သတ္တဝါတွေ အပေါ်မှာ သနားပါတယ် ဆိုတာ ဟုတ်ပါ့ရဲ့လား။

ဦးဖေဝင်း။ တပည့်တော်က သူတို့ကိုမေးပါတယ်၊ သူတို့က ဘယ်လို ပြောသလဲဆိုရင် အဆိပ်ဆိုတာကို စားလို့ သောက်လို့ ရှိရင် သိတဲ့လူက စားသောက်လဲ သေတာပဲ၊ မသိတဲ့ သူက စားသောက်လဲ သေတာပဲ၊ ဒီတော့ သူတို့ ဘာသာကို မသိတဲ့ သူများဟာ အဆိပ် စားသောက် မိတဲ့သူနဲ့ တူတူပဲမို့ သူတို့ဘုရားရဲ့ ကယ်တင်ခြင်းကို ခံရ မှာ မဟုတ်ပါဘူးတဲ့၊ သူတို့အမြင်နဲ့ကတော့ သူတို့က ဘယ်လောက် အပြစ်လုပ်လုပ် မိဘက သားသမီး အပေါ် အပြစ်မှ ခွင့်လွှတ်နိုင်သလိုသူတို့ကို ဖန်ဆင်းတဲ့ ဘုရားက သူတို့ကို ဘာဖြစ်လို့ ခွင့်မလွှတ်နိုင်ရမှာလဲ တဲ့၊ အပြစ်လုပ်တဲ့သူဟာ မှန်ကန်သော နောင်တတရား ရခဲ့လို့ရှိရင်ဘုရားက ခွင့်လွှတ်လိုက်ပါတယ်။

ဆရာတော်။ ဒါဖြင့် ဒီလို ယူကြစို့၊ သေခါနီးကို ဟိုလူက သတိ ရလို့ရှိရင် အပြစ်လွှတ်ပြီး ကောင်းရာရောက်တယ် ဆို ကြပါစို့။

ဦးဖေဝင်း။ မှန်လှပါဘုရား။

ဆရာတော်။ ကျုပ်တို့ဘာသာက သေခါနီးကျလို့ရှိရင် ဗုဒ္ဓအယူကို ယူသည်ဖြစ်စေ၊ မယူသည် ဖြစ်စေ၊ သေရမယ့်သူဟာ သူသွားရမယ့်လမ်းကို ထင်လာတယ်၊ ပေါ်လာတယ်၊ ငရဲသွားရမှာဖြင့် ကြောက်စရာ ကောင်းတဲ့ ငရဲမီးတွေ လာထင်တယ်၊မြိတ္တာဖြစ်မှာဖြင့် ငတ်မွတ်ခေါင်းပါးတဲ့ တောကြီးတွေ တောင်ကြီးတွေ ချောက်ကြီးတွေ လာထင်တယ်၊သူ ဘယ်လိုလုပ်ပြီးတော့မှ ဒီအမြင်ကိုပြောင်းလဲလို့ မရဘူး။

ဘယ်သူမှလဲ ကယ်လို့မရဘူး၊သူပြောင်းချိန်ရှိသေးရဲ့လား၊ မောနေပြီဗျ၊ မသေခင်က လာထင်တယ်၊ လာတွေ့တယ်၊ အဲဒီအချိန်မှာ မယုံရင် သေခါနီးလူကို ကြည့်ပါ၊ လက်တွေကို စမ်းကြည့်ပါ၊ မကောင်းမှုနဲ့ နေလာတဲ့ပုဂ္ဂိုလ် သေခါနီးကျလို့ရှိရင် မျက်ရေတွေ စီးကျတယ်၊ လိမ်တွန့်ပြီးသကာလ မခံမရပ်နိုင်အောင် ဖြစ်လာတယ်၊ ပြောင်းလို့လဲ မရဘူး၊ ငါလုပ်ခဲ့တာတွေ အကုန်မှားကုန်ပြီ၊ ဒီလမ်းသွားရမှာ သေချာတယ်၊ ကိုယ့်လမ်းကိုသိရတဲ့အဖြစ်တွေ အဲဒီအချိန်ကျမှ သူ့ မှာကယ်မယ့်သူယူမယ့်သူကလဲမရှိ၊မှာချင်တာပြော ချင်တာ ပြောဖို့မှာဖို့ ဘာမှ ပြောချိန် ဆိုချိန် မရဘူး မှတ်ပါ၊ ဒါဝေါတမရဲ့ ဟောချက်တွေပါ။

ဝတ္တုသာခကအများကြီးထုတ်ပြနိုင်တယ်၊ ကောင်းတဲ့ဆီ သွားမယ့်ပုဂ္ဂိုလ်ဖြစ်ရင် ကောင်းတာကို မြင်လာတယ်၊ မကောင်းတဲ့ဆီ သွားမယ့် ပုဂ္ဂိုလ်ဖြစ်ရင် မကောင်းတာကို မြင်လာတယ်၊ ဘယ်နည်းနဲ့မှ ဒီအချိန်မှာ ဘယ်သူ့ကိုမှ သတိမရဘူးဆိုတာ ရှင်းပြမယ်နော်၊ သေတယ်ဆိုတာ ဇော(၁—၂—၃—၄—၅) သေခါနီးဇောလို့ခေါ်တယ်၊ အဲဒီတော့ သေတဲ့စိတ်ပြီးတော့မှ ဟိုဘဝရောက်တဲ့စိတ်၊ဒီအချိန်မှာ ဘုရားတောင် မကယ်နိုင်ဘူး၊ ဘယ်သူမှ ဝန်ချလို့မရဘူး။

သွားရာ လမ်းခရီးကို မြင်တဲ့စိတ်၊ ကောင်းတာ လုပ်ရင် ကောင်းတာ သွားရမယ့် လမ်းခရီးကို မြင်တဲ့ စိတ်၊ မကောင်းတာလုပ်ရင် မကောင်းရာ သွားရမယ့် လမ်းခရီးကို မြင်တဲ့စိတ်၊ ဒါတွေမြင်ပြီးသေတာပဲ။

ဝန်ချလို့ ဖြစ်နိုင်တဲ့ အချိန်လား၊ မဖြစ်နိုင်တဲ့ အချိန်လား၊ မဖြစ်နိုင်တဲ့ အချိန်နော်၊ မဖြစ်တော့ဘူး ဆိုတော့ ခုတင်က ပြောထားတဲ့အတိုင်း သေခါနီးမှ မကောင်းမှု ကျူးလွန်ပြီး နောင်တရတဲ့သူကို ကယ် တင်ပေးနိုင်သေးတယ် ဆိုတာ သေသေချာချာစဉ်းစား ကြည့်၊ ဟုတ်နိုင်ပါမလား။

ကောင်းတာလုပ်တဲ့ ပုဂ္ဂိုလ်လဲ ဒီဇော ၅-ခုမြင်ပြီး သေတဲ့အခါ ကောင်းရာသွားတာပဲ၊ ကောင်းပြီ၊ ဒါဖြင့် ခုတင်ကစကား ပြန်ကောက်ကြစို့၊ ယုံကြည်မိတာ ခင်ဗျားမှတ်မိပါလိမ့်အုံးမယ်၊ သူများပါးစပ်က ပြော လို့ ယုံကြည်မှုတစ်မျိုး၊ ကိုယ်တိုင်စစ်ဆေးပြီး ယုံကြည် မှု တစ်မျိုး၊ ခင်ဗျား ဘယ်ဟာကို အသုံးချလို့ တော်မယ်ထင်သလဲ။

ဦးဖေဝင်း။ ကိုယ်တိုင် စစ်ဆေးပြီး ယုံကြည်မှုက လမ်းမှန်ပါတယ် ဘုရား။

ဆရာတော်။ ဒါပေါ့၊ ဘုရားကလဲ လမ်းပြ ဆရာတစ်ယောက်သာ ဖြစ်တယ်၊ ကယ်တင်နိုင်တဲ့သူ မဟုတ်ဘူး၊ ကျုပ်တို့ ဘုရားက လမ်းပြဆေးသမား၊ ငါပေးတဲ့ဆေး စားကြ သောက်ကြရင် ပျောက်မယ်၊ (ပျောက်စေ) ဆိုရုံနဲ့ မပျောက်နိုင်ဘူး၊ အဲဒီနေရာမှာ အများကြီး ကွာသွား တယ်၊ သူက ပျောက်စေဆရာ၊ ဒီက ဆေးသမား၊ ဆေး ပေးမယ်, ဆေးစားရင် ပျောက်မယ်၊ အစာမကြေတဲ့ အခါ အစာကြေဆေးစားရမယ်၊ ဝမ်းသက်တဲ့အခါ မှာ ဝမ်းသက်ပျောက်ဆေး စားရမယ်၊ (ပျောက်စေ) သတည်းနဲ့ မရဘူး၊ မြွေကိုက်တဲ့သူကို မြွေဆေးထိုးမှ ပျောက်မယ်၊ ပျောက်စေဆိုရုံနဲ့မရဘူး၊ သေချာပြီလား၊

ဆရာတော်။ ဒါဖြင့် မအို—မနာ—မသေတဲ့လမ်းကို ကျုပ်ပြမယ်၊ ဒါက မိစ္ဆာဒိဋ္ဌိလမ်း အို—နာ—သေလမ်း၊ ဟောဒါက သမ္မာဒိဋ္ဌိလမ်း၊ မအို မနာ မသေတဲ့လမ်း၊ ဒီနှစ်လမ်း ရှိတယ်၊မိစ္ဆာဒိဋ္ဌိလမ်းက အို နာ သေ ဆက်သွားတယ်၊ သမ္မာဒိဋ္ဌိလမ်းကတော့ အို နာ သေ လွတ်တဲ့လမ်းမို့ ဖြတ်တယ်၊ အို နာ သေ ကြိုက်တဲ့လမ်းက ဒီခန္ဓာကြီး ခင်တယ်၊ ဒါကြောင့် တို့ရထားတယ်၊ အိုရမှာ နာရ မှာ သေရမှာ ကြောက်တယ်၊ ဒီခန္ဓာကြီးကိုတော့ ခင် နေတယ်၊ ခင်နေပေမယ့် သူ့ခန္ဓာက အို နာ သေ လွတ်ကဲ့လား။

ဦးဖေဝင်း။ မလွတ်ပါဘုရား။

ဆရာတော်။ ဒါဖြင့် ကိုယ့်ခန္ဓာခင်နေတဲ့ ပုဂ္ဂိုလ် ဟာ သေရင်ဒီခန္ဓာ ဝန်ချပြီး ဟိုခန္ဓာဝန် ရအုံးမှာပဲ၊ ခင်နေတဲ့ တဏှာကို မစွန့်နိုင်ရင် ခန္ဓာငါးပါး ပြန်ရအုံးမယ်၊ ပြန်ရရင်လဲ အို နာ သေနဲ့ ပြန်ဆက် အုံးမယ်၊ လက်ရှိခန္ဓာ မခင်တဲ့ ပုဂ္ဂိုလ်ဆိုရင် နောက်ခန္ဓာလဲ မရတော့ဘူးလို့မှတ်ပါ။ ဒါဖြင့် ပစ္စုပ္ပန်ခန္ဓာကို မခင်တွယ်တဲ့နည်းကို လုပ်ပါ။

ပစ္စုပ္ပန်ခန္ဓာမခင်တွယ်တဲ့နည်းကို ကျုပ်ဆီတောင်း ပါ၊ တောင်းလို့ရှိရင် ခင်ဗျား အို နာ သေ လွတ်ပါ လိမ့်မယ်၊ ဒီတော့ အို နာ သေ မလွတ်တဲ့ လမ်းက အခုခန္ဓာကြီးကိုလဲ ခင်တယ်၊ နောက် ခန္ဓာကိုလဲ ဒါ ထက် ကောင်းတာရမှာမို့လို့ ကြိုက်တယ်၊ ဒီပုဂ္ဂိုလ် မှာ တဏှာနှစ်မျိုးရှိတယ်၊ ဒီတဏှာနှစ်မျိုးရှိတဲ့ ပုဂ္ဂိုလ်ဟာ နောက်လဲ အို နာ သေ ခန္ဓာပဲ ပြန်ရမယ်၊ အခု ခန္ဓာ ကိုယ် မခင်ဘူးဆိုတော့ နောက် ခန္ဓာလဲမခင်တော့ပါ၊ ခန္ဓာငါးပါး အို နာ သေမှန်း သိတယ်၊ အဲဒီပုဂ္ဂိုလ် ဟာ အို နာ သေ မရပါဘူး။

ဦးဖေဝင်း။ မှန်လှပါဘုရား။

ဆရာတော်။ ဒါဖြင့် အိုနာသေရှိတဲ့ခန္ဓာကို ဘယ်သူဖန်ဆင်း သလဲ ဆိုတော့ ထာဝရ မပါတော့ဘူး၊ ထာဝရ ကွယ်သွားပြီ၊ တဏှာ ဖန်ဆင်းတာ၊ အို နာ သေ ခန္ဓာငါးပါး ရတာလဲ တဏှာက တောင့်တဲလို့ရတာ၊ ဒါဖြင့် အို နာ သေကို ဘယ်သူက ဖန်ဆင်းတာလဲ၊ တဏှာက ဖန်ဆင်း တာနော်။

ဒါဖြင့် လက်သည်တွေ့ပြီ၊ အို နာ သေကို ထာဝရ ကလဲ ဖန်ဆင်းတာ မဟုတ်ဘူး၊ဂေါတမကလဲ ဖန်ဆင်း တာမဟုတ်ဘူး၊ခန္ဓာကြီးကိုခင်နေတဲ့ တဏှာကဖန်ဆင်း တာ၊ ရှင်းပြီနော်၊ ဒါ သူများပါးစပ် လမ်းဆုံးတာ လား၊ ကိုယ်တိုင် သိတာလား၊ ကိုယ်တိုင် သိတာနော်။

သူများပြောတာယုံတာလား၊ ကိုယ့်အတွက်နဲ့ ကိုယ် သိတာလား၊ ကိုယ့်အတွက်နဲ့ကိုယ် သိရင် ပစ္စက္ခသိပဲ၊ ဒါဖြင့်ရင် သူများပါးစပ်မှာ လမ်းမဆုံးတဲ့ ဉာဏ်ကို ဘုန်းကြီးက ချိန်ဆနိုင်အောင် ခင်ဗျားကို ပေးတာပဲ၊ အို နာ သေကို ကိုယ့်တဏှာက လုပ်တယ်၊ အို နာ သေ လွတ်အောင် ဆိုတော့ ကိုယ့်တဏှာကို ချုပ်ဆုံး သွား အောင် လုပ်ရင် အို နာသေလွတ်ရမယ်၊ဒါဖြင့် ကျုပ်တို့ တဏှာ သတ်တဲ့အလုပ်ဟာ အရေးကြီးဆုံး အချက်ပဲ ပေါ်ပြီလား။

ဦးဖေဝင်း။ ပေါ်ပါပြီ ဘုရား။

ဆရာတော်။ ပေါ်ရင်ဖြင့် ခင်ဗျား သစ္စာ နားလည်လာပြီ၊ သမုဒယ သစ္စာ ဖြတ်ရမယ် ဆိုတာ သိလာပြီ၊ သမုဒယ သစ္စာဆို တာ တဏှာပဲ၊ တဏှာဖြတ်လို့ရှိရင်ဖြင့်ကျုပ်တို့ ကိစ္စ ပြီး မြောက်တယ်၊ ဒါဖြင့် သူ့ ဖြတ်တဲ့နည်း ကျုပ် ပြောရ တော့မယ်၊ တဏှာဖြတ်ရင် ကိစ္စပြီးတယ်ဆိုတာ ယုံပြီ လား၊ ခင်ဗျား ထာဝရပြောတာလဲ မယုံပါနဲ့အုံး၊ဂေါ တမပြောတာလဲ မယုံပါနဲ့အုံး၊ ကိုယ့်စိတ်ကို ကိုယ်ဆုံး ဖြတ်ပြီး ယုံပါ၊ ခင်ဗျားမုန်းလို့ ဆင်းရဲတာနဲ့၊ ခင်လို့

ဆင်းရဲတာနဲ့ ဘယ်ဟာက ဆင်းရဲသက် ရှည်သတုံး၊ ဒီနှစ်ခု ဖြေစမ်းပါ။

ဦးဖေဝင်း။ ခင်လို့ ဆင်းရဲတာက ဆင်းရဲသက် ရှည်ပါတယ်ဘုရား။

ဆရာတော်။ ဟုတ်တယ်၊ မုန်းတော့ ပြတ်တယ်၊ ခင်တော့ မပြတ်ဘူး၊ ဟုတ်ပြီ၊ တရားပေါ်လာပြီဗျာ၊ အော်....ဒါဖြင့် ခင်တာမပြတ်တာလဲ နောက်က တဏှာကြောင့်၊နောက် ခန္ဓာငါးပါးရတာကော တဏှာ မပြတ်လို့ရပါတယ်၊ ခင်တာပြတ်ရင် သူ့အတွက် သိပ်အပင်ပန်း မခံတော့ဘူး၊ မသေရုံကျွေးမှာပဲ၊ နောက်ခန္ဓာဟာလဲ အို နာ သေပဲလို့ သိနေတော့ လိုချင် ရချင် ရှိသေးရဲ့လား။

ဦးဖေဝင်း။ မလိုချင်တော့ပါဘုရား၊ မခင်တော့ပါဘုရား။

ဆရာတော်။ မခင်လို့ ရှိရင် ခါတိုင်းဆုတောင်းမျိုးကို တောင်းအုံးမှာလား။

ဦးဖေဝင်း။ မတောင်းပါဘုရား။

ဆရာတော်။ ဒါဖြင့် မတောင်းဘဲနဲ့ အလုပ်နဲ့ ဖြစ်သွားတာ မကြိုက်ဘူးလား၊ တောင်းလဲမတောင်းဘူး၊ အလုပ်လုပ်တာနဲ့ ပြီးသွားတယ်၊ အဲဒါ ပိုကောင်းတယ်၊ ဒါဖြင့် ခင်ဗျား အလုပ်လုပ်ရလိမ့်မယ်၊ ကိုယ့်ကိုယ်မှာ အနာပေါက်နေတာကို သူတစ်ပါးကပျောက်စေသတည်းဆိုလို့ပျောက်မှာ မဟုတ်ဘူး၊ သူ့ဆေးနဲ့သူ ကြံဖန် ကုသမှ ပျောက်မှာပဲ။

အဲဒါကြောင့် ကိုယ့်ကိုယ်ကို အားကိုးပါ၊ မြတ်စွာဘုရားလက်ထက်က ဝက္ကလိဆိုတဲ့ ရဟန်း တစ်ပါးဟာ မြတ်စွာဘုရားကို ကြည်ညိုလွန်းလို့ ဘုရားနားကမခွာဘဲ အမြဲဆည်းကပ်နေတယ်၊ဒီတော့ မြတ်စွာ ဘုရားက မင်းငါ့အနားကပ်မနေနဲ့၊ အကျိုးမရှိဘူး၊ ကိုယ့်အလုပ် ကိုယ်လုပ်မှ ကိုယ့်အကျင့်ကိုယ်ကျင့်မှ ရမယ်လို့ နှင်ပစ် ဖူးတယ်၊ ဒါကြောင့် ကိုယ့်အား ကိုယ်ကိုး ရမယ်ဆို တာ ကိုယ်တိုင်ကျင့်ရမယ်လို့ဆိုတာလို့ မှတ်ပါ။

ဦးဖေဝင်း။ တပည့်တော် အရှင်ဘုရားကို တိုတိုလေးပဲ မေးချင်ပါတယ်ဘုရား။

ဆရာတော်။ မေးပါ။

ဦးဖေဝင်း။ ကျင့်လို့ဖြစ်နိုင်သလား, မဖြစ်နိုင်ဘူးလားဆိုတာ သိချင်ပါတယ်ဘုရား။

ဆရာတော်။ ကျင့်လို့ဖြစ်နိုင်တယ်, မဖြစ်နိုင်ဘူးဆိုတာ ကျုပ်ပြောပြမယ်၊ အလုပ်တစ်ခု လုပ်တတ်ဖို့ဆိုတာ အကျင့်ရှိမှ ဖြစ်တယ်၊ အကျင့်မရှိရင် မဖြစ်ဘူး၊ အလုပ်တစ်ခုဖြစ်အောင် ဆိုလို့ရှိရင် တစ်ခါတည်းနဲ့ ကျင့်လို့မဖြစ်ဘူး၊ ခဏခဏကျင့်, မကျင်လည်သေးသမျှ ကျင့်ရမယ်၊ မော်တော်ကား မောင်းနည်းကို ကြည့်ပါ၊ မလေ့ကျင့်လို့ မကျင်လည်သေးရင် မောင်းလို့မရဘူး၊ ကျင့်သားရပြီး ကျင်လည်သူ တက်မောင်းတော့ ချက်ချင်းရတာပဲ၊ ကျင့်တယ်ဆိုတာ ကိစ္စမပြီးခင်သာ ခဏခဏကျင့်ရတာ၊ ကိစ္စပြီးတော့ ကျင့်စရာမလိုပါဘူး၊ လိုသေးသလား။

ဦးဖေဝင်း။ မလိုပါဘုရား။

ဆရာတော်။ ကျင့်နေတဲ့ နေရာမှာလဲ ဉာဏ်ထက်သူမှာတော့ တစ်ခါတည်း ကျင့်တာနဲ့ ပြီးတာလဲရှိတယ်၊ ဉာဏ်နည်းသူကတော့ ခဏခဏကျင့်ပေးမှ ပြီးတယ်၊ ဒါကတော့ ဉာဏ်ပေါ်မှာ လိုက်ပြီး ကွာခြားတာပဲ၊ ကျင့်သူတိုင်းကို တစ်တန်းတစ်စားတည်းထားပြီး အမှန်ယူလို့ မရဘူး။

ဦးဖေဝင်း။ သူတို့က ကျင့်တယ်ဆိုတာ မဖြစ်နိုင်ဘူး၊ ကျင့်ခြင်းအားဖြင့် နိဗ္ဗာန်မရောက်နိုင်ဘူး၊ ကာယ တင်ခြင်းအားဖြင့်သာ နိဗ္ဗာန်ရောက်နိုင်တယ်လို့ ပြောပါတယ်ဘုရား။

ဆရာတော်။ ကာယ်တင်ခြင်းအားဖြင့်ဆိုရင် ခင်ဗျား စဉ်းစားကြည့်ပါ၊ ဒီစကားက သူများအပေါ်မှာ မှီနေတယ်၊ ကိုယ့်လုံ့လပယောဂ ပါသေးသလား။

ဦးဖေဝင်း။ မပါပါဘုရား။

ဆရာတော်။ ကဲ....မပါလို့ရှိရင် ယခု ခင်ဗျားအသက်အရွယ်ထိ ဂုဏ်သရေရှိ ပုဂ္ဂိုလ်ကြီး ဖြစ်လာရတာ, ယခုလို ကြီးပွားချမ်းသာ လာရတာ ခင်ဗျားကိုယ်တိုင် အလုပ်လုပ်လို့ ကြီးပွားလာတာလား။ သူပေးလူပေးနဲ့ ကြီးပွားလာတာလား။

ဦးဖေဝင်း။ ကိုယ့်ကိုယ်တိုင် အလုပ်လုပ်လို့ ကြီးပွားလာတာပါဘုရား။

ဆရာတော်။ ဒါဖြင့် သူတို့ပြောတဲ့ ကယ်တင်ခြင်းဆိုတာ ယုံရမှာလား၊ သူကချည်း ကယ်တင်တယ်ဆိုရင် ခင်ဗျားဆင်းရဲတာလဲ သူက ကယ်တင်မှာပဲ၊ ခင်ဗျား အနာပေါက်တာလဲ သူပျောက်အောင်ကုရမှာပဲ၊ ခင်ဗျားအိုတာ–နာတာ–သေတာကိုလဲ မအိုရအောင်, မနာရအောင်, မသေရအောင်, သူက ကယ်တင်မှာပဲ၊ ဒီလိုမှ ကယ်တင်ရာ မြောက်တော့မပေါ့၊ အခုတော့ သူ (ထာဝရ)ဟာ ဒီလိုဟုတ်ကဲ့လား၊ ခင်ဗျား အိုတာ နာတာ သေတာတွေ၊ မအို မနာ မသေအောင် ကယ်တင်နိုင်ရဲ့လား, မကယ်တင်နိုင်ဘူးနော်၊ ဒါဖြင့် သူ့မှာ ကယ်တင်နိုင်တဲ့သတ္တိ မရှိလို့ပေါ့ဗျ။

ဦးဖေဝင်း။ ဒါပေမယ့် တပည့်တော်စိတ်ထဲမှာ ဒီလိုဖြစ်နေပါတယ်ဘုရား၊ အခုဟောတဲ့ဥစ္စာတွေ, ဘုရားဟောခဲ့တာတွေဟာ အကျင့် ကျင့်တယ်ဆိုတာ ပြောသာပြောနေရတယ်၊ လူတွေက ကျင့်နိုင်ပါမလား၊ ဒီမကျင့်နိုင်တဲ့ ဥစ္စာကို ကျင့်ဖို့ပြောနေတာ အပိုပဲလို့။

ဆရာတော်။ ဒါက ဒီလိုရှိတယ်၊ (အကျင့်) ဆိုတာ လောကီအကျင့်၊ လောကုတ္တရာ (အကျင့်) ဆိုပြီး အကျင့် (၂)မျိုးရှိတယ်၊ လောကီ (အကျင့်) ဆိုတာ အင်္ဂလိပ်ကျောင်းမှာ

ဘီအေထိအောင် ဘယ်နှစ်နှစ် ဆည်းပူးကျင့်ကြံခဲ့ရ
သလဲ ဆိုတော့ ဉာဏ်ကောင်းရင် တစ်ဆယ့်လေးနှစ်
လောက် ဆည်းပူးရမယ်၊ ဒီအလုပ်ဟာ ခဏခဏ မမေ့
အောင် ကျင့်ကြံ ဆည်းပူးရတဲ့အလုပ် မဟုတ်ဘူးလား၊
ငါ့ကိုယ်က ဖြစ်စေဆိုလို့ ဖြစ်တာလား၊ ခင်ဗျား
ဘာသာ ကျင့်ကြံဆည်းပူးလို့ ရတာလား၊ ဒီလိုကျင့်
ကြံမှ ဒီလို အရည်အချင်းတွေ ပြည့်စုံမယ် မဟုတ်လား။

ဦးဖေဝင်း။ တင်ပါဘုရား။

ဆရာတော်။ အဲဒီလို လေ့ကျင့်ရသလို တရားကိုလဲ လေ့ကျင့်ရမယ်။

ဦးဖေဝင်း။ တပည့်တော် အဲဒါပဲသိချင်နေတယ် ဘုရား၊ ဘာပြုလို့
တုံး ဆိုတော့ လေ့ကျင့်တဲ့ဥစ္စာကို တပည့်တော် ကြံဆ
ယူဆနေတာ တစ်နှစ်နီးပါးလောက် ရှိပါပြီ၊ သို့သော်
ကိုယ်အစွမ်း ကိုယ့်အစနဲ့ကိုယ် ဘယ်လိုနည်းနဲ့ လေ့ကျင့်
လို့ မရဘူးလို့ ဒီလိုပဲ ယူဆခဲ့ပါတယ်။

ဆရာတော်။ အဲဒီလို မယူဆနဲ့။

ဦးဖေဝင်း။ အရှင်ဘုရား အခုပြောတာလိုပဲ ဘီအေအောင်တဲ့အထိ
စာဖတ်နေရင်လဲ အောင်နိုင်တယ်၊ ဒါကော ဘာဖြစ်
လို့ လေ့ကျင့်ရင် မအောင်နိုင်ရမှာလဲ၊ တပည့်တော်
ဒါပဲ ရှင်းရှင်း သိချင်တယ် ဘုရား။

ဆရာတော်။ ကောင်းပြီ၊ သည့်ပြင်နည်းနဲ့ ကျုပ်ရှင်းပြအုံးမယ်၊
ခင်ဗျားတို့ ဘီအေ၊ အမ်(မ်)အေ အောင်လို့ နိုင်ငံ
ခြားသားတွေနဲ့ သွားကြ၊ လာကြ၊ ပြောကြ၊ ဆိုကြမှ
သူတို့အခေါ်အဝေါ်တွေ နားလည်တယ်၊ ကိုယ့်မြန်မာ
အခေါ်အဝေါ်တွေတော့ ရိုးရာမို့ အထူးမသင်ရဘူး
လားပါ၊ ဒါတောင် မိဘတွေက ပထမဦးစွာ အဖေ
ခေါ်လိုက်ဟဲ့၊ အမေခေါ်လိုက်ဟဲ့၊ ထမင်း ဒီလိုစား

ဟဲ့၊ ပြီးမှ ရေသောက်ဟဲ့၊ မျက်နှာ ဘယ်အချိန်သစ်ဟဲ့၊ ခေါတ်ဘယ်အချိန်သွားဟဲ့၊ အဲဒီလိုနဲ့ ကြာတော့ ခင်ဗျားတို့ အကျင့်ဖြစ်မသွားဘူးလား။

ဦးဖေဝင်း။ ဖြစ်ပါတယ်ဘုရား။

ဆရာတော်။ ဒါဖြင့် ဘယ်အလုပ်မဆို အလေ့အကျင့် ပါတာချည့်ပဲ၊ အဲဒီ အလေ့အကျင့်ဆိုတာဟာ အဖေ အမေ သင်တာက အလေ့အကျင့်တစ်မျိုး၊ ဘုရား သင်တာက အလေ့အကျင့် တစ်မျိုး၊ အဖေ အမေ သင်လိုက်တဲ့ အလေ့အကျင့်က အိုနာသေ မလွတ်တာ၊ ဘုရားသင်လိုက်တာက အိုနာသေ လွတ်တာ၊ ဒါဖြင့် အိုနာသေလွတ်တဲ့ အလေ့အကျင့် လိုက်ရုံပေါ့။

ဦးဖေဝင်း။ တပည့်တော်ခုပြောတာကလေ့ကျင့်နေတာဟာလူတိုင်းလေ့ကျင့်နေတာပဲ၊ ရကိုရမှာ မဟုတ်ဘူး၊ နောက်ဆုံးတော့ လက်လှမ်းမမီဘူး၊ ဒီအဓိပ္ပာယ် ရောက်ပါတယ်၊ ဒီလမ်းတော့ ရှိတာပဲ၊ ဒီခရီးကိုပဲ လျှောက်ကြတာပဲ၊ သို့သော်လဲ ခရီးဆုံးအောင် မရောက်နိုင်ဘူး၊ ဒီလိုပဲ ယူဆပါတယ်ဘုရား။

ဆရာတော်။ ဒီလိုလဲ မယူဆနဲ့၊ ဒီလိုလဲ မဟုတ်ဘူး၊ ကျုပ်ရှင်းပြမယ်၊ ဘုရားတစ်ဆူနဲ့တစ်ဆူကြားမှာ မြေကြီး တစ်ယူဇနာ တက်တယ်၊ ကမ္ဘာမပျက်ရင် ၁၃ မိုင် တက်တယ်ဆိုတော့ အတော်မမြင့်ဘူးလား၊ ဘုရားဖြစ်မယ့်သူကတော့ ဒီမြေကြီး (၁၃) မိုင် တက်အောင် ကျင့်ရတယ်၊ ခင်ဗျားတို့က ဘုရား မဖြစ်ချင်ဘူး၊ အိုနာသေ လွတ်ရင် ပြီးရောဆိုတော့ မနက်ကျင့်ရင် ညနေတောင် ရနိုင်တယ်၊ ကျုပ် ဒီလောက်ပဲ အကျဉ်းချုံးပြီးပြောလိုက်မယ်၊ ဘုရားက သတ္တဝါ ဝေနေယျများကယ်တင် ချင်တဲ့စိတ်နဲ့ ကျင့်တဲ့အတွက် ကြာမယ်၊ ကိုယ်ကိုယ်တိုင်ကတော့ အိုနာသေ လွတ်ရုံ ကျင့်တဲ့အကျင့်မို့ မြန်တယ်။

ဦးဖေဝင်း။ ဒါက အရှင်ဘုရားအမိန့်ရှိတဲ့ စကားအတိုင်း ဆိုရင် ကိုယ့်ကိုယ်ကို ကျွတ်ဖို့ လွတ်ဖို့ လွယ်တယ်၊ သူများကို ကယ်တင်ဖို့ နည်းပေးနိုင်တဲ့ဘုရားဖြစ်ဖို့တော့ ကြာ တယ်။

ဆရာတော်။ ဟုတ်တယ်၊ ဒါ သူ့အတန်းနဲ့သူ၊ သူ့ဗီဇရှိနဲ့သူ လာ ရမယ်၊ ဘီအေကနေ အမ်(မ်)အေ အောင်ချင်တော့ (၂)နှစ်ပိုနေရမယ်၊ ဒါ ဘာဖြစ်လို့လဲဆိုတော့ အင် မတန် ကြီးကျယ်တဲ့ ဆရာကြီးဖြစ်ဖို့ ပါမောက္ခကြီး ဖြစ်ဖို့ပဲ၊ ဒါကြောင့် သူ(၂)နှစ် တိုးသွားတာ၊ သဘော ပေါ်ပြီလား၊ ဒီတော့ ကိုယ့်ဟာကို ချမ်းသာရေးအလို ရှိတယ်ဆိုရင် ခင်ဗျား မကြာဘူး၊ လက်လှမ်းမှီတယ်၊ အားလုံးကို ကယ်တင်ရမယ်၊ နည်းလမ်းပြပြီး သူတို့ ချမ်းသာစေဖို့ဆိုရင် ခင်ဗျားကြာမယ်၊ ခင်ဗျားဝေဖန် စမ်း၊ ဘယ်ဘက်ကတုံး၊ ခင်ဗျားက ကိုယ်ချမ်းသာလို့ ရှိရင် တော်ပါပြီ၊ အများအတွက်ကတော့ ကမ္ဘာ သင်္ချာပေါ့။

ဦးဖေဝင်း။ တပည့်တော်အနေနဲ့တော့ ဒါအရေးကြီးတာပဲ၊ သည့် ပြင် လူတွေရဲ့ အတွက်တော့ အရေးမကြီးပါဘုရား။

ဆရာတော်။ ဒါဖြင့် ညနေလုပ် မနက်ရမယ်၊ အို နာ သေလွတ် တဲ့လမ်း ခင်ဗျား ရမယ်၊ ဒီနည်းကို ကျုပ်ပေးလိုက် မယ်၊ ခင်ဗျား စောစောပိုင်းကလက်သည်လဲ မိထား ပြီပဲ၊ ဒီလက်သည်ကို ဖြတ်ရမှာ၊ သတ်ရမှာ၊ ဒီတော့ အခု ခန္ဓာလဲ ခင်မယ်၊ နောက် ခန္ဓာလဲ လိုချင်တယ် ဆိုရင် ခန္ဓာအစဉ် ဆက်နေမယ်၊ အခု ခန္ဓာကို မကောင်းမှန်းသိလို့ မခင်ရင်နောက်ခန္ဓာလဲမကောင်း မှန်းသိပြီးသား နေမှာပေါ့၊ဒီလိုဆိုတော့ ဒီဘဝပြီးရင် ပြီးတာပဲ၊ ဒါဖြင့် ခင်ဗျားလက်သည်တွေ့ပြီ၊ ခင်ရာ မင်ရာဟာ လက်သည်ပဲ၊ ဘယ်သူ လက်သည်တုံး။

ဦးဖေဝင်း။ ခင်ရာမင်ရာဟာ လက်သည်ပါဘုရား။

ဆရာတော်။ ကောင်းပြီ၊ ဒါဖြင့် ဒီလက်သည်ကို နှင်ထုတ်ရလိမ့်မယ်၊ ခင်ဗျား ဖြုံးကနဲ နှင်ထုတ်လို့ မရဘူး၊ ဆင်ခြေကလာလိမ့်မယ်၊ဒါ မသိသေးခင်ကသာ မလွယ်တာပါ၊ ခင်ဗျား မနေ့ညက ပြောတဲ့အထဲ ပါသွားပြီ၊ အနာပေါက်နေလို့ မီးကင်တာဗျ၊အနာပျောက်ရင် မီးမကင်ချင်ပါဘူး၊ ခင်ဗျား သားမျှားသမီးမျှားဆိုတဲ့ မီးဖိုနား မကင်တော့ပါဘူး၊ ဒီလိုဆိုတော့ ကျုပ်က အနာပျောက်တဲ့ဆေး ပေးရုံပဲ၊ ခင်ဗျားဟာ ခင်ဗျား စားရုံပဲ၊ ခင်ဗျားမှာ အဘိုးအဘွားတွေ ရှိသေးသလား။

ဦးဖေဝင်း ။ မရှိတော့ပါဘုရား။

ဆရာတော်။ ဒါဖြင့် မကယ်တင်နိုင်လို့ပေါ့၊ မချစ်လို့ မခင်လို့လား၊ ချစ်ရက် ခင်ရက်နဲ့ လက်လွှတ်လိုက်ရတာလား။

ဦးဖေဝင်း ။ ချစ်ရက်နဲ့ခင်ရက်နဲ့ လက်လွှတ်လိုက်ရတာပါ ဘုရား။

ဆရာတော်။ လောကကြီးထဲမှာ (အို–နာ–သေ–)ဆိုတာကို ကယ်တင်နိုင်တာ မရှိဘူး၊ လောကကြီး အပြင်ဘက်မှာသာ ရှိတယ်၊ အဲဒီ အို–နာ–သေ မရှိတဲ့ဆီ သွားနေရုံပဲ၊ဘာဖြစ်လို့ တုံး ဆိုတော့ အပူရှိရင် အအေးရှိတယ်၊ အမှောင်ရှိရင် အလင်းရှိတယ်၊ ဆောင်းရှိရင် နွေရှိတယ်၊ အို-နာ-သေ ရှိတဲ့နေရာရှိရင် အို-နာ-သေ မရှိတဲ့နေရာလဲရှိတယ်၊ ဒါဟာ သဘာဝဓမ္မပဲ၊ အို–နာ–သေကို ဘယ်သူလုပ်သတုံးဆိုတော့ နောက် ခန္ဓာလိုချင်တဲ့ တဏှာက လုပ်တယ်၊အဲဒီတော့ လက်သည်တဏှာကိုသတ်ပြီး အို–နာ–သေ မရှိတဲ့လောကကြီးအပြင်ဘက်ကို သွားနေလိုက်ရုံပေါ့။

သူ့ကို သတ်ဖို့ရာ ခုတင်က တရား ပြန်စကြစို့၊ ကိုယ့်ခန္ဓာမှ ရုပ်ဆိုတာရယ်, နာမ်ဆိုတာရယ်, နှစ်ခုရှိတယ်၊ အဲဒီတော့ သားသံ သမီးသံ စသည်တို့

မကြားရတဲ့ ဆိတ်ငြိမ်တဲ့နေရာမှာ ထိုင်ပြီး ကိုယ်ခန္ဓာကို ဆင်ခြင်ရှုပွားနေစမ်းပါ၊ ကိုယ့်စိတ်ကို ကိုယ်ရှုလိုက်၊ ကိုယ့်ရုပ်ကို ကိုယ်ရှု၊ ဒီနှစ်ခုကို ရှုလိုက်တဲ့အခါ သူတို့ကပြောတာ၊ အမှန်ယူလိုက်ပါ၊ ကိုယ်တိုင်မြင်မှ ယုံကြည်ပါ၊ ကျုပ်က နည်းတော့ ပေးမပေါ့၊ဘုရားပေးတဲ့ နည်းပဲ၊ ပွားတော့သာ ကိုယ့် အမြင်နဲ့ ကိုယ်ပွားရမယ်။

ဦးဖေဝင်း ။ မှန်လှပါဘုရား။

ဆရာတော်။ ဒါဖြင့် ဘာကို ပွားရမလဲဆိုရင် ခန္ဓာကို ရှုပွားရမယ်၊ခန္ဓာမှာလဲ နာမ်ရယ်၊ရုပ်ရယ်ပဲရှိတယ်၊ ဒီနှစ်မျိုးကို ခင်ဗျား ရှုရမယ်၊အဲဒီ နှစ်ခုကို ရှုတဲ့အခါကျတော့ တော်တော်ကြာ စားချင်တဲ့စိတ်၊ တော်တော်ကြာ အိပ်ချင်တဲ့စိတ်၊ တော်တော်ကြာ ပြောချင်တဲ့စိတ်၊ တော်တော်ကြာ ခရီးသွားချင်တဲ့စိတ် စသည်ဖြင့် စိတ်တွေ ခဏခဏ မပြောင်းဘူးလား။

ဦးဖေဝင်း ။ ပြောင်းပါတယ်ဘုရား။

ဆရာတော်။ ပြောင်းနေတယ်ဆိုကတည်းက ဒီတစ်စိတ် ပျက်စီးပြီးမှ နောက်တစ်စိတ် ပြောင်းတာ၊ တစ်ပြိုင်တည်း နှစ်စိတ် မဖြစ်နိုင်ဘူး။ ကောင်းပြီ ဒါဖြင့် ခင်ဗျား စိတ်ကို ခင်ဗျား ပိုင်ရဲ့လား။

ဦးဖေဝင်း ။ မပိုင်ပါ ဘုရား။

ဆရာတော် ။ မပိုင်တာနဲ့ အတူမနေနဲ့၊ အတူနေရင် အစဉ်ဆင်းရဲနေမယ်၊ ကိုယ့်စိတ်မှ ကိုယ်မပိုင်တာ သိသာလို့ရှိရင်လဲ ငါ ဒီစိတ်မျိုးနဲ့ ကြာရှည်နေလို့ ကျေးဇူး မရှိဘူးလို့ ပေါ်လာမယ်၊အဲဒါ ဗုဒ္ဓဘာသာလို (အနတ္တ)လို့ ခေါ်တယ်၊ ဒါဖြင့် မင်းကိုမပိုင်သေးသမျှ ကာလပတ်လုံး မင်းငါ့ကိုနှိပ်စက်နေအုံးမှာပဲ၊အထိုင်ချည်း ခိုင်းနေမှာ မဟုတ်ဘူး၊ အထလဲ ခိုင်းအုံးမယ်၊ အသွားလဲခိုင်းအုံး

မယ်၊ အငိုလဲ ခိုင်းအုံးမယ်၊ အသောလဲ ခိုင်းအုံးမယ်၊ မခိုင်းပေဘူးလား။

ဦးဖေဝင်း။ ခိုင်းမှာပါဘုရား။

ဆရာတော်။ ဒါဖြင့် သူ့ကို နိုင်အောင်လုပ်ရမယ်၊ သူဟာ အသုံးမကျဘူး၊ သူဟာ ငါ့ကို နှိပ်စက်နေတာပဲလို့သိအောင် လုပ်တာနဲ့ တစ်ပြိုင်နက် ဒီစိတ်ကို စက်ဆုပ်လာမယ်၊ မလိုချင်မရချင်တော့ဘူး၊ ကောင်းပြီ၊ ဒါဖြင့် (စိတ်) မလိုချင်တော့ဘူး၊ ကဲ....(ရုပ်)မလိုချင်တာကို ပြောအုံးမယ်၊ နှစ်ခုစလုံး မလိုချင်အောင် လုပ်ရမယ်၊ ဒီနှစ်ခုပေါင်းရင် ခန္ဓာငါးပါးပဲ၊ ခင်ဗျားစဉ်းစားကြည့်ပါ၊ ခု ထိုင်နေတာ မလှုပ်နဲ့နေ၊ မပြောင်းနဲ့နေ ဆိုလို့မရဘူး၊ ထုံလာတယ်၊ ညောင်းလာတယ်၊ ခင်ဗျား ထသွားလို နေနိုင်ရဲ့လား။

ဦးဖေဝင်း။ မနေနိုင်ပါဘုရား။

ဆရာတော်။ မနေနိုင်တော့ ရုပ်ရော၊စိတ်ရော၊ ခင်ဗျား ပိုင်ရဲ့လား၊ ဒါဖြင့် မပိုင်တဲ့သူနဲ့ နေရတာ ကျက်သရေ မင်္ဂလာရှိရဲ့လား။

ဦးဖေဝင်း။ မရှိပါဘုရား။

ဆရာတော်။ သူတို့နှစ်ခု မုန်းရင် ခန္ဓာငါးပါး မုန်းတာပဲ၊ မုန်းတဲ့ ပုဂ္ဂိုလ်က နောက်ခန္ဓာကို လိုချင်သေးသလား။

ဦးဖေဝင်း။ မလိုချင်ပါဘုရား။

ဆရာတော်။ ဟုတ်ပြီ၊ မလိုချင်ရင်မရတော့ဘူး၊ မရတော့ သူတို့နှစ်ခုဟာ အို–နာ–သေမို့ အို–နာ–သေက လွတ်မှာလား၊ မလွတ်ဘူးလား။

ဦးဖေဝင်း။ လွတ်မှာပါဘုရား။

ဆရာတော်။ ကိုင်း….ဒါဖြင့် သူတို့နှစ်ခုကို မှန်းအောင် လုပ်ပါ၊ ဒါ အကျင့်ပဲ၊ ဒါတွေ ကျင့်ရမှာပဲ၊ ခုနကမှန်းစရာတွေ ပြောတာကို သူများ ပါးစပ်မှာ လမ်းမဆုံးစေဘဲ ကိုယ်တိုင်ကျင့်လို့ ကိုယ်ပိုင်ဉာဏ်နဲ့ သိရင် ကိစ္စပြီးပါ တယ်ဆိုတာ ပြောလိုက်ပါတယ်။

ကိုင်း….ဒီနေ့ ဒီတွင်ပဲ တော်ကြအုံးစို့။

သာဓု….သာဓု….သာဓု။

မှတ်ချက်။ ရန်ကုန်မြို့ ရှမ်း—ဗမာ ရောင်းဝယ်ရေး ကုမ္ပဏီလီမိ တက်မှ မန်နေဂျင်း ဒါရိုက်တာ ဦးဖေဝင်း၏ သံသယ များအား ဆရာတော်ဘုရားကြီးက အသွယ်သွယ်သော ဥပမာ ဥပမေယျတို့ဖြင့် တန်ဆာဆင်လျက် ရှင်းလင်း ဟောကြားသည်ကို ဦးဖေဝင်းသည် လွန်စွာအားရ နှစ်သက် သဘောပေါက်ကာ အမှန်တရားကို ထိုး ထွင်း၍ သိမြင်လာပါတော့သည်၊ ထိုနေ့မှစ၍ အဆိုပါ ပုဂ္ဂိုလ်ကြီးသည် ဗုဒ္ဓဘာသာကို မမှိတ်မသုန် သက်ဝင် ယုံကြည်ကာ ပရိယတ် ပဋိပတ်များကို လေ့လာ ကျင့်ကြံ ကြိုးကုတ်အားထုတ်နေသည့်အပြင် သာသနာ တော်ကြီး စည်ပင်ပြန့်ပွားအောင် ဆောင်ရွက်နေကြ သူများအနက် ပေါ်လွင် ထင်ရှားသူ တစ်ဦး ဖြစ်ပါ သည်။



## ရန်ကုန်မြို့၌ ဆရာတော်ဘုရားကြီး သီတင်းသုံးစဉ်
## စကြံ့လျှောက်ခြင်း

ဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့၌ ခေတ္တသီတင်းသုံး နေစဉ် နေ့စဉ် ညနေ (၅) နာရီမှ (၆) နာရီအတွင်း တစ်ခါတရံ တိရစ္ဆာန်ရုံဘက်ဆီသို့၊ တစ်ခါတရံ အင်းယားကန်ဘက်ဆီသို့ စကြံ့ လျှောက်လေ့ရှိရာ တစ်ညနေတွင် ဆရာတော်ဘုရား ကြီးက နောက်မှ ကပ်၍ အမြဲတမ်းလိုက်ပါလေ့ရှိသော ဟသ်ာတ-ဦးမြအား စကြံ့ လျှောက်ရင်း ဆုံးမဩဝါဒပေးသည်မှာ....

ဆရာတော်။ အလုပ်ထိုင်ရဲ့လား။

ဦးမြ။ ထိုင်ပါတယ် ဘုရား။

ဆရာတော်။ ဝေဒနာကော ကျော်ရဲ့လား၊ ဝေဒနာ ကျော်အောင် အားထုတ်ထား၊ အသေက ဦးသွားလိမ့်အုံးမယ်နော်။

ဦးမြ။ မှန်လှပါဘုရား၊ တပည့်တော်လို ပန်းနာသမား တော် တော်နဲ့ မသေနိုင်ပါဘုရား။

ဆရာတော်။ သက်တန်းဟာ ထွက်လေ ဝင်လေပဲ၊ တစ်နှင့် နှစ်ပဲ ရှိတယ်။

ဦးမြ။ မှန်လှပါ ဘုရား။

ဆရာတော်။ ကျုပ်တို့ ခင်ဗျားတို့ဟာ မုချသေရမည့်အချိန်ပိုင်းသာ လိုတော့တယ်၊ ခင်ဗျားရဲ့ စီးပွားရေးကလဲ အလှမ်း ကျယ်ပြီး အလယ်လပ်နေတယ်၊ ဒီစီးပွားရေးတွေကို ကိုယ်တိုင်လုပ်မနေပါနဲ့တော့၊ လိုရင်း ဟာနေတယ်... စသည်ဖြင့် ဆုံးမဩဝါဒ ပေးပါသည်။

ထိုသို့ စကြံ့လျှောက်ရာတွင် ဝန်ကြီးဟောင်း (မြန်အောင်) ဦးတင်၊ (ဘီ–အိုင်–ဗီ) ဦးမောင်ကို၊ အမရပူရမြို့မှ ဦးဘတုတ်၊ စာရေးသူ စသည်တို့လည်း နောက်တော်မှ အမြဲတမ်းလိုလိုလိုက်လေ့ရှိကြပါသည်။

**မှတ်ချက်။** ဆရာတော်ဘုရားကြီးသည် ရန်ကုန် တိရစ္ဆာန်ဥယျာဉ် အတွင်း စကြံ့လျှောက်ရာ၌ တိရစ္ဆာန်ရုံ အုပ်ချုပ်ရေး မှူး၏ အိမ်ဘက်မှ ဝင်၍ တိရစ္ဆာန်များ မထားရှိသေး သော နေရာလွတ်တွင်သာ စကြံ့လျှောက်ခြင်းပြုလေ့ ရှိပါသည်။



## ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး ရန်ကုန်မြို့မှ အမရပူရမြို့သို့ ပြန်လည်ကြွရောက်ခြင်း

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီးသည် အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တံဆိပ် ကပ်လှူခြင်းကို ခံယူတော်မူပြီးနောက် ၁၃၂၄-ခု၊ ဝါဆိုလဆန်း (၁၃) ရက်နေ့တွင် ရန်ကုန်မြို့မှ မန္တလေးမြို့သို့ သီးသန့် အထူးမီးရထားတွဲလုံးဖြင့် ပြန်လည်ကြွရောက်လာရာ ရန်ကုန်မြို့သို့ ကြွ သွားစဉ်ကကဲ့သို့ပင် ဘူတာစဉ်တစ်လျှောက်လုံးမှ တကာ တကာမ များ စုဝေးလာရောက်၍ ဆရာတော်ဘုရားကြီးအား ဖူးမျှော်ကန်တော့ ကြပါသည်။

မန္တလေးမြို့သို့ ရောက်လျှင် ရောက်ချင်း မန္တလေးမြို့နှင့် အမရပူရ မြို့မှ တကာရင်း တကာမရင်းတို့သည် မန္တလေးဘူတာကြီးသို့ လာ ရောက်၍ သိုက်သိုက်ဝန်းဝန်း ကြိုဆိုကြပြီး ကားကြီးကားငယ် အသွယ် သွယ်တို့ဖြင့် ဆရာတော်ဘုရားကြီးအား အမရပူရမြို့၊ မင်္ဂလာတိုက် ဟောင်းသို့ ပင့်ဆောင်သွားကြပါသည်။

အမရပုရမြို့တွင် ဆရာတော်ဘုရားသည် ၁၃၂၄–ခု၊ ဝါဆို လပြည့်နေ့မှ စ၍ ယခင်ကကဲ့သို့ ဟောမြဲဖြစ်သည့်အတိုင်း ၂သတ္တဝါ

ဝေနေယျတို့အား တရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူလေသည်။

ဆရာတော်ဘုရားကြီး အမရပူရမြို့တွင် စကြံ့လျှောက်ချိန် အမြဲတမ်း အသုံးပြုရန် ကားတစ်စင်းကို အမရပူရမြို့ အိုးတော်ရပ်နေ စက်ရက်ကန်းပိုင်ရှင် ဦးဘတုတ်-ဒေါ်ခင်ငြိမ်း တို့က လှူဒါန်းထားပါသည်၊ သို့သော်လည်း ဆရာတော်ဘုရားကြီးက အဆိုပါကားကို ဦးဘတုတ်အား ပြန်လည်စွန့်ထားပါသည်၊ ဦးဘတုတ်မှာ ဆရာတော်ဘုရားကြီး၏ ပစ္စည်းလေးပါးဒါယကာ ခံယူကာ အမြဲဝတ်ပြုနေသော ပုဂ္ဂိုလ်တစ်ဦး ဖြစ်ပါသည်။ ဆရာတော်ဘုရားကြီးရှိစဉ်ကစ၍ ယနေ့တိုင် စီးပွားရေးကို လုံးဝ လျစ်လျူရှုထားပြီး တရားအားထုတ်နေသူ ဖြစ်ပါသည်။ ဆရာတော်ဘုရားကြီး စကြံ့လျှောက်တိုင်းနှင့် ကိစ္စရှိသည့်အခါတိုင်း ဦးဘတုတ်ကိုယ်တိုင် ကားမောင်း၍ လိုက်ပို့လေ့ရှိပါသည်။

ဆရာတော်ဘုရားကြီးမှာ စကြံ့လျှောက်ရာတွင် လေငြိမ်သောနေရာနှင့်လူရှင်းသောနေရာများကိုသာ ရွေးချယ်၍ စကြံ့လျှောက်လေ့ရှိရာ တစ်ခါတရံ အမရပူရ စစ်ကိုင်းလမ်း တံတားဖြူအနီးသို့လည်းကောင်း၊ တစ်ခါတရံ မယ်ဇယ်ပင်တန်းကိုဖြတ်၍ ဦးပိန်တံတားကြီးဘက်သို့လည်းကောင်း၊ တစ်ခါတရံ ပုထိုးတော်ကြီးဘုရား ဘက်သို့လည်းကောင်း စကြံ့လျှောက်လေ့ရှိပါသည်။

ဆရာတော်ဘုရားကြီး စကြံ့ကြွလာမှန်း တကာ—တကာမ အပေါင်း သိကြရလျှင် ဆီးပင်ခင်းခြင်း၊ မျက်နှာသုတ်ပဝါခင်းခြင်း၊ ကလေးငယ် ကလေးများပေါ်မှ ဖြတ်ကြွရန် လမ်း၌ထားရှိခြင်း စသည်တို့ ပြုလုပ်ကြပါသဖြင့် စကြံ့လျှောက်ရာ၌လည်း မည်သည့်နေရာကိုမှ အမြဲတမ်း စကြံ့လျှောက်သည့် အလေ့အထ မရှိသည့်အပြင် မည်သည့်မြို့၊ မည်သည့်ကျောင်း၌ဖြစ်စေ အမြဲတမ်း သီတင်းသုံးတော်မမူဘဲ မိမိကိုယ်ကို ဧည့်သည် အာဂန္တုကဲ့သို့ သဘောထားပြီး သီတင်းသုံးတော်မူလေ့ ရှိပါသည်။ အဖိုးတန် သင်္ကန်းစသည်တို့ကို ဆင်မြန်းဝတ်ရုံတော်မူပြီး ချိုချဉ်ခဲဖွယ် စသည်တို့ကို သုံးဆောင်တော်မူရသော်လည်း မည်သည့် ပစ္စည်း (၄) ပါး အပေါ်၌ ခင်မင်တွယ်တာ ကပ်ငြိခြင်း မရှိပါ။ ထို့ပြင် အလှူခံထားသော ပစ္စည်းအားလုံးကို နှစ်စဉ် ဝါဆို

နှင့် ဝါကျွတ်ပွဲ များတွင်ပြန်လည်လှူဒါန်းလေ့ရှိပါသည်။ ထို့ကြောင့် ဆရာတော်ဘုရားကြီးမှာ ပစ္စည်း (၄)ပါးဖြင့် လှူဒါန်းကြသော တကာ–တကာမများ လွန်စွာပေါများရလေတော့သည်။



## မင်္ဂလာတိုက်၌ ဆရာတော်ဘုရားကြီး နောက်ဆုံး ဝါကပ်တော်မူခြင်း

၁၃၂၄–ခု၊ အမရပူရမြို့ မင်္ဂလာတိုက်၌ ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး နောက်ဆုံး ဝါကပ်တော်မူလေသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ဝါပတွင် လာရောက် လှူဒါန်းကြသော အဖိုးတန်, သင်္ကန်း, ထီး, ဖိနပ် စသည့် ဝတ္ထုပစ္စည်း အားလုံးကို တစ်ခုမကျန် နှစ်စဉ် ဝါဆိုဦး ဝါကပ်ချိန်တွင် မင်္ဂလာ တိုက်ရှိ သံဃာတော်အရှင်မြတ်များနှင့် အခြားကျောင်းတိုက်များရှိ ထေရ်ကြီးဝါကြီး သံဃာတော်အရှင်မြတ်များကို အမြဲလှူဒါန်းလေ့ ရှိပါသည်၊ တစ်ဖန် ဝါတွင်း၌ လာရောက်လှူဒါန်းကြသော အဖိုးတန် သင်္ကန်း, ထီး, ဖိနပ် စသည့် ဝတ္ထုပစ္စည်းအားလုံးကိုလည်း ဝါကျွတ် ကထိန်ပွဲတော်တွင် အထက်ကဖော်ပြခဲ့သော ကျောင်းတိုက်များမှ သံဃာတော်အရှင်မြတ်တို့အား ထပ်မံလှူဒါန်းမြဲဖြစ်ပါသည်။

တစ်ကြိမ်က ဝါကျွတ်ကထိန်ခင်း လှူဒါန်းမြဲပွဲတော်တွင် ဆရာ တော်ဘုရားကြီး၏ တပည့်ဖြစ်သူ ဦးကုဏ္ဍလက သင်္ကန်းများ များလွန်း ပါ၍ ပိုးသင်္ကန်း, သက္ကလပ်သင်္ကန်းအချို့ကို လှူဒါန်းရာတွင် မထည့် ဘဲ ပြန်လည်သိမ်းဆည်းထားရာ ဆရာတော်ဘုရားကြီး တွေ့မြင်သိရှိ သဖြင့် ထိုသိမ်းဆည်းချန်လှပ်ထားသော သင်္ကန်းအားလုံး တစ်ခု မကျန် လှူဒါန်းလိုက်ပါသည်။ တပည့်က သင်္ကန်းအပိုတစ်ထည်မှ မချန် သည့်အကြောင်းရင်းကို မေးလျှောက်ရာ ဆရာတော်ဘုရားကြီးက အင်း.... တကာ–တကာမတွေက တွယ်တာတဲ့တဏှာကို ဖြတ်တောက်

ပြီး လှူဒါန်းကြတဲ့ဥစ္စာပဲ၊ မင်းတို့ ငါတို့က ဒီဟာတွေကို တစ်ခါထပ်ပြီး တဏှာနဲ့ တွယ်တာနေဦးမယ်ဆိုလျှင် အရှုံးမို့ ရှုံးလို့သာပဲ မှတ်ပေတော့ ဟု မိန့်ကြားတော်မူခဲ့ဖူးပါသည်။

ထိုသို့ ဝါကပ်တော်မူရင်း၌ပင် မိမိခန္ဓာကိုယ်ကို မငဲ့ညှာဘဲ တကာ–တကာမ အပေါင်းတို့ကို တရားဟောခြင်း တရားစစ်ခြင်း များကို အချိန်ပြည့် ပြုလုပ်တော်မူလေသည်။ ဝတ်ပြုသူ တပည့်ရင်း များအား ခန္ဓာဝန်ချမည့်အကြောင်း အရိပ်အမြွက်ကို တစ်ညနေ စင်္ကြံ လျှောက်သွားစဉ် ဆရာတော်ဘုရားနောက်မှ အမြဲတမ်းလိုက်လေ့ ရှိသော စန်းကဖေးမှ ဦးစောမောင်က မန္တလေး-စစ်ကိုင်း ကားလမ်း တံတားကုန်းအထက်တွင် ဆရာတော်ဘုရားက လူငယ်များကဲ့သို့ ပေါ့ ပါးစွာ စင်္ကြံကြွသည်ကို ဦးစောမောင်က နောက်မှကြည့်ရင်း....

"အရှင်ဘုရား မနှစ်ကတော့ မကျန်းမမာ လေငန်းရောဂါ ဖိစီးနှိပ်စက်ခြင်း ခံရသော်လဲ ခုလို ပေါ့ပေါ့ပါးပါး ကြွတာမြင်ရ တော့ တပည့်တော်မှာ အလွန်အမင်း ဝမ်းသာလှပါတယ်ဘုရား" ဟု လျှောက်လိုက်ရာ ဆရာတော်က နောက်လှည့်ခြင်းမပြုဘဲ "မောင်စော မောင် ဆေးဝါးဆိုတာ အခိုက်အတန့်ပဲ" ဟု ရှေ့သို့ စကားမဆက်ဘဲ ကြွသွားတော်မူပြီး ခြေလှမ်း ၅၀ ခန့်ရောက်မှ တစ်ဖန်လှည့်ပြီး "ခန္ဓာ ကိုယ်ကတော့ အမြဲဖောက်ပြန်နေတယ်ဆိုတာ မင်း မသေမချင်း လေးလေးနက်နက် မှတ်ထား" ဟု မိန့်တော်မူပြီး ဆက်လက် လျှောက်မြဲ လျှောက်သွားပြီးမှ "မောင်စောမောင် သူတော်ကောင်းများပြောတဲ့ စကားကို လေးလေးနက်နက် မှတ်နော်၊ အကြောင်းမဲ့မပြောဘူး (မှန်လှပါဘုရား၊) ရန်ကုန်က တကာ တကာမတွေကတော့ ငါ အရောက်နောက်ကျသကွာ၊ (မှန်လှပါဘုရား၊ အရှင်ဘုရား လာမ နှစ်မှာ ရန်ကုန်ကြွအုံးမှာလားဘုရား၊) "ဒါကတော့ ငါ့ခန္ဓာကိုယ် ပြောပါလိမ့်မယ်ကွ" ဟု အမိန့်ရှိလိုက်ရာ ဦးစောမောင်က ဘာ ပြန်မလျှောက်ဝံ့တော့ဘဲ ဆရာတော် နောက်ပါးမှသာ လိုက်ခဲ့ ပါသည်။

နောက်ရက်ပိုင်းများ၌ လေ ပြင်းပြင်း ထန်ထန် တိုက်သဖြင့် လည်းကောင်း၊ ကားလမ်း၌ စင်္ကြံ မကြွတော့ဘဲ ပုထိုးတော်ကြီးဘု...

အနီး၌သာစကြံ့ကြွတော်မူရင်း "မောင်စောမောင် တို့ရန်ကုန်တုန်းက တိရစ္ဆာန် ဥယျာဉ်ထဲ စကြံ့ကြွတော့ ဟသ်ာတ ဦးမြကလဲ မင်းလိုပဲ ငါ့နောက်က အမြဲလိုက်ပြီး တို့နှစ်ယောက် အတူတူ လျှောက်ကြသကွာ၊" (မှန်လှပါဘုရား)၊ "အခု ရန်ကုန်က ပြန်လာတာ တစ်လပဲ ရှိသေးတယ်၊ တို့နှစ်ယောက်အနက် ဟော....ဦးမြ တစ်ယောက်တော့ သေပြီ၊" (မှန်လှပါဘုရား)၊ "ဒီတော့ မင်းတို့ ငါဟောပြောဆုံးမတဲ့ တရားတွေကို ဂရုစိုက်ကြိုးစားပေတော့...."

မှန်လှပါဘုရား၊ ကပည့်တော် ကြိုးစားပါမယ်ဘုရား။

ဦးစောမောင်မှာ ဆရာတော် အမိန့်ရှိသော စကားများကို အံ့အားသင့်ကာ ဝမ်းနည်းစွာဖြင့် ဘာမျှလျှောက်ထားခြင်း မပြုမိဘဲ ဆရာတော်နောက်ပါးမှသာ လိုက်သွားရပေတော့သည်။

တော်သလင်းလဆန်းစ တစ်ရက်သော ဆွမ်းဘုဉ်းပေးပြီးချိန်တွင် ဆရာတော်ဘုရားက အမြဲတမ်း ဝေယျာဝစ္စ ပြုလုပ်ဆောင်ရွက်နေသောရက်ကန်းရုံပိုင်ရှင်ဦးဘတုတ်အား ခေါ်တော်မူ၍ဆရာတော်၏ ကောင်းမှုဖြစ်သော စစ်ကိုင်း-မန္တလေး ကားလမ်းခွဲမှ ရိပ်သာအလွန်ချောင်းထောင့်အထိ ကတ္တရာခင်း၍ ပြုပြင်ထားသောလမ်းမှာ အနည်းငယ်ပျက်စီး ချို့ယွင်းနေသဖြင့် "မောင်ဘတုတ်ငါဒီလမ်းကို ကောင်းကောင်းမွန်မွန် ထပ်ပြီးပြင်တာကို မြင်သွားချင်တယ်၊ မင်း ဂရုစိုက်ပြီး မြန်မြန်ပြီးအောင်လုပ်ပါ"ဟု အမိန့်ရှိရာ—

ဦးဘတုတ်က ဆရာတော်ဘုရားကြီး ရန်ကုန်သို့ ကြွမည်ဖြစ်၍ ရင်းလမ်းကို အမြန်ပြီးအောင် ခိုင်းသည်ဟု ထင်ကာ ဘာမှမလျှောက်ထားဘဲ လမ်းကို ဦးစောမောင်နှင့်နှစ်ယောက် တာဝန်ယူကာ ပြင်ဆင်ကြလေသည်။ ဆရာတော်ဘုရားသည် ကျန်းမာရေး အခြေအနေမှာ ယခင်နှစ်တွေကထက် ကောင်းသည်ကို တကာ တကာမ အပေါင်းက ဝမ်းမြောက်ဝမ်းသာ ရှိကြလေသည်။

ထိုရက်ပိုင်း၌ ဝန်ကြီးဟောင်း (မြန်အောင်) ဦးတင်၊ ကျားပျံ ဦးသန်းမောင်၊ ဦးပိန်ဟောက်နှင့် မိုးကုတ်မြို့မှ ဦးအောင်ကျော်တို့ အပြင် အဝေးမြို့များမှ တရား လာအားထုတ်သူများလည်း အတော်များပြားပေသည်။

၁၃၂၄—ခုနှစ်၊ သီတင်းကျွတ်လဆန်း (၁၂)ရက်နေ့ည အမရပူရမြို့ မင်္ဂလာရိပ်သာကျောင်းတွင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် ဝန်ကြီးဟောင်း(မြန်အောင်) ဦးတင်၊ ဦးပိန်ဟောက်နှင့် ဇနီး ဒေါ်ကြည်ကြည်၊ ကျောင်းအမ ဒေါ်တင်လှတို့ လေးဦးအား ပဋိစ္စသမုပ္ပါဒ် အသေးစိတ် အထူးအလုပ်ပေးတရားတော်ကို သီးသန့်ဟောကြားတော်မူခဲ့ပါသည်။

**မှတ်ချက်။** ။အဆိုပါ အထူးအလုပ်ပေးတရားတော်ကို သီးခြားတရားစာအုပ်တွင် ထည့်သွင်းဖော်ပြပါမည်။

ထိုနှစ် ဝါဆိုလဆန်းစတွင် အမရပူရမြို့ မင်္ဂလာရိပ်သာ ဦးချစ်ဆွေ ဓမ္မာရုံအတွင်း ဆရာတော်ဘုရားကြီး တရားဟောနေစဉ် ကိုယ်ရေရောဂါသည် အမျိုးသမီးတစ်ယောက်သည် တရားနာပရိသတ် အလယ်တွင်နေရာယူ၍ တရားနာကြားနေရာ တရားနာနေကြသော ပရိသတ်များသည် အနည်းငယ်မျှရွံရှာခြင်း စက်ဆုပ်ခြင်းစသည့်အပြုအမူများ မရှိကြဘဲ ပကတိ လူကောင်းတစ်ယောက် မိမိတို့အနားတွင် ထိုင်ပြီးတရားနာနေသကဲ့သို့ပင် တရားတော်ကို အမျှင်မပြတ် နာယူလျက်ရှိကြပါသည်။ အဆိုပါ အမျိုးသမီးမှာ အဖော်နှင့် လာသည် မဟုတ်၊ ဘယ်အရပ်က လာမှန်းလည်းမသိ၊ ရက်ဆက် လာရောက် တရားတော်ကို နာကြားနေပါသဖြင့် တရားပွဲအပြီးတွင် စာရေးသူက ဆရာတော်ဘုရားကြီးအား အဆိုပါ အဖြစ်အပျက်ကို လျှောက်ထားရာ ဆရာတော်ဘုရားကြီးက "အဲဒီကိုယ်ရေရောဂါသည် တကာမဟာ သူ့ရဲ့ခန္ဓာကိုယ် ဝဋ်နာကြီးအတွက် သံဝေဂတရားရလို့ တရားနာပြီး အားထုတ်နေတာ၊ တရားအဆင့်အတန်း အတော်မြင့်နေပြီ၊ သူ—မရှင်းလင်းတဲ့အချက်ရှိနေသေးလို့လာရောက်နာနေတာ၊နောက် သူလာပြီးတရားနာတော့မှာ မဟုတ်ပါဘူး" ဟု ထူးဆန်းစွာ အမိန့်ရှိပါသည်။ စာရေးသူလည်း နောက်နေ့တွင် သတိထားကြည့်မိရာ ဆရာတော်ဘုရားကြီးအမိန့်ရှိသည့်အတိုင်း အဆိုပါ အမျိုးသမီးသည် နောက်ထပ် တရားနာလာရောက်ခြင်းမရှိတော့ပါ။ သို့ပါ၍ ဆရာတော်ဘုရားကြီး၏ ဉာဏ်တော်နှင့် ကရုဏာတော်များ မည်မျှကြီးမားကြောင်း သိရှိပါတော့သည်။

ဆရာတော်ဘုရား၌ ယခင်က သေွးတိုးနှင့် ဆီးချိုရောဂါရှိဖူးရာ ဆရာတော်အား အစဉ်ကုသခဲ့သော ဆရာဝန်ကြီးများက ဆရာတော်၏ ကျန်းမာရေးကို (၇)ရက်တစ်ကြိမ်ခန့် လာရောက် စမ်းသပ်မြဲ ဖြစ်ပါသည်။ ယခုနှစ်ပိုင်းတွင် ဆရာတော်၌ ၎င်းရောဂါများမှာ ပျောက်ကင်းသလောက် အခြေအနေရှိကြောင်း ဆရာဝန်များက ပြောပြပါသည်။ ဆရာတော်ကိုယ်၌ကပင် ဆရာဝန်တစ်ဦးကဲ့သို့ မိမိခန္ဓာ၏အခြေအနေကိုကောင်းစွာသိတော်မူသည်။ဆရာတော်ဘုရားမှာ လေစိမ်းတိုက်လျှင် အခိုးငုပ်တတ်သဖြင့် မိုးကုတ် အခိုးပွင့်ဆေးကို အမြဲမှီဝဲတော်မူသည်။

တစ်ညသ၌ ဆရာတော်သည် တပည့်များ၏ ဝတ်ဖြည့်ခြင်းကို ခံတော်မူရင်း "မောင်လှဘူး ငါ့အခန်းတံခါးမှာ မြွေတစ်ကောင်ရှိတယ်၊ မင်းဖမ်းပြီး တောကင်းရာကို သွားလွှတ်ချေပါ" ဟု မိန့်တော်မူသဖြင့် ဦးလှဘူးမှာ ဖမ်းရန်သွားရာ တော်တော်နှင့် ရှာမတွေ့ပါ။ ထိုအခါဆရာတော်က "မင်း ဒီမြွေမှ မမြင်ဘူးလားကွာ၊ အဲဒီတံခါး လက်ကိုင်ကွင်းမှာရှိတယ်" ဟု မိန့်တော်မူမှ ဦးလှဘူးလည်း လက်ကိုင်ကွင်း၌ မာန်ဖီနေသော မြွေကိုမြင်၍ ဖမ်းပြီး အိုးတစ်လုံးမှာထည့်ကာ တောကင်းရာသို့ လွှတ်လိုက်ရပါကြောင်း အများ သိမြင်ကြပါသည်။

ဦးလှဘူးပြောပြသည်မှာ ၎င်းမြွေ တစ်ကိုယ်လုံး နီရဲသော မြွေပြဒါးဖြစ်၍ အလွန်ရှားပါး အဆိပ်ပြင်းထန်သည့် မြွေဆိုးဖြစ်ပါသည်၊ ၎င်းမြွေ တွေ့ရသော တံခါးမှာ အလွန်ချောပြောင်သဖြင့် မြွေများတက်နိုင်ရန် အလွန် ခဲယဉ်းလှသည့်အပြင် တံခါးလက်ကိုင်ကွင်း ကွယ်နေပါသဖြင့် လူသူအများ မြင်နိုင်စွမ်းမရှိပါ၊ ဆရာတော်ဘုရားကြီး ဝတ်ဖြည့်ခံနေသည်မှာ အခန်းဝနှင့်သိပ်မကွာလှ၊ အခန်းတွင်း ဝင်ဝံ့သူလည်း မရှိကြ၊ ဆရာတော်တစ်ပါးတည်းသာဝတ်ဖြည့်ခံခြင်းကိုစွ ပြီးပါက အခန်းတွင်း ဝင်တော်မူချိန် မြွေဆိုးနှင့် တိုးရမည်မှာ သေချာလှသည်ကို နတ်မျက်စိရသည့်အလား အကာအကွယ်များဖောက်ထွင်းမြင်နိုင်သည်ကို အလွန်အံ့သြမိပါတော့သည်။

ဆရာတော်အား ဝတ်ဖြည့်ကြသော တပည့်များ
မှာ (၅) ယောက်ရှိရာ တစ်ယောက်မှ မြေတက်နေ
သည်ကို မမြင်ကြပါ။

ဇင်း ဦးလှဘူးမှာ အမရပူရမြို့ အလယ်ပန်းတိမ်ရပ်တွင်နေထိုင်၍ ရက်ကန်းယက်သွားများ ပြုပြင် ရောင်းဝယ်ခြင်း၊ ဆေးဝါးကုသခြင်းများ ပြုလုပ်ကာ သမာအာဇီဝကောင်းသော အသက်မွေးမှုဖြင့် လုပ်ကိုင်စားသောက် နေထိုင်သူ ဖြစ်ပါသည်။

စစ်ပြီးခေတ်တွင် ဆရာတော်ဘုရားကြီး တောင်မြို့သို့ ကြွရောက်၍ ဝါကပ် သီတင်းသုံးချိန်မှစ၍ အမြဲမပြတ် ဆရာတော်ဘုရားကြီး၏ အပါးဝယ် တရားအားထုတ်ရင်း အချိန်ကို တိကျလေးစားစွာ ဆရာတော်၏ ဝတ်ကြီးဝတ်ငယ် ပြုစုနေထိုင်သူပင် ဖြစ်ပါသည်၊ ဆရာတော်ဘုရားကြီးကလည်း ဇင်းဦးလှဘူးအား အထူးငဲ့ညှာသောအားဖြင့် ပညာအရပ်ရပ် ဗဟုသုတအမျိုးမျိုးကိုပါ သင်ကြား ပြသထားသူ ဖြစ်ပါသည်။

အထူးသဖြင့် အဆိပ်ရှိသော သတ္တဝါများကို နဂိုဗီဇကပင် ကောင်းစွာနိုင်နင်းသော ပုဂ္ဂိုလ်ဖြစ်ပေသည်။ ဦးလှဘူးအား ညနေ (၆)နာရီမှ နံနက်(၆)နာရီအထိ ဆရာတော်ဘုရားကြီး၏ အထွေထွေဝတ္တရားများ ပြုလုပ်ဆောင်ရွက်ရန် အထူးတာဝန် လွှဲအပ်ပေးထားလေသည်။

ထိုကဲ့သို့ ဆရာတော်ဘုရားကြီးသည် ခန္ဓာ ဝန်ချတော်မူမည့်အကြောင်းကို ရင်းနှီးသောတပည့်တကာ–တကာမတို့အား တစ်ဝါတွင်းလုံး အရိပ်အမြွက် မိန့်ရှိခဲ့ပါသည်။ သီတင်းကျွတ်လပြည့်နေ့၌ တရားနာပရိသတ်အများအား ဒီကျောင်းပေါ်မှာ (ကဲ…တကာ–တကာမတို့ အလောင်းကောင် အသုဘကြီးတစ်ခုကို ဒီကျောင်းပေါ်မှာ မလှဲသာလို့ ထားမယ်ဆိုပါတော့၊ ဒီအသုဘကြီးထဲက ဘာတွေ ထွက်လာမလဲ) ခန္ဓာ ဝန်ချတော့မည့်အကြောင်း အတိအလင်း သပိတ်သွတ်လွတ်တရားကို ဟောကြားခဲ့ပါသည်။

■

## ၁၃၂၄-ခု သီတင်းကျွတ်လပြည့်နေ့ ဟောကြားတော်မူသော သပိတ်သွတ်လွတ် တရားတော်မှ ကောက်နုတ်ချက်

သီတင်းကျွတ်ပြီဆိုတာ လ၏ အထိမ်းအမှတ်သာ ဖြစ်တယ်၊ တကာ တကာမတွေက ဘယ်လိုများထင်နေကြပါသလဲ၊ ဝမ်းနည်းစရာပဲလား၊ ဝမ်းသာစရာပဲလားလို့ မေးရင်ဖြင့် ဩော်...သေခါနီးသွားတာပဲဟော့လို့ မှတ်ပါ၊ သီတင်းကျွတ်တာကို တကာ တကာမတွေက ဆရာသမား ကန်တော့ရလို့၊ မီးတွေထွန်းရလို့ ဝမ်းသာရတယ်ဆိုတာကတော့ ကောင်းတဲ့စေတနာတွေ အမှန်ပါပဲ၊ ခန္ဓာကတော့ သီတင်းမကျွတ်ခင် ဝါဆိုဦးကထက် ယခု သီတင်းကျွတ်က သေဖို့ရာ ပိုနီးသွားတယ်၊ သေဖို့ရာ ပိုနီးသွားတဲ့ပုဂ္ဂိုလ် တစ်ဦးတစ်ယောက်သည် မသေရာရှာဖို့ရာအလုပ်သည် ခရီးပေါက်ဖို့ အရေးကြီးတယ်။

ဒီတဝတော့ အတိတ်က ဆုတောင်းကြောင့် အတိတ်ကအဝိဇ္ဇာသင်္ခါရတွေ ကျုပ်တို့ မကျော်လွှားနိုင်ခဲ့လို့ အခုဘဝမှာ ဝိညာဏ် နာမ် ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာဆိုတဲ့ ခန္ဓာကြီးရထားတော့ ဇာတိ ဇရာ မရဏကတော့ လာရမှာပဲ၊ ထိုသို့ပင် လာရငြားသော်လည်း ဒီကက ဆုတောင်းမှား အလုပ်မှားကြောင့် သစ္စာမသိလို့ သေပွဲဝင်ရမှာ၊ သေခါနီး ဖြစ်ငြားသော်လဲ မသေရာရှာတဲ့ အလုပ်ကိုဖြင့် တွေ့ရလို့ ဝမ်းသာကြပါလို့လဲ သတိပေးလိုက်ပါတယ်။

ကဲ...ဒီနေ့ဟောတဲ့တရားက အင်္ဂုတ္တိုရ် ပါဠိတော်ကြီးမှာ ဘုရားကိုယ်တော်တိုင်ဟောလို့ သစ္စာသိပြီး သေတဲ့ ပုဂ္ဂိုလ်များမှာ ဘာမှ ပူစရာမရှိပုံ ပြန်လည်ဟောကြားခြင်းဖြစ်တယ်၊ ဘုန်းကြီးကလဲ ဒီနေ့မှလာတဲ့ ပုဂ္ဂိုလ်တွေ၊ ဒီနေ့မှကြုံတဲ့ ပုဂ္ဂိုလ်တွေ သစ္စာရှိဖို့အရေးကိုပဲ ပြန်ပြီးဟောပါမယ်၊ တကာ တကာမတို့ နောက်

ဘဝက သစ္စာလေးပါး မသိတော့ အဝိဇ္ဇာနှင့်နေခဲ့ကြတယ် သစ္စာ မသိတော့ ဗုဒ္ဓဘာသာဆိုပေမယ့် သစ္စာကိုမသိဘဲ ကုသိုလ်အလုပ်တွေလဲ လုပ်ခဲ့ကြပါတယ်ဆိုတော့ သင်္ခါရပေါ့ဗျာ၊တကာ တကာမတွေ ကုသိုလ်ရှိုးရှိုးလုပ်တာလား၊နောက်ဘဝ လူချမ်းသာ နတ်ချမ်းသာ ဖြစ်ချင်လို့ လုပ်တာလားလို့မေးရင် ဘယ့်နှယ် ဖြေပါ့မလဲ။

လူချမ်းသာ နတ်ချမ်းသာ ရချင်လို့ လုပ်ပါတယ်ဘုရား။

ဒါဖြင့် ကုသိုလ်ကံနဲ့တဏှာ ရောနေတယ်၊ ကုသိုလ်လုပ်တာက ကုသိုလ်၊ လူချမ်းသာ နတ်ချမ်းသာ ဖြစ်ချင်တာက တဏှာပေါ့ဗျာ၊ ဘယ့်နှယ် ဒီလိုရောတယ်ဆိုကတည်းက အဝိဇ္ဇာပစ္စယာ သင်္ခါရာ ဖြစ်မသွားဘူးလား၊ ဒါ ခုမှရတဲ့ ပဋိစ္စသမုပ္ပါဒ်၊ တကာတကာမတွေ နောက်ဘဝက အဝိဇ္ဇာဆိုတာ ကိလေသဝဋ်၊ သင်္ခါရကမ္မဝဋ်၊အဲဒီဝဋ် (၂)ပါးကို သစ္စာမသိဘဲနဲ့လုပ်ခဲ့တဲ့အတွက် မသိတဲ့ အဝိဇ္ဇာက ကိလေသဝဋ်၊ ကုသိုလ်ပြုပြီးသကာလ လူချမ်းသာ နတ်ချမ်းသာ ဆုတောင်းတာက ကမ္မဝဋ်၊ ဒါကြောင့် ကမ္မဝဋ်၊ကိလေသဝဋ်၊ ဒီဝဋ် တွေပြုပြီး စုံတေမနေ သေလွန်တဲ့အခါ တကာ တကာမတွေ ဝိညာဉ်ဆိုတဲ့ ပဋိသန္ဓေ ဝိညာဏ်ကို ရပါတယ်၊ ပဋိသန္ဓေဝိညာဏ်ရရင် နာမ်ရုပ် ပေါ်ရမယ်၊ နာမ်ရုပ်ပေါ်လို့ရှိရင် မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်စိတ် မပေါ်ပေဘူးလား၊ ပေါ်လာရင် ဖဿဝေဒနာ ပေါင်းလိုက်တော့ ခန္ဓာငါးပါး၊ ဒီခန္ဓာငါးပါးဟာ ဘာသစ္စာတုံး။

ဒုက္ခသစ္စာပါဘုရား။

ဒီခန္ဓာငါးပါး ဒုက္ခသစ္စာ ဘယ်အချိန်မျှား ရပါသလဲဆိုတော့ ယခု ပစ္စုပ္ပန်မှာ ယခု တရားနာနေကြတာက ဘာသစ္စာပါလိမ့်မတုံး၊

ဒုက္ခသစ္စာပါ ဘုရား။

ဟော... သူ့ကိုယ်ကပြောနေတာ၊ ဒါကြောင့် သစ္စာသိစေချင်လွန်းလို့ တိုက်တွန်းရတာကို ဘုန်းကြီးက လွန်လွန်းတယ်လို့မျှား မဆိုလိုက်ပါနဲ့၊ ကိုယ်က ကိစ္စမပြီးသေးလို့ ဒါလောက် တိုက်တွန်းတာကိုလို့ မှတ်လိုက်ပါ၊ ရှင်းပြီလား၊ (ရှင်းပါပြီဘုရား)။ ကိစ္စက လိုနေသေးလို့ တိုက်တွန်းတာပါ၊ (မှန်လှပါ)။

ဘုန်းကြီးတို့ တကာ တကာမတွေ သစ္စာသိစေချင်တာက ဒီဘဝတွင် ကိစ္စပြီးစေချင်လွန်းလို့၊ သစ္စာသိပြီး ပုဂ္ဂိုလ်ဟာ သုဂတိမှ တစ်ပါး ဘယ်မှမသွားဘူးဆိုတာပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

အဲဒါကြောင့် ငါ့သေရင် ဘာများဖြစ်အုံးမှာလဲဆိုတာ ဘယ်တော့မှ မတွေးနဲ့၊ တို့ခန္ဓာက ပေါ်သရွေ့ ဒုက္ခသစ္စာပဲဆိုတာ သိတဲ့ ပုဂ္ဂိုလ်သေရင် နတ်ရွာသုဂတိမှတစ်ပါး ဘယ်မှမသွားဘူးဆိုတာ ကေန်ဆုံးဖြတ်ချက်ချ၊ အားပေးစကားလား၊ သစ္စာသိပြီးရင် သံသရာ မလည်ဘူး ဆိုတာ သေချာတဲ့တရားလား။

သေချာတဲ့ တရားပါဘုရား။

နေရာကျပြီ၊ သည်နေ့ သီတင်းကျွတ်တဲ့အချိန်ကြီးမှာ တကာ တကာမတွေ ဉာဏ်မျက်လုံးသွင်းရတဲ့နေ့၊ လကလဲ ပြည့်မယ့်နေ့၊ မိမိတို့ ဉာဏ်ကလဲ အလင်းရတဲ့နေ့ဆိုတော့ အလင်းတွေကို ဆုံတဲ့နေ့ ကြုံတဲ့နေ့ ဆိုရင် လွဲပါ့မလား။ (မလွဲပါဘုရား)။

ကဲ.... တကာ တကာမတို့၊ အလောင်းကောင် အသုဘကြီး တစ်ခုကို ဒီကျောင်းပေါ်မှာ မလွဲသာလို့ ထားမယ်ဆိုပါတော့၊ ဒီ အသုဘကြီးထဲက ဘာတွေထွက်လာမှာလဲ မေးတဲ့အခါ နားထဲက ထွက်လဲ သုဘထွက်မလား၊ အသုဘထွက်မလား။

အသုဘပါဘုရား။

ပါးစပ် နှာခေါင်း မျက်စိကထွက်လဲ သုဘထွက်မလား၊ အသုဘထွက်မလား။ (အသုဘထွက်မှာပါဘုရား)။

နဂိုက ဘာမို့လို့ ဘာထွက်တာတုံး၊ (အသုဘမို့ အသုဘ ထွက်လာတာပါဘုရား)။

ဒီမှာလဲ ခန္ဓာကိုယ်ထဲက ဘာသစ္စာတုံး၊(ဒုက္ခသစ္စာပါဘုရား)။

ဟို အသုဘကြီးထဲက ကျင်ကြီးထွက်လာ၊ ကျင်ငယ်ထွက်လာ၊ ချွေးထွက်လာ၊ ရောင်ဖောလာ၊ ပြည်သွေးထွက်လာ၊ အသုဘမို့ အသုဘတွေ ထွက်လာတာပဲ၊ ဒီမှာလဲ တကာ တကာမတွေ ခန္ဓာကိုယ်

ထဲက လုပ်လိုက်လဲ အသုဘ၊ ထိုင်နေလဲ အသုဘ၊ ဒုက္ခသစ္စာဆိုတာ သေချာပြီလား။

သေချာပါပြီဘုရား။

ပြောတဲ့စိတ်ကလေးက ဒုက္ခသစ္စာ၊ငြိမ်နေတဲ့စိတ်ကလေးကကော (ဒုက္ခသစ္စာပါ ဘုရား)။ ကြံနေတဲ့ စိတ်ကလေးကကော။

ဒုက္ခသစ္စာပါဘုရား။

ဒီခန္ဓာကြီးဟာ ဘယ်ကာလမှာ ပေါ်သတုံး၊ (ပစ္စုပ္ပန်ကာလမှာ ပေါ်ပါတယ်ဘုရား)။

ပစ္စုပ္ပန်ကာလမှာ ပေါ်ချင်သလောက် ပေါ် ဒုက္ခသစ္စာချည်းပဲ ဆိုတာ မသေချာဘူးလား။ (သေချာပါတယ်ဘုရား)။

ဒါဖြင့် တပည့်တော်တို့ ဒုက္ခသစ္စာ မသိသေးဘူးလို့ ဆိုကြမလား၊ ပေါ်ရာကို ဒုက္ခသစ္စာလို့ သိပါပြီဆိုကြမှာလား။

ပေါ်ရာကို ဒုက္ခသစ္စာဆိုတာ သိပါပြီဘုရား။

ဒီစိတ်ကလေးကို အရေးတကြီး ပြောနေတယ်၊ ဒီသေရေးကို အရေးတကြီး ပြောနေတယ်၊ ဒီအသိနဲ့သေရင် အပါယ်မကျဘူးဆိုတာ ကလေးတစ်လုံးကို လက်ကိုင်ထားရမယ်၊ မပျင်းနဲ့၊ ဒီအသိရပြီးလို့ ရှိရင်ဖြင့် သေခြင်းဆိုး မရှိတော့ဘူး၊ သစ္စာသိတဲ့ပုဂ္ဂိုလ်အတွက် ပဋိသန္ဓေ သမုပ္ပါဒ် မရှိဘူးလား၊ ရှိသလား။

မရှိပါဘုရား။

သစ္စာသိတဲ့ ပုဂ္ဂိုလ်မှာဖြင့် (၂) ကနေ (၃) မကူးတော့ဘူး၊ တစ်ခါတည်း မဂ်ပေါ်သွားတယ်၊ သစ္စာက သစ္စာ၊ သိတာက မဂ္ဂသစ္စာ၊ မဂ္ဂသစ္စာက ဖြတ်တာ၊ အဲဒါတွေကို တကာ တကာမတွေက သေသေချာချာ ကိုယ်ပိုင်ဉာဏ်နဲ့ ကိုယ်တိုင်သိလို့ရှိရင်ဖြင့် ငါ သေကြား သော်လဲ ဆွမ်းမသွတ်နဲ့ဟေ့လို့ အိမ်မှာ မှာခဲ့ တကာကြွယ်၊ စကား ကြီးသွားတယ်လို့ ထင်သလား။

မထင်ပါ ဘုရား။

သစ္စာသိတဲ့သူ သံသရာပြတ်တယ်၊ သံသရာပြတ်တယ်ဆိုတော့ အောက် အပါယ်ပြိုတ္တာဘုံရောက်မှု ဆွမ်းသွတ်ရတယ်၊ ဆွမ်းသွတ် ရတာကိုဗျ၊ခုတော့ သစ္စာသိတဲ့ပုဂ္ဂိုလ်တွေ ဆွမ်းသွတ်စရာရှိသေးလား။

မရှိပါ ဘုရား။

အဲဒါကြောင့် ဘုန်းကြီးတို့ တကာ တကာမတွေ ကိုယ့်ကိုယ် ကိုလဲ သိအောင်လုပ်ပါ၊ သိလို့ရှိရင်လဲ အိမ်ကိုမှာခဲ့ပါ၊ ငါသေရင် ဆွမ်းမသွတ်နဲ့ဟေ့၊ (မှန်လှပါ ဘုရား)။

ဘယ်လိုမျိုး မှာရမှာပါလိမ့် (ငါသေရင် ဆွမ်းမသွတ်နဲ့ဟေ့ ပါ ဘုရား)။

တကာကြွယ် မှာရဲပါ့မလား။ (မှာရဲပါတယ် ဘုရား)။ ရဲမှ မရဲ သေးရင် သစ္စာမသိသေးလို့၊ မသိသေးရင် ပြိုတ္တာဖြစ်နိုင်သေးတယ်၊ အဲဒီလိုမှ မရဲသေးလို့ရှိရင် မသိ သိအောင်လုပ်ပါ ဆိုတာကိုလဲ ဒုတိယ တိုက်တွန်းရပါတယ်။

တကာ—တကာမတို့ ခန္ဓာကိုယ်ထဲက ဘာပေါ်ပေါ် ဘာသစ္စာ တုံး (ဒုက္ခသစ္စာပါဘုရား)။ ဒုက္ခသစ္စာဆိုတော့ သိတာက မဂ္ဂသစ္စာ၊ သေတာက သမုဒယသစ္စာ၊ နောက်ခန္ဓာ မလာတာက ဒုက္ခနိရောဓ သစ္စာ၊ ရှင်းပြီလား၊ (ရှင်းပါပြီဘုရား)။

အရှုခံရတာက ဘာသစ္စာ( ဒုက္ခသစ္စာပါဘုရား)။

ဒီခန္ဓာကြီး ခန္ဓာငါးပါးက လာတာတွေ ရှုနေတော့ ဘာ သစ္စာလဲ၊ (ဒုက္ခသစ္စာပါဘုရား)။

ရှုတဲ့ဉာဏ်ကလေးကော(မဂ္ဂသစ္စာပါဘုရား)။

ဒါဖြင့် သမုဒယသေမလား၊ သမုဒယသေတော့ နောက်ခန္ဓာ လာသေးလား၊ (မလာပါဘုရား)။

နောက်ခန္ဓာ မလာတာက ဒုက္ခနိရောဓသစ္စာ၊ ဒုက္ခချုပ်တဲ့ သစ္စာ၊ ဒါဖြင့် တကာ—တကာမတို့ ရှုတတ်ကြပြီလား၊ (ရှုတတ်ပါ ပြီ ဘုရား)။

ဘယ်အချိန် ရှုရမှာလဲ မေးမနေနဲ့၊ခန္ဓာက ပြတဲ့အချိန် ရှုလိုက်၊ ရှင်းပြီလား၊ ဒါကြောင့် တကာ—တကာမတွေ မသေရဲသေးဘူးလား။

သေရဲပါပြီဘုရား။

ဒါကြောင့် ဘုန်းကြီးက ဘာတရားဟောတုံးလို့ မေးရင် မန္တလေးပြန်မယ့် ပုဂ္ဂိုလ်ကဖြစ်စေ ကိုယ့်အရပ်ကိုပြန်တဲ့ ပုဂ္ဂိုလ်ကဖြစ်စေ ကိုယ့်အိမ်ပြန်မယ့် ပုဂ္ဂိုလ်ကဖြစ်စေ၊ တို့သပိတ်သွတ်လွတ်တရား ဟောလို့ ပြောလိုက်စမ်းပါ၊ (မှန်လှပါဘုရား)။ ဘာတရားဟောပါလိမ့်(သပိတ်သွတ်လွတ် တရားပါဘုရား)။

သပိတ်သွတ်ဆိုတာ သစ္စာမသိတဲ့ ပုဂ္ဂိုလ်သေမှ ပြိတ္တာဖြစ်မှ ရှင်းပြီလား၊ (ရှင်းပါပြီဘုရား)။

ဒါဖြင့် တကာ—တကာမတွေ ငါသေရင် သပိတ်မသွတ်နဲ့လို့ မှာရဲပြီလား၊ (မှာရဲပါပြီဘုရား)။

မှာဖြစ်အောင်မှာပါ၊ သေမှ အရှက်ကွဲမခံပါနဲ့၊ ဩော်.... ငါ့အဖေသေသွားပြီ၊ ငါ့အမေသေသွားပြီ၊ ခုအခါ ပြိတ္တာများ ဖြစ်နေမလား မပြောတတ်ဘူး၊ သပိတ်ကလေးတစ်လုံးတော့ သွတ်ကြအုံးစို့၊ သပိတ်သွတ်တဲ့ပုဂ္ဂိုလ်၏ ရည်ရွယ်ချက်က စိတ်ချရလို့ သွတ်တာလား၊ စိတ်မချရလို့ သွတ်တာလား။

စိတ်မချလို့ သွတ်တာပါဘုရား။

ဒါဖြင့် သေတဲ့သူက စိတ်ချရပါ့ရက်နဲ့ ကျန်ရစ်တဲ့သူက အရှက်ခွဲတော့ သေတဲ့သူ မနာဘူးလား၊ (နာပါတယ်ဘုရား)။ ဒါဖြင့် တကာကြွယ် အရှက်ခွဲခံအုံးမလား၊ မခံချင်ပါနဲ့တော့၊ ဘယ့်နှယ် မှာခဲ့မှာလဲ (ငါသေရင် သပိတ်မသွတ်နဲ့တော့လို့ မှာခဲ့မှာ ပါ ဘုရား)။

ဒါဖြင့် ဒီနေ့ ဘာတရား ဟောပါလိမ့်၊ (သပိတ်သွတ်လွတ် တရား ဟောပါတယ်ဘုရား)။ သစ္စာသိရင် သပိတ်သွတ်လွတ် ပါတယ်။

ကဲ....ဒီနေ့ ဒီတွင် တော်ကြစို့။



## ၁၃၂၄—ခု၊ သီတင်းကျွတ်လပြည့်ကျော် (၁)ရက်နေ့ ကျောင်းအမ ဒေါ်တင်လှနှင့် ယောဂီများအား ဟောကြားတော်မူသော တရားတော်

တကာ-တကာမတို့ စီးပွားဥစ္စာတွေက ကိုယ်ရှာထားတာ၊ ကြေးကုန်သည်ဖြစ်ရင် ကြေးကုန်ပေါ့၊ ငွေဖြစ်ငွေ၊ ရွှေဖြစ်ရွှေ၊ကား ဖြစ်ကား၊ စိန်ဖြစ်စိန်၊ မတင်လှတို့က ခန္ဓာငါးပါးက ရှာထားတဲ့ ပစ္စည်းဥစ္စာတွေနဲ့ သားတွေ သမီးတွေအားလုံးပေါ့၊ ဒါတွေနဲ့ပြည့်စုံ နေတဲ့ပုဂ္ဂိုလ်ကို ဘုရားက ဘာနဲ့တူသလဲဆိုရင် ကျီးတစ်ကောင် အမဲ သားတစ် ရထားတာနဲ့တူတယ်လို့ ဟောတယ်၊ ကျီးကန်းဆိုတာ တိရစ္ဆာန်ပဲ၊တိရစ္ဆာန်ဖြစ်ပြီးသကာလနေတော့သားတစ်ကိုဟိုကျီးက်လဲ အချင်၊ဒီကျီးကလဲစားချင်တော့ အမဲသားတစ်ရထားတဲ့ကျီး နောက် ် အကုန်ပုံလိုက်ကြပြီး ထိုးကြ, ဆိတ်ကြ,ဆွဲကြ လုပ်ကြတယ်၊ဒီကျီး ာ နဂိုက အထိုးခံရတာလား, ခုသားတစ်ရမှ အထိုးခံရတာလား ့မေးရင် ဘယ်လိုဖြေကြမလဲ။

သားတစ်ရမှ အထိုးခံရတာပါဘုရား။

ဪ....သားတစ်ရမှ သူ့ခမျာ အထိုးခံရတာ၊ နဂိုကတော့ ဖော်ချင်းပဲ၊ ဘယ်လောက်ထိအောင် အထိုး, အဆိတ်, ခံရလဲဆို တော့ ပါးစပ်ထဲက သားတစ် ပြုတ်ကျလောက်အောင်, နာအောင် င်အောင် နှုတ်သီးနဲ့ထိုးဆိတ်လိုက်၊ အတောင်နဲ့ရိုက်လိုက်နဲ့ ပြုတ်ကျ ာင်လုကြတာ၊ သားတစ်ရထားတဲ့ကျီးဟာ ဘယ်ပြီး အထိုးအဆိတ် ပါက်လား၊ နဂိုက ဒီလိုပဲ အထိုး အဆိတ်ခံရသလား၊သားတစ်၏ းရည်သတ္တိကြောင့် အထိုး အဆိတ် ခံရတာလား၊ (သားတစ်၏ ၍ သတ္တိကြောင့်ပါဘုရား၊) သဘော ပါပြီလား, (ပါပါပြီ ား)။

သားတစ်ကို လွှတ်ပစ်လိုက်တော့ ဒီကျီး အထိုး အဆိတ်ခံရ အုံးမှာလား၊ (မခံရပါဘုရား)။ ဒီကျီးကိုတော့ မထိုးကြတော့ဘူး၊ သားတစ်ရသွားတဲ့ နောက်ကျီးကိုပဲ ဝိုင်းလိုက်ကြပြီး ထိုးကြ ဆိတ်ကြ ပြန်တယ်၊ ပထမကျီး အထိုး အဆိတ် ခံရ သေးသလား။

မခံရပါ ဘုရား။

ဒါဖြင့် ကံမကောင်း အကြောင်းမသင့်လို့ အထိုး အဆိတ် ခံရတာလား၊ သားတစ်ကြောင့် အထိုးအဆိတ်ခံရတာလား လို့မေးဖို့ လိုလာတယ်၊ ပေါ်ပြီလား (ပေါ်ပါပြီဘုရား)။

သားတစ် လွှတ်ပစ်လိုက်တဲ့အခါကျတော့ ဒိဋ္ဌိမှ လွတ်သွားတယ်၊ မလွတ်ဘူးလား၊ (လွတ်ပါတယ် ဘုရား။) ဘာဖြစ်လို့ လွတ်သွားတာလဲ သားတစ်မရှိလို့၊ ဒီအတိုင်းပဲ ဖြေရုံပဲ။

မှန်လှပါဘုရား။

မင်းတို့က ကိုယ့်ကိုယ်ကို ခင်နေတာလဲ သားတစ်ကို ချီထားတာပဲ၊ ပစ္စည်း ဥစ္စာတွေ ခင်နေတာလဲ ချီထားတာပဲ၊သား–လင်–ခင်ပွန်းနဲ့တိုက်တွေ တာတွေခင်နေတာကော (ချီထားတာပါဘုရား။)

ဒါကြောင့် အစိုးရက ပေးပါအိမ်ခွန်၊ ပေးပါအမြတ်တော်ကြေးဆိုတော့ ထိုးပြီမဟုတ်လား၊မထိုးဘူးလား။

ထိုးပါတယ်ဘုရား။

သူခိုး ဓားပြကကော ချောင်းပြီးမလစ်နဲ့ လစ်ရင် လူသတ် ပစ္စည်းယူမယ်ဆိုတဲ့ အစိုပ္ပာယ်များကော မရှိဘူးလား။

ရှိပါတယ်ဘုရား။

ဒါ မင်းတို့ကမလွှတ်နိုင်ရင် သေရမှာပဲ၊ သဘောပါရဲ့လား၊

ပါပါတယ်ဘုရား။

တချို့ သေခါနီးတောင်မှ အမြတ်တော်ကြေးက ဝါရမ်း ကပ်အုံးတော့မလိုလို လာသေးတယ်၊ ဒါ ဘာဖြစ်လို့လဲဆိုတော့ မင်းတို့က နဂိုက လွှတ်မပစ်လို့ မင်းတို့ကလဲ ငါ့ဟာလေး ငါ့ဟာလေးဆိုတဲ့ သက္ကာယဒိဋ္ဌိနဲ့ ချီထားတာကို၊ငါ့ဟာတော့ မပေးနိုင်ဘူး၊အစိုးရ

အပေါ် ငါတော့ဖြင့် ဘယ်လိုလိမ်ရမယ်၊ ဘယ်လိုကောက်ရမယ်၊ ဘယ်လိုငွေထိုးရမလဲ၊ ငါ့ရှိတာတော့ မပေးနိုင်ဘူး၊ သူများလောက်တော့ မပေးနိုင်ဘူးလို့ မလာဘူးလား၊ (လာပါတယ်ဘုရား။)

မင်းတို့က ကိုက်ထားတာကို့ အဲဒီလိုကိုက်ထားတော့ ဝိုင်းပြီး ထိုးဆိတ်ကြအုံးမှာပဲ၊ မထိုးပေဘူးလား။

ထိုးမှာပါဘုရား။

မင်းတို့က ဘယ်ဘက်ကနေသတုံးလို့မေးရင် အထိုးခံရတဲ့ဘက်ကချည်း နေကြရတယ်၊ မင်းတို့ ဘာဖြစ်လို့ အထိုးခံရတဲ့ဘက်ကချည်း နေရသလဲဆိုတော့ သားတစ်နဲ့တူတဲ့ ပစ္စည်းတွေကို ကိုင်ထားလို့ပဲ၊ ငါ့ဟာ ငါ့ဟာနဲ့ ငါ့ဟာတော့ အထိမခံနိုင်ဘူးဆိုပြီး၊ တင်လှ ဒီအတိုင်းပဲ မနေဘူးလား။

နေပါတယ်ဘုရား။

အဲဒီတော့ မင်းဆိုး၊ သူခိုး ရန်သူမျိုး ၅ ပါး အမွေအနှစ်လိုချင်တဲ့ပုဂ္ဂိုလ်တွေက လာလာပြီး ထိုးကြ ဆိတ်ကြလို့ မင်းတို့ စိတ်မချမ်းသာတာတွေက မများကြဘူးလား။

များပါတယ်ဘုရား။

ဘာကြောင့်များရသတုံးဆိုတော့ သားတစ် ချီထားလို့ပေါ့၊ ရိပ်မိပြီလား၊(ရိပ်မိပါပြီဘုရား)။ တင်လှ ဘာ့ကြောင့်လဲ။

ချီထားလို့ပါ ဘုရား။

ဩော်....မင်းတို့ စက္ကူသည်တွေဟာ ဆိုင်ကလေးကြီးလာတော့ ဟိုကမလို၊ ဒီကမလို ထိုးကြ ဆိတ်ကြ မခံရဘူးလား။

ခံရပါတယ်ဘုရား။

မတရားသဖြင့် လိုင်စင်တွေ ယူထားတယ်ဆိုပြီး အစိုးရထံ သွားရှို့တယ်၊ မင်းတို့က ချီထားတာကို။ နှုတ်သီးနဲ့ဆိတ်၊ အတောင်နဲ့ရိုက်ဆိုတော့ မင်းတို့ အတော်ခံရပြီ မဟုတ်လား။

မှန်လှပါဘုရား။

ဘာဖြစ်လို့ ခံနေရသလဲ၊ ကံမကောင်း အကြောင်းမသင့်လို့လား၊ ကိုယ်က ချီထားတာတွေ လွှတ်မပစ်လို့လား။

လွှတ်မပစ်လို့ပါဘုရား။

ဒါဖြင့် ကံနဲ့ ဘာဆိုင်သတုံးကွ၊ ဗေဒင် မေးစရာလိုသေးသလား။ (မလိုပါဘုရား။)

နို့ပေမယ့် မင်းတို့က ဗေဒင်မေးချင်သေးတယ်၊ ကံမျှားခေထင်ပါရဲ့၊ ဘာဟုတ်မလဲ၊ ဒါတွေ လွှတ်ပစ်လိုက်စမ်းပါလား၊တစ်ဆိုင်လုံးကို လေလံပစ်ပြီး လွှတ်ပစ်လိုက်စမ်းပါလား၊ သိသိသာသာအစိုးရကို ကြေငြာပြီး လေလံသာပစ်ချလိုက်ပါလား၊ ဘယ်ဆိုင်နီးချင်ကမှမျက်စောင်းထိုးမှာမဟုတ်ဘူး၊ ထိုးပါအုံးမလား၊ (မထိုးပါဘုရား)။

အစိုးရကလဲ အလုပ်လက်မဲ့ဖြစ်သွားပြီဆိုပြီး နို့တစ်လာလှရင်နောက်ထပ် ၂ နှစ်ပေါ့၊ ၃ နှစ်ကျရင် ဒီနို့တစ်မလာတော့ဘူး၊ ဒေါ်ခနဲ့ ရိပ်မိပြီးလား။ (ရိပ်မိပါပြီ ဘုရား။)

ဘယ်လို ရိပ်မိသလဲ၊ မလွှတ်နိုင်တာနဲ့ အထိုးအဆိတ် ခံနေရတယ်၊ တစ်ခါတလေကျတော့ အောင့်မျှား ခံနေရတာရှိသေးတယ်၊ ကိုယ်က ကွန့်လိုက်ပြန်တော့လဲ ဒီထက် အမှုကြီးသွားမှာ စိုးရပြန်တယ်၊မင်းတို့ ဖြစ်ထွေ လေ ထိုးပေမယ့် ပြန်ထိုးရဲသလားဆိုတော့ မထိုးရဲဘူး၊ သူတို့နဲ့ကျုပ်နဲ့ မတူဘူး၊ တော်တော်ကြာ ကျုပ်က အလုံးအခဲပျက်သွားမှာဆိုပြီး လွှတ်တော့လဲ မလွှတ်ဘူး၊ မင်းတို့ကပေပြီး အထိုးအဆိတ် ခံနေတယ်၊ ဒီကျီးတော့ သေပါလိမ့်မယ်၊ ဒါဖြင့် ဒီကျီးဟာ အသေခံ မိုက်တယ်ဆိုရင် လွဲပါ့မလား။ (မလွဲပါဘုရား။)

ဒါဖြင့် မောင်ကျော်သိန်း၊ တင်လှတို့ အခု မင်းတို့နေတဲ့ အချိန်ဟာဖြင့် အသေခံ မိုက်နေတာပဲ၊ ဆိုင်နီးချင်းကလဲ မုန်းလိုက်တာ၊ ကိုယ် ကြည့်ရှုထားတဲ့ လူတွေကလဲ ချီးကြ ဖဲ့ကြပေါ့၊ မရှိဘူးလား။ (ရှိပါတယ်ဘုရား။)

ရှိပေမယ့် မင်းတို့ကလဲ ငါ့ဟာတော့မလွှက်ဘူး၊ဘယ်လောက် ထိုးထိုး ဘယ်လောက်ဆိတ်ဆိတ်၊ဘယ်လောက်ဆွဲဆွဲအသေခံမိုက်တယ်၊ သဘောကျရဲ့လား။ (ကျပါတယ်ဘုရား)။

အသေခံမိုက်တာကို ကိုယ့်ဟာကိုယ်တော့ မသိဘူး၊ ကိုယ်က လူတစ်လုံးလုပ်နေတာလို့ မင်းတို့ ထင်နေသေးတာကိုး၊ အသေခံမိုက် တယ်လို့ မသိဘူး၊ လူ့ပုံအလယ်မှာ ဆိုင်ကြီးကနားကြီးပိုင်ရှင်အနေနဲ့ နေရတာ ဂုဏ်ရှိတယ်လို့ ထင်တယ်၊ အထိုးခံရတာလဲ လွန်နေပြီ၊ ဟင် အမြတ်တော်ကြေးက ထိုးလိုက်၊ ဥပစာခွန်က ထိုးယိုက်၊ အင်(မ်)ပို့ အိတ်(စ်)ပို့မှ ရတာနဲ့ မလုံလောက်တော့ အမျိုးမျိုးအဖုံဖုံ အဆင့်ဆင့် အညှဉ်းခံရတာလဲ မနည်းဘူး၊ မထိုးကြဘူးလား။

ထိုးကြပါတယ်ဘုရား။

ဒါနဲ့တောင် မင်းတို့ကလဲ ဒီကုန်တော့ မရောင်းတော့ဘူး လွှတ်ပစ်လိုက်မယ်၊ တော်ပါပြီ တန်ပါပြီ၊ လွှတ်ရာလွှတ်ကြောင်း လုပ်ပါတော့မယ်လို့ မလာဘူးလား လာရဲ့လား၊(မလာပါဘုရား)။

ဒါလေးနဲ့ အနာ ကြီးပွားနေတယ်၊ ဒီအခါပြောယ်မရောက်ဘူး လား။ (ရောက်ပါတယ်ဘုရား။)

ဒါလေးနဲ့ ကြီးပွားနေတယ် မဟုတ်ဘူး၊ ကြီးပွားနေတာက အနာကြီးပွားနေတာ ရိမိပြီလား၊ (ရိပ်မိပါပြီဘုရား။)

ဘာကြီးပွားနေတာလဲ၊ (အနာ ကြီးပွားနေတာပါ ဘုရား။) ဒါဖြင့် ဘယ်နေ့များ လောဘ ဒေါသ မောဟကင်းပြီး စိတ်ချမ်းသာ သက်ချမ်းသာနဲ့ အသက်မှန်မှန် ရှူရတဲ့ နေ့များ ပါသေးသလားလို့ မေးကြည့်ရင်, (မပါပါဘုရား။)

ဟိုက အကြွေးယူသွားတာနဲ့ အပြေးလိုက်ပြီး တောင်းရတာလဲ တစ်မျိုး၊ မပြေးရဘူးလား၊ (ပြေးရပါတယ်ဘုရား။)

ကိုယ့်ဈေးဆိုင်မှာ ရောင်းတဲ့သူတွေကလဲ မတရားသဖြင့် သူ့ ာတ်ဆွေ သင်္ဂဟတွေကို ခိုးထည့်ပေးလိုက်မှာစိုးလို့ မျက်စိက ရှင်လိုက်

ရတာက တစ်မျိုး၊ အမျိုးမျိုးအဖုံဖုံနဲ့ မင်းတို့ဟာကလဲ ရှုပ်နေတာပဲ၊ ကိုယ့်ခန္ဓာမှာ ကြောက်ရတာကလဲ တစ်မျိုး၊ ရောင်းတဲ့ပစ္စည်း လူမြင်မှာကြောက်ရတာက တစ်မျိုး၊ ညထုတ်ရတာနဲ့ သည်လောက် ထိအောင် မင်းတို့ကလဲ မိုက်နေတဲ့ အဓိပ္ပာယ်ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

ဒါ ဘာကြောင့် စိုးရိမ်ကြောင့်ကြ ဗျာပါဒတွေနဲ့ နေရသလဲ ဆိုတော့ ကိုယ့်ခန္ဓာနဲ့ ရှာဖွေရရှိထားတဲ့ ပစ္စည်းတွေကို မလွှတ်ချင် လို့ပဲ၊ သားတစ်နဲ့ကျီးဟာ ထိုးဆိတ်ခံရတာနဲ့ သူ့ပါးစပ်ထဲက သား တစ်ကို စွန့်လွှတ်ပစ်လိုက်လို့ အခြားကျီးတစ်ကောင် ရသွားတော့ သားတစ်ရသွားတဲ့ ကျီးကို တခြားကျီးတွေက ဝိုင်းလာပြီး ထိုးကြ ဆိတ်ကြတာ မြင်ဖူးတယ် မဟုတ်လား၊ (မြင်ဖူးပါတယ် ဘုရား။) မင်းတို့လဲ ဒီအတိုင်းပဲ သဘောပေါက်ကြရဲ့လား၊ (ပါပါတယ်ဘုရား။)

ဒါကြောင့် ငါးပါးအာရုံ ကာမဂုဏ်ဆိုတဲ့ ဥစ္စာတွေကို မင်းတို့ သိမ်းပိုက်ထားတာ ကျီးကန်းသားတစ်ရတာနဲ့ အတူတူပဲ၊ ဆွေမျိုး တွေက အစ သူတို့ ဒီလောက် ဆိုင်ကြီး ကနားကြီးနဲ့ နေတာတောင်မှ တို့ဘက်ကို တစ်ပြားတစ်ချပ်မှမကျပါဘူး၊ ဆွေမျိုးတွေကလဲ့ ထိုးရက် ပဲ၊ မထိုးဘူးလား။

ထိုးပါတယ်ဘုရား။

ကိုယ်နဲ့ တန်းတူတွေကလဲ ဒီကောင် ဘယ်တော့ ပြုတ်ပါ့မလဲ ဆိုပြီးတော့ ထိုးရက်ပဲ၊ဘယ်အချိန်လွှတ်သလဲလို့ မေးရင် ဘယ်အချိန်မှ မလွှတ်ဘူးလို့ ဖြေရုံပဲ၊ ကိုယ့် ခန္ဓာခင်မှု စွန့်လွှတ်လိုက်၊ ပစ္စည်းခင် မှုလဲ စွန့်လွှတ်လိုက်၊ ကဲ—ဖြစ်ချင်သလိုသာ ဖြစ်ပေတော့၊ ဒါတွေဟာ အထိုး အဆိတ် ခံရတာပဲဆိုပြီးသကာလ သုမေဓာ ရှင်ရသေ့တို့ငို့ ပစ္စည်းတွေလူဒါန်းပြီး တောထွက်လိုက်လို့ ရှိရင် ဘယ်သူက လိုက်ထိုး အုံးမှာလဲ။

မထိုးပါဘုရား။

ဒါလောက်ထိအောင်လဲ မင်းတို့ကမရဲဘူး၊ ဘာဖြစ်လို့ မ တာလဲ ထိုး ဆိတ် ခံချင်သေးလို့ပေါ့၊ ဒေါ်ခန့် သားကထိုးဆိ

သမီးက ထိုးဆိတ်, အရပ်က ထိုးဆိတ်နဲ့ ထိုးဆိတ်ခံ မနေရဘူးလား သဘောပါရဲ့လား၊ (ပါပါတယ်ဘုရား။)

ယုတ်စွအဆုံး အလှခံကစပြီး ကိုယ့်အတန်းစားနဲ့ကိုယ် မထည့်ရင် ထိုးသွားကြသေးတာပဲ၊ လွတ်တဲ့နေရာများ ရှိသေးသလား။

မရှိပါဘုရား။

မသာ သွားကူဘာတောင် ၁၀ိ တန်တဲ့လူက ၅ ကျရင် စာရင်းတောင် မရေးချင်ဘူး၊ ထိုးလိုက်သေးတာပဲ၊ ဘယ်အချိန်များ လွတ်သေးတုံး၊ ဘယ်အချိန်မှ မလွတ်ဘူး၊ ဟိုက မျက်စောင်းထိုး, ဒီက မျက်စောင်းထိုး, ဟိုက မကောင်းကြံ, ဒီက မကောင်းကြံ၊ ဒါတွေဟာ ထိုးတာ ဆိတ်တာချည်းပဲလို့ မှတ်ရမယ်၊ အထိုးအဆိတ် ခံရတာဟာ ကိုယ်ရထားတာတွေ မလွှတ်နိုင်တဲ့ သတ္တိပဲ၊ ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

ကျီးဟာ သားတစ်ကို မလွှတ်မချင်း ဝိုင်းပြီး အထိုးအဆိတ် ခံနေရတာ သက်သာရဲ့လား၊ (မသက်သာပါဘုရား။)

မင်းတို့ကော ဘာလုပ်နေကြသလဲ၊ မသက်သာတဲ့နည်းကို လိုက်နေရတယ်၊ အမယ်လေး မင်းတို့က သက်သာချင်လို့ စီးပွားရှာနေတာဆို၊ သက်သာချင်လို့ စီးပွားရှာနေတာ သက်သာတာနဲ့ တွေ့နေသလား, မသက်သာတာနဲ့ တွေ့နေသလား။

မသက်သာတာနဲ့ တွေ့နေပါတယ်ဘုရား။

ဒါကို မရိပ်မိဘူး, မင်းတို့မျက်စိက အတော် လည်နေတယ်၊ ဒါတွေမှီတွယ်နေရင် သက္ကာယဒိဋ္ဌိဖြစ်ပြီး သေသည့်အခြားမဲ့ အပါယ်ကျအုံးမယ်၊ ကျချင် ကျပစေ, လွှတ်ဖို့ရာ အရေးတော့ မြင်ကိုမမြင်ဘူး၊ ပေါ်ပြီလား၊ (ပေါ်ပါပြီဘုရား။)

သားတစ်ရဟာဟာ စားဖို့ရတာလား, အထိုးအဆိတ်ခံဖို့ရတာလား၊ အဲဒါသာ စဉ်းစားကြည့်ပါ၊ လွှတ်ပစ်လိုက်ရင် ဘာဖြစ်မယ်ထင်သလဲ, သက်သာရုံတင်မကဘူး အထိုးအဆိတ်ခံနေရာမှ လိုး၀ ငြ္ပဲ သွားမယ်။

ကမ္ဘာကြီး စစ်တိုက်နေတာလဲ ပစ္စည်းလုနေတာပဲ၊ သဘော ကျပြီလား၊ (ကျပါပြီဘုရား။)

အမေရိကန်မှာ ရွှေတွေ သွားစုနေတယ်ဆိုတော့ အများက ဝိုင်းလုဖို့ရန် ကြံနေတာပဲ၊ တို့ဆင်းရဲသားဝါဒနဲ့သာ တိုက်လိုက်ရရင် ဒီရွှေတွေ အကုန်လုံးရမှာပဲ၊ အမေကန်ကလဲ မလွှတ်နိုင်ဘူး၊ မလွှတ်နိုင်တော့ ငါ့မှာ အက်တောမစ် ရှိတယ်, ဒုံးပျံရှိတယ်နဲ့ သူကလဲ အမြဲ အော်နေတာပဲ၊ ဒါဟာ လွှတ်ချင်လို့ အော်တာလား၊ မလွှတ်ချင်လို့ အော်တာလား၊ နောက်ဆုံးပိတ် ကမ္ဘာတစ်ဝှမ်းလုံးက ဝိုင်းပြီး သူ့ ရွှေတွေကို လုမယ်ဆိုလို့ရှိရင် သူတတ်နိုင်ပါ့မလား။ (မထတ်နိုင်ပါ ဘုရား။) မတတ်နိုင်ပေမယ့် လွှတ်မှာမဟုတ်ဘူး, အသေသာခံမှာ၊ ရိပ်မိပြီလား။

ရိပ်မိပါပြီဘုရား။

ဒါဖြင့် ကိုယ့်ခန္ဓာဆိုတဲ့ အာရုံတွေ၊ သား လင် ခင်ပွန်းနဲ့ ပစ္စည်းအာရုံတွေဟာ အမဲသားတစ်နဲ့ မတူဘူးလား။

တူပါတယ်ဘုရား။

ဒါကြောင့် ဘုရားသခင် ကိုယ်တော်မြတ်ကြီးက ခန္ဓာရှိရင် ဒီပစ္စည်းတွေလဲရှိရမယ်၊ ဒီပစ္စည်းတွေရှိရင် ဒီလို အထိုးအဆိတ် ခံရမယ်လို့ ဟောတယ်၊ နတ်ပြည်ကျပြန်တော့လဲ နတ်ချမ်းသာကို နတ်ဆင်းရဲတွေက တိုက်ရက်ပဲ၊ မတတ်သာလို့ကြည့်နေရတာ၊ ဗြဟ္မာ့ပြည် ကျပြန်တော့လဲ တစ်ဦးနဲ့တစ်ဦး အဆင်းအရောင်အဝါတွေ မတူလို့ ဝိုင်းပြီး ထိုးဆိတ်ရက်ပဲ၊ မတတ်သာလို့ လျှော့နေရတာ၊ အဲဒီမှာတော့ ကန်နဲ့နေရတယ်၊ ဉာဏ်နဲ့ဝီရိယနဲ့ နေရတဲ့လူ့ပြည်ကျတော့ ဘာပြောစရာ ရှိတော့မလဲ၊ ကန်နဲ့နေတဲ့သူတွေတောင်မှ အထိုးအဆိတ် ခံရသေးတာ မင်းတို့ဉာဏ်နဲ့ ဝီရိယနဲ့ ရှာထားတာဆိုတော့ သာပြီး အထိုးအဆိတ် ခံ မှာပဲ၊ သဘောကျပြီလား။ (ကျပါပြီဘုရား။)

ဒါတွေကို လွှတ်ပစ်လိုက်ရင် ချမ်းသာမယ်ဆိုတာ မသိဘေး မင်းတို့က ဒီအထုပ်ကြီးတွေ ချီပြီးသကာလ စစ်အတွင်းက ပြေးလိုက်

ရတာ ဘယ်ဆီ ချီသွားရမတုံးဆိုပြီးတော့ အင်းဝဘက်မျှား ချိပြေး လိုက်သေးတယ်၊ ရိပ်မိပြီလား။ (ရိပ်မိပါပြီဘုရား။)

မင်းတို့က ပါးကို မပါးဘူး၊ ဘယ်တော့ ပါးမှာလဲလို့မေးရင် ဒီလို ဆရာကောင်း သမားကောင်းနဲ့ မတွေ့ရင် ပါးစရာအကွက်ကို မလာဘူး၊ ပြီးတော့ မင်းတို့က ဒါတွေရှိမှ ချမ်းသာတယ်ဆိုတဲ့ အကြံမှ ဉာဏ်မှဲ့ကလဲ လာသေးတယ်၊ ဒါတွေမရှိမှ ချမ်းသာတာ၊ ဒါတွေ မရှိတော့ အိမ်အပြင်ဘက် ထွက်အိပ်လိုက်အုံး၊ လေညင်းခံပြီးအိပ်လဲ ဘာပူတုံး၊ အခုတော့ ခြင်ထောင်ထဲ ချွေးတဒီးဒီးနဲ့ အခန်းတံခါးတွေ လုံအောင် ပိတ်ထားရတယ်ဆိုတော့ ချမ်းသာရဲ့လား။

မချမ်းသာပါ ဘုရား။

မချမ်းသာပေမယ့်လဲ မင်းတို့ကို တဏှာက ချော့ထားတော့ ဘာ.... ဘယ့်နှယ်လုပ်မလဲ၊ ဒါတွေရှိမှ ချမ်းသာတယ်လို့ သူ (တဏှာ) ပြောတာကို မင်းတို့က ဦးတိုက်ပြီး ယုံကြည်နေတာကိုး၊ မင်းက ငါ ပြောတာကို ယုံတာ မဟုတ်ဘူး၊ ရွှေရှိမှ ချမ်းသာတယ်၊ ငွေရှိမှ ချမ်းသာတယ်လို့ တဏှာပြောတာ ယုံနေတယ်၊ မယုံဘူးလား။ (ယုံပါတယ် ဘုရား။)

စစ်အတွင်းက ဗုံးတွေကလဲ နောက်က ကြဲရက်၊ နောက်က စစ်ကလဲ တိုက်ရက်၊ ကိုယ်ကလဲ သားတစ်ကြီးကို မလွှတ်နိုင်လို့ချီရက်၊ အမယ်လေး အရှုံးကျလိုက်တဲ့ဖြစ်ခြင်း ပြောစရာ ရှိသေးသလား၊ ဟော့ တင်လှ ကိုယ်တိုင်တွေ့ခဲ့တာမှ ဟုတ်ကဲ့လား။

ဟုတ်ပါတယ်ဘုရား။

ကိုယ်တိုင်တွေ့ခဲ့တာ၊ ဟင် ဗုံးကြဲလေယာဉ်ပျံတွေ လာတယ်ဆို ...င်ဖြင့် လူ့အတွက် ဂရုမစိုက်နိုင်ဘူး၊ဟိုပစ္စည်းထားတဲ့ နေရာကိုပဲ ဂရု ...က်နေရတာ၊ လွှတ်မှလွှတ်ပါ့မလား၊ မလွှတ်ဘဲမျှားနေမလား၊ ...ါတွေကို ... သချိ ကာလပတ်လုံး ကြောင့်ကြပူ၊ သောကပူ၊ ...းရိမ်ပူ၊ ဗျာပါဒပူ အကုန် မလာပေဘူးလား၊ လာမလား။ (လာ ...ပါဘုရား။)

ဒါဖြင့် မင်းတို့ သူ့ကိုကိုက်မိလို့ ပူနေရတာ၊ သူ့လွှတ်လိုက်ရင်တော့ အေးသွားမယ်၊ အခု မင်းတို့က အေးချင်လို့ လုပ်တယ်ဆို၊ အေးချင်လို့ လုပ်ရင် လွှတ်ပစ်ရမယ်၊ ကိုက်မထားရဘူး၊ မင်းတို့က ကိုက်ထားမှ အေးတယ်လို့ ထင်တယ်၊ ကိုက်ထားရင် ငါပြောတဲ့ ရန်တွေ မာန်တွေက ဝိုင်းမလာဘူးလား။

လာမှာပါဘုရား။

ဝိုင်းလာရင် အန္တရာယ်ကင်းမယ် ထင်သေးသလား၊ (မထင်ပါဘုရား။) ဒေါ်ခန့် ရိပ်မိပြီလား၊ (ရိပ်မိပါပြီဘုရား။)

အင်း.... တော်တော်ခက်ပါသေးတယ်၊ မျက်စိကလဲ သိပ်လည်နေသေးတယ်၊ လွှတ်ပစ်ရင် ချမ်းသာမယ်၊ ကိုက်ထားရင် အများရဲ့အထိုးအဆိတ် ခံရမယ်၊ အမှန်ပြောလိုက်တော့ မင်းတို့က ဖြုန်းခနဲသဘောမပေါက်ဘူး၊ ဘယ်နှယ် ပြောနေပါသလဲလို့ မင်းတို့က အောက်မေ့ချင် အောက်မေ့နေမှာ မလွဲဘူး၊ ဘယ်နှယ်မှ ပြောတာမဟုတ်ဘူး၊ ငါပြောတာ အမှန်ပြောနေတယ်၊ လွှတ်လိုက်ရင် ချမ်းသာတယ်ဆိုတာ မမှန်ဘူးလား။

မှန်ပါတယ်ဘုရား။

မလွှတ်ဘဲနဲ့ စွဲလမ်းပြီး သေသွားရင် ငြိတွာဘုံကို မသွားဘူးသား၊ (သွားမှာပါဘုရား။)

ငရဲဘုံကိုကော မသွားဘူးလား။ (သွားမှာပါဘုရား။)

လွှတ်ပြီး သူနဲ့ သေခန်း ရှင်ခန်းပြတ်ပြီး သေတဲ့ပုဂ္ဂိုလ်ကျတော့ အစွဲဥပါဒါန်မရှိလို့ "ဥပါဒါန ပစ္စယာ ကမ္မဘဝေါ" လို့ လာသေးသလား။ (မလာပါဘုရား။)

ကမ္မဘဝ ပစ္စယာ ဇာတိကော လာသေးရဲ့လား။ (မလာပါဘုရား။) သူ့ပါဠိတော်နဲ့ ကိုက်မနေဘူးလား။

ကိုက်နေပါတယ် ဘုရား။

လွှတ်ပစ်တဲ့ ပုဂ္ဂိုလ်ကျတော့ ရှင်းပြီး မနေဘူးလား။

နေပါတယ်ဘုရား။

ဒါဖြင့် တင်လှတို့ အိပ်နေလို့တော့ မဖြစ်တော့ဘူး၊ ဒါလုပ်ရလိမ့်မယ်၊ မလွှတ်လို့ရှိရင်ဖြင့် ဝိုင်းပြီး ထိုးကြ ဆိတ်ကြအုံးမှာ သေချာတယ်၊ မင်းတို့နှစ်ယောက် သက်တမ်းကုန်လို့ သေကြရင် ခွေးမျိုးတွေ၊ အို–ဘာမှမတော်စပ်တဲ့ ပုဂ္ဂိုလ်တွေရော ဝိုင်းပြီး လုလိုက်မယ် ဖြစ်ခြင်း မြင်သေးပေါ့၊ မလုကြပေဘူးလား။

လုကြမှာပါဘုရား။

ဘာဖြစ်လို့လဲဆိုတော့ မင်းတို့က အထိုး အဆိတ်ခံလို့ သေရပြီး ကျန်တဲ့ ပုဂ္ဂိုလ်ကလဲ အထိုး အဆိတ် ခံချင် သေးလို့ လုပြန်တာပဲ၊ သားတစ်ကိုက်ထားတဲ့ကျီးကို ဝိုင်းပြီး ထိုးကြ ဆိတ်ကြတော့ မခံနိုင်လို့ လွှတ်ချလိုက်တယ်။ နောက်ကျီးက ငါတော်ပြီဆိုပြီး ကိုက်ပြန်တော့ တခြားကျီးတွေက ဝိုင်းပြီးထိုးကြ ဆိတ်ကြပြန်တာပဲ၊ ဘယ်သူများ စားရသေးသလဲ၊ နောက်ဆုံးပိတ် လုကြရင်းနဲ့ သားတစ်ရေထဲကျသွားတော့မှ အကုန်လက်လျှော့ကြရတာပဲ၊ ချုံထဲကျလို့ရှိရင် လိုက်လုကြအုံးမှာ၊ ရေထဲကျတော့မှ သူတို့က အတောင်နဲ့သတ္တဝါတွေမို့ မငုပ်နိုင်၊ မကူးနိုင်၊ ဒီတော့မှ အကုန် အန္တရာယ်ကင်းသွားကြတယ်၊ နို့မို့ရင်ဖြင့် ဒီကျီးကလွှတ် ဟိုကျီးကရ၊ ရတဲ့အကောင်ကို လိုက်ပြီး ဝိုင်းထိုးကြ ဆိတ်ကြပြန်တယ်၊ အဲဒီတော့ မင်းတို့ စီးပွား ရှာနေတဲ့ပုဂ္ဂိုလ်ဟာ ချမ်းသာချင်လို့လား၊ အထိုး အဆိတ် ခံချင်လို့လား၊ (အထိုး အဆိတ် ခံချင်လို့ပါဘုရား။)

အထိုး အဆိတ် ခံရတာ၊ မင်းတို့ ကိုယ်တွေ့ကြုံရတာများပြီလား။ (များပါပြီဘုရား။)

အစိုးရက ထိုးလိုက်၊ သူခိုးဓားပြက ထိုးလိုက်၊ အမြတ်တော်ကြေးက ထိုးလိုက်နဲ့ အမျိုးမျိုးအဖုံဖုံ ထိုးလိုက်ကြတဲ့ ဖြစ်ခြင်း သဘောကျရဲ့လား။ (ကျပါပြီဘုရား။)

စားရတဲ့အချိန်နဲ့ အထိုးအဆိတ်ခံရတဲ့အချိန် ဘယ်အချိန်က များသလဲဆိုရင် အထိုးအဆိတ် ခံရတဲ့အချိန်က များတယ်၊ ဒါဖြင့် စားရတဲ့အရသာက ပြောပလောက်အောင် ရှိရဲ့လား။

မရှိပါဘုရား။

မရှိပေမယ့် မင်းတို့ ဒအရသာကလေးကို တစ်စက်နှစ်စက် စာကလေးက နှိပ်စက်နေတာ, မင်းတို့ သာယာနေတာကို ငါဘယ်လို ပြောချင်သလဲဆိုတော့ သင်တုန်းဓား အသွားပေါ်မှာ ပျားရည် ကလေးသုတ်ထားတာ မသိလို့ သွားလျက်လိုက်တော့ လျှာပြတ်ခံ တယ်၊ ချိုတာနဲ့ လျှာပြတ်တာနဲ့ ဘယ်သူကဒုက္ခများသတုံး၊ (လျှ ပြတ်တာက ဒုက္ခများပါတယ် ဘုရား။)

ကဲ....မင်းတို့က ဒီလိုဖြစ်နေတယ်၊ စားရတာက နည်းနည်း အထိုးအဆိတ်ခံရတာက များများ၊ သို့သော် မင်းတို့က ဒါကို မရိပ်မိ ဘူး၊ မင်းတို့ဟာ ခန္ဓာနဲ့ပစ္စည်းတွေကို မရအရ ဆုတောင်းပြီး ဆောင်းထားတာ၊ ဟော–ဒီခန္ဓာကြီးက ဆုတောင်းလို့ရတာ၊ ဟောဒီ ပစ္စည်းတွေကလဲ စုဆောင်းပြီးကြိုးကုတ်အားထုတ်လို့ရတာပဲ၊ သဘော ကျပြီလား၊ (ကျပါပြီဘုရား။)

ဒီတော့ ဆုတောင်းလို့ရတာရယ်, အားထုတ်လို့ ရတာရယ်၊ ဆုတောင်းလို့ရတာလဲ မစွန့်နိုင်, အားထုတ်လို့ရတာလဲ မစွန့်နိုင် ဆိုလို့ရှိရင်ဖြင့် တစ်သံသရာလုံးမှာ မင်းတို့ ဘယ်တော့မှ အန္တရာ ကင်းလို့ ဘေးရှင်းမှာမဟုတ်ဘူး၊ နတ် နတ်ချင်းလဲတိုက်မှာပဲ၊ လူချင်းလဲ တိုက်မှာပဲ၊ တိရစ္ဆာန် တိရစ္ဆာန်ချင်းလဲ တိုက်မှ နောက်ဆုံးပိတ် ဒါတွေကို မစွန့်ပစ်ခဲ့ရင် သူတို့က အပါယ် ၄– ကျအောင် တွန်းပို့လိုက်အုံးမယ်၊ ရှင်းပြီလား၊ (ရှင်းပါပြီဘုရာ

ဒါဖြင့် စွန့်ပစ်ဆိုတာက သူတစ်ပါးကို ဝေပေးရမှာလ ဘုရား, ဉာဏ်ထဲကငါ့ကိုယ်မဟုတ်ကြောင်း၊ ငါ့ပစ္စည်းမဟုတ်ကြေ သိရမှာလားလို့ မေးခဲ့ရင် မင်းတို့ပိုင်ပစ္စည်းတွေကို ဉာဏ်နဲ့သာ ပစ်ထားရမယ်၊ ဒါတွေကို မဂ္ဂင်နဲ့ အနိစ္စမြင်အောင်ကြည့်၊ အနိစ္စ အောင် ကိုယ်ခန္ဓာကိုလဲကြည့်၊ ပစ္စည်းတွေကိုလဲကြည့်ရမယ်၊ကြည့်

အနိစ္စမြင်လာတဲ့အခါကျတော့၊ ဩော်....ငါ့ခန္ဓာကိုယ်နဲ့တကွ ပစ္စည်းတွေဟာ မမြဲပါကလားလို့ဆိုပြီး အရင်ကလို ခင်မင်မှုကောရှိသေးသလား။

မရှိပါဘုရား။

မမြဲမှန်းသိတော့ လိုချင်မှုကောရှိသေးရဲ့လား၊ (မရှိပါဘုရား။) ရုန်သူမှန်းသိတော့ ကပ်ချင်သေးရဲ့လား။

မကပ်ချင်ပါဘုရား။

ဒါကြောင့် ဒီခန္ဓာနဲ့ ဒီပစ္စည်းတွေကို ဝိပဿနာရှုပေးလို့ ပြောနေတာ၊ ရှင်းပြီလား၊ (ရှင်းပါပြီ ဘုရား။)

ဘာလုပ်ရမှာလဲ၊ (ဝိပဿနာရှုပေးရမှာပါဘုရား။)

ဝိပဿနာရှုပေးတော့ သူက ပင်ကိုယ်က အနိစ္စမို့ သူအနိစ္စသဘောပဲ ပြောပါလိမ့်မယ်၊ နဂိုရှိတာ နဂိုကျားထွက်မှာပေါ့။ အဲဒီအနိစ္စကို နိစ္စထင်ပြီး ချီထားတာ၊ နိစ္စထင်ပြီး တဏှာနဲ့ ပါးစပ်ထဲက မလွှတ်တာ၊ ဒီလိုဖြစ်နေတာကို ဆရာဘုန်းကြီးက မှန်တာပြောမယ်၊ ဒါတွေကို အနိစ္စမမြင်သရွေ့ ကာလပတ်လုံး မင်းတို့ဟာ အထိုးအဆိတ်ခံရမယ့်ဘဝက ဘယ်တော့မှ မလွတ်နိုင်ဘူး။

ဒါတွေကို ဖြစ်တယ် ပျက်တယ်, အနိစ္စတရားတွေပဲ၊ ငါ့ကိုယ် ငါ့ဟာ ငါ့ဉစ္စာ မဟုတ်ဘူးဆိုတဲ့ အနတ္တတွေလို့ ပါးစပ်နဲ့ပြောရုံနဲ့ မရဘူး၊ သူ့ဟာသူပြောတဲ့ အပြောကိုမြင်မှ ခန္ဓာငါးပါးကပြောတဲ့ အပြော၊ ပစ္စည်းကပြောတဲ့အပြော၊သူတို့က ဖျတ်ခနဲ ဖျတ်ခနဲ အနတ္တပြောလိမ့်မယ်၊ သဘောကျပြီလား။

ကျပါပြီဘုရား။

သူတို့ပြောတဲ့အပြောကိုမင်းတို့ကဒီကဉာဏ်နဲ့တွေ့တော့မှ၊ဩော် လိုချင်စရာ ရချင်စရာ မရှိပါကလား၊ အနိစ္စတရားတွေ ဖက်ထားလို့ ပါလကား‌ပေါ့၊ ဘယ်သူကမှ မဒေဖးဘဲနဲ့ သူက အနိစ္စလို့ပြောတာ

ကို ဉာဏ်ကမြင်လာရင် မင်းတို့က သူ့ကို စွဲလမ်းချင်တဲ့ သဘော၊ နှုတ်သီးနဲ့ ကိုက်ထားချင်တဲ့သဘော ရှိသေးသလား။

မရှိပါဘုရား။

ဒါဖြင့် ဉာဏ်ဝင်လိုက်ရုံ ရှိတာပဲ၊ ဒီဉာဏ်ကလေး မဝင်နိုင်လို့ ဆရာဘုန်းကြီးက တရားပေးနေတာ၊ ဘုရားပွင့်လာတာကော၊ (ဒီ ဉာဏ် မဝင်နိုင်လို့ပါဘုရား။)

ဉာဏ်သွင်းပေးတာ သဘောကျပြီလား၊ (ကျပါပြီဘုရား။) မင်းတို့က ဒီဉာဏ်မှ မသွင်းနိုင်ဘူးဆိုရင် ခုတင်က ပြောသလို အနေ ဆိုး အသေဆိုးပဲဖြစ်မယ်၊ အနေဆိုးကသူများအထိုးအဆိတ်ခံနေရတာ၊ အသေဆိုးက ဒါတွေစွဲလမ်းပြီး ပြိတ္တာဘုံ၊ တိရစ္ဆာန်ဘုံ၊ ငရဲဘုံတို့ကို သွားရအုံးမယ်၊ သဘောကျရဲ့လား။

ကျပါပြီဘုရား။

ငါပြောတာ မင်းတို့ နားမထောင်ဘဲ ဉာဏ်နဲ့ သူတို့ကို အနိစ္စ သဘော၊ ဒုက္ခသဘော၊ အနတ္တသဘောလို့ မင်းတို့မရှုကြတော့ဘူး လို့ ဆိုရင်ဖြင့် ခုတင်ကပြောတဲ့ အနေဆိုး အသေဆိုးဟာ ကိုယ်ပိုင် ပစ္စည်းပဲလို့ မှတ်ပါ၊ တစ်ခါတလေ မင်းတို့က သူ့ မလွှတ်ချင်လို့ သမင်းများအငတ်ခံပြီးသကာလ ရှာတဲ့အခါ ပါသေးတယ်၊ သူက အငတ်ခိုင်းတာ မဟုတ်ဘူးလား။

ဟုတ်ပါတယ်ဘုရား။

အငိုခိုင်းတာကော သူက အငိုခိုင်းတာမဟုတ်ဘူးလား၊ (ဟုတ် ပါတယ်ဘုရား။) အငိုခိုင်းတာသူပဲ၊ အပြုံးခိုင်းတာကော၊ (သူပါပဲ ဘုရား။)

သူက အပြုံးခိုင်းတယ်ဆိုတော့ ကိုယ့်ကိစ္စပြီးလို့ ပြုံးတာလား၊ သူက အရူးလုပ်တာလား၊ (အရူးလုပ်တာပါဘုရား။)

စက္ကူက စိန်ကလေးဖြစ်လာရင် ပြုံးပြီ၊ ကားကလေးဖြစ်လာ ရင်ပြုံးပြီ ပြီးရော၊သူပြုံးဆို ပြုံးတယ်၊သူမဲ့ဆို မဲ့ရတယ်၊မင်းတို့သဘော

ကို လုံးဝမပါဘူး၊ ဒီစိန်က ခုသာ ပြုံးနိုင်တာ၊ ဖျတ်ဆို ၂၀၀ဝိ-ဈေး ကနေပြီး ၁၅၀ဝိ-ဈေး ကျသွားရင် မဲ့ပြီ၊ စိန်ကမဲ့ခိုင်းလို့ မဲ့လိုက်ရ တာပဲ၊ ပြုံးလိုက်ဆိုရင်လဲ ပြုံးလိုက်ရတာပဲ၊ ဒါဖြင့် မင်းတို့ဟာ ပြုံး တုန်းကလဲအရူးပြုံး မဲ့တော့လဲအရူးမဲ့ပဲ၊ဒီဇာတ်ကြီးပဲခင်းနေကြတယ်၊ ဒါ မလွတ်နိုင်လို့ ဖြစ်ရတာ၊ လွတ်နိုင်ရင် ဒီဥစ္စာဖြစ်ဖို့လိုသေးသလား။

(မလိုပါဘုရား။)

ဒါဖြင့် ဘယ်နှယ်လုပ်ကြမလဲ၊ လွတ်ပစ်ရမယ်၊ ဉာဏ်နဲ့လွတ်ပစ် ရမယ်၊ ဒါတွေဟာ အနိစ္စတွေပါလား၊ ဒုက္ခတွေပါလား၊ အနတ္တ တွေပါလား၊ သူ့ကိုကပြောတဲ့ အနိစ္စ၊ သူ့ကိုကပြောတဲ့ ဒုက္ခ၊ သူ့ ကိုကပြောတဲ့ အနတ္တကို ကိုယ့်ဉာဏ်ထဲမှာ ဆက်တိုက်ရှင်းသွားလို့ရှိရင် မင်းတို့ ဘယ်သူမှ ဒီပစ္စည်းတွေကို မပေးဘဲနဲ့လဲ ငါ့ဟာလဲမဟုတ်ဘူး ဆိုတာ သိမယ်၊ ငါ့ဟာမဟုတ်မှန်း သိနေတော့ဟာ မီးလောင်သွား လည်း မတုန်လှုပ်တော့ဘူး။

အစိုးရက ဘဏ္ဍာတော်အဖြစ် သိမ်းသွားလဲ မချောက်ချား တော့ဘူး၊ ဟ.... အခုမှ အထိုးအဆိတ်လွတ်တာပဲ မဟုတ်လား။

ဟုတ်ပါတယ်ဘုရား။

မင်းတို့ကလဲ ဒီရောက်အောင် ဉာဏ်ကလဲ မလှည့်နိုင်ဘူး၊ ဘာ လှည့်နိုင်မလဲ၊ ဒီပစ္စည်းကို တဏှာကနေပြီး ခင်လိုက်တော့ ဥပါဒါန်က တစ်ခါတည်း မျိုထားတယ်၊ တဏှာက ခင်တယ်၊ ဥပါဒါန်က မလွှတ် နိုင်ဘဲ မျိုထားတယ်။

ဒီလို ခင်ရင်း စွဲလမ်းရင်းနဲ့ပဲ သေသွားမယ်ဆိုရင် ပစ္စုပ္ပန်လဲ အနေဆိုးပဲ၊ သေတော့ကော အသေဆိုးပဲ၊ အဲဒါ ဉာဏ်မဝင်ရင် ဒီ အတိုင်း သွားမယ်၊ ဉာဏ်ဝင်လို့ရှိရင်ဖြင့် သိပ်ပြီးအဖိုးတန်မှာပဲ၊ ဒါ တွေဟာ အနိစ္စတွေပဲ၊ ဒုက္ခတွေပဲ၊ အနတ္တတွေပဲလို့ တစ်ခုခုမြင်အောင် ရှုပေးပါ၊ ရှုလိုက်လို့ရှိရင်ဖြင့် မင်းတို့ရှုတဲ့ဉာဏ်ထဲမှာ ငါလဲမဟုတ် ပါလား၊ ငါ့ဥစ္စာလဲ မဟုတ်ပါလား၊ အနိစ္စတရား၊ ဒုက္ခတရား၊ အနတ္တတရားလို့သာ ပိုင်ပိုင်နိုင်နိုင် သိလိမ့်မယ်၊ မသိပေဘူးလား။

သိပါတယ်ဘုရား။

သိတဲ့အခါကျလို့ရှိရင် မုန်းမလာပေဘူးလား၊ (မုန်းပါတယ် ဘုရား။) မုန်းလာတဲ့အခါကျတော့ ဆက်ရှုပါ၊ ရှုရင်းမတ်တတ်နဲ့ ဆုံးလာလိမ့်မယ်၊ ရှာကိုမတွေ့ဘူး၊ ရှုရင်းမတ်တတ်နဲ့ အကုန်ပျောက် သွားမယ်၊ ဘာတွေပျောက်သွားသလဲဆိုတော့ ဒုက္ခရောက်မှာတွေ ပျောက်သွားမယ်၊ ဒုက္ခရောက်မှာတွေ ပျောက်သွားရင် ဪ.... အခု ချမ်းသာပေတော့တယ်ဆိုပြီး ဒီဉာဏ်က ဒုက္ခရောက်တာတွေ မရှိတော့ ဘူး ဆိုတာ မသိပေဘူးလား၊(သိပါတယ်ဘုရား။)ဒုက္ခရောက်တာတွေ မရှိတာ နိဗ္ဗာန်၊ သိတာက မဂ်ဉာဏ် ဖြစ်လာတယ်၊ ရိပ်မိပြီလား (ရိပ်မိ ပါပြီ ဘုရား)။

ကဲ... ဗိတွင် တော်ကြစို့။

သာဓု သာဓု သာဓု။

**မှတ်ချက်။** အထက်ပါ တရားတော်ကို ၁၇-၁၂-၆၀ ခုနှစ်၊ တစ်ကြိမ်၊ ၁၄-၁၀-၆၂ ည ကျောင်းအမကြီး ဒေါ် တင်လှနှင့် တကွ ယောဂီများအား အထူးသီးသန့် ဟော ခြင်း ဖြစ်ပါသည်။

## ၁၃၂၄–ခု၊ သီတင်းကျွတ်လပြည့်ကျော် (၃)ရက်နေ့ ဦးချစ်လှ–ဒေါ်သောင်းတို့၏ သား ရှင်ပြုနှင့် (၄) ရက်နေ့ ကထိန်အလှူအတွက် လပြည့်ကျော် (၂) ရက်နေ့ (၁၂) နာရီတွင် ဟောကြားသော အကြွေးရစက်ချ တရားတော်

တကာ တကာမတို့ အလှူပေးတဲ့ဥစ္စာ အလှူခံပုဂ္ဂိုလ် လက်တွင်းသို့ ကိုယ့်ပစ္စည်းရောက်သွားတာပဲလို့ဆိုရင် လွဲတယ်၊ ဟာ.... အလှူပေးတာပဲဘုရား၊ လှူဖွယ်ပစ္စည်းတွေကတော့ သူများလက်ထဲ ရောက်မှာပေါ့၊ တပည့်တော်တို့ တစ်သက်လုံးက ဒီလိုပဲ နားလည်ထားပါတယ် ဘုရား ဆိုပြီး မင်းတို့က စောဒကတက်ရင် တက်စရာပေါ့၊ ဘုရားသခင်ကိုယ်တော်မြတ်ကြီး သာဝတ္ထိပြည် ဇေတဝန်ကျောင်းမှာ သီတင်းသုံးပြီးသကာလ နေတော်မူတဲ့အခါ နတ်တွေက စုရုံးလာရောက်ပြီး အလှူပေးတယ်ဆိုတာ တခြားလားအောက်မေ့စရာယ်ဘုရား၊ တပည့်တော်တို့ ရလိုက်တာလို့ သူတို့ရဲ့ ကိုယ်တွေ့တွေကို လျှောက်ထားကြတယ်၊ ဒီတော့ အလှူပေးတဲ့ဥစ္စာ သူများရသွားတယ်ဆိုတာ လွဲတယ်၊ ကိုယ်ရလိုက်တာပဲလို့ ဦးတင်တို့ ဦးသန့်မောင်တို့က မှတ်ရမယ်၊ အလှူပေးတာ သူများလက်ထဲ ရောက်သွားတာမဟုတ်ဘူး၊ ကိုယ်ရလိုက်တာလို့ အားလုံး တရားနာပရိသတ်နဲ့တကွ မောင်ချစ်လှ–မသောင်းတို့ တကာမကြီးတို့ သေသေချာချာ မှတ်ရမယ်၊ ဒိပြင် ဥပမာအားဖြင့် ဘယ်လိုမြင်လိုက်သလဲလို့ ဆိုရင် အိမ်တစ်အိမ် မီးလောင်နေတာကို ရပ်ကြည့်နေလို့ ရှိရင် အိမ်နဲ့အတူ အိမ်ပေါ်ကပစ္စည်းတွေဟာ ပြောင်သွားလိမ့်မယ်၊ ရသလောက် မီးထဲကဆွဲပြီးသကာလ မီးကင်းတဲ့နေရာ မီးမလောင်သေးတဲ့နေရာကို သယ်ယူလိုက်မယ်ဆိုလို့ ရှိရင်ဖြင့် မီးထဲ ပါသွားနိုင်ပါအုံးမှာလား၊ (မပါနိုင်ပါ ဘုရား။)

မီးလောင်တာကို ရပ်ကြည့်နေရင်တော့ မရတော့ဘူး၊ သယ်ယူနိုင်သလောက် သယ်ယူလို့ ရှိရင်ဖြင့် ထိုက်တန်သလောက် ရလိုက်

တယ် ဆိုရမယ်၊ အဲဒီ သယ်ယူလို့ရတဲ့ပစ္စည်းဟာ ဘယ်သူပိုင်ပါလိမ့် မလဲလို့မေးရင်ဖြင့် အို....ကိုယ်ဆွဲထုတ်လို့ ကိုယ်ရလိုက်တာကိုယ်ပိုင်တာ ပေါ့လို့ဆိုရင် အမှန်ပဲလို့ ဆုံးဖြတ်ချက်ချရမယ်၊ မချထိုက်ဘူးလား (ချထိုက်ပါတယ် ဘုရား။)

ဒီမှာလဲ့ ထိုနည်းအတူပဲ၊ မောင်ချစ်လှတို့ မသောင်းတို့ တကာ မကြီးတို့ မှတ်ရမယ်၊ မှတ်ရမယ့် ခန္ဓာကိုယ်ကြီးဟာ ဇာတိမီး၊ ဇရာမီး၊ မရဏမီးတွေက လောင်နေတယ်၊ ဇရာမီးကလဲ နေ့တိုင်း အိုအောင် လောင်နေတယ်၊ မရဏမီးကလဲ နေ့တိုင်း သေအောင် လောင်နေတယ်၊ မင်းတွေ စိုးတွေ သူခိုးတွေက အဲဒီဥစ္စာတွေကို ချိန်ရွယ်ပြီးသကာလ မလစ်နဲ့ လစ်ရင်ယူမယ်ဆိုပြီး စောင့်နေကြတာပဲ၊ ရေ, မီး, မင်း, ခိုးသူ, မချစ်မနှစ်သက်သောသူတွေ ရာဇတော၀ါ, စောရတော၀ါ ဆိုတဲ့ မီးတွေကလဲ လောင်လျက်ပဲ၊ အဲဒီလို ခန္ဓာကိုယ်ကြီးကလဲ မီး လောင်ခံနေရပြီး ပစ္စည်းတွေကိုလဲ ရန်သူမျိုး (၅)ပါးက ယူသွား ဆောင်သွား လောင်သွားသလို ဖြစ်ပြီးသကာလနေတော့ ဒီအထဲက နေပြီး တို့သားလေး ရှင်ပြုမယ်၊ သံဃာ ၂၀၀ ကျော်ကိုလဲ သင်္ကန်း တွေ, ထီးတွေ, ဖိနပ်တွေ, ခြင်ထောင်တွေ, မျက်နှာသုတ်ပ၀ါတွေ လှူမယ်ဆိုတော့ မီးလောင်နေတဲ့အထဲက ကိုယ့်ဖို့ရအောင် ဆွဲထုတ်လိုက် တာပဲ၊ ဦးအောင်ဇံ၀ေ၊ ဦးတင်၊ ဦးသန်းမောင်တို့ပဲ စဉ်းစားကြည့်ကြ စမ်းပါ၊ ခန္ဓာကြီးကလဲ မီးလောင်၊ ပစ္စည်းတွေကလဲ မီးလောင် နေသည့် အထဲက မီးမလောင်တဲ့နေရာကို အလှူရှင်ကမှ ဆွဲမထုတ်လို့ ရှိရင်ဖြင့် ဒီဥစ္စာ အို—နာ သေထဲလဲ ပါသွားမှာပဲ၊ ရန်သူမျိုး (၅) ပါးထဲကော (ပါသွားမှာပါ ဘုရား။)

ပါသွားတော့ ဒါဟာ အိမ်မီးလောင်နေတာကို ရပ်ကြည့်နေတဲ့ ပုဂ္ဂိုလ်နဲ့ တူတယ်၊ အခုတော့ဖြင့် ဒါနကို ပြုတယ်ဆိုတာ မီးမလောင်တဲ့ နေရာကို ပို့ထားတာ ဖြစ်လေတော့ ကိုယ်က ဆွဲထုတ်လိုက်တဲ့အတွက် မီးမလောင်တဲ့ ပစ္စည်းတွေဟာ မီးထဲက ဆွဲထုတ်တဲ့ပုဂ္ဂိုလ်၏ ပစ္စည်း ဆိုတာ လွဲပါ့မလား။

မလွဲပါဘုရား။

ဒါဖြင့် မောင်ချစ်လှတို့၊ မသောင်းတို့၊ တကာမကြီးတို့ ယခု ဘာလုပ်တဲ့ နေ့လဲလို့ မေးတဲ့အခါကျတော့ တပည့်တော်တို့ ဘုရား၊ ဆရာသမား ပြောထားလို့ ခန္ဓာကြီးကလဲ မီးလောင်နေမှန်း သိတာနဲ့ ပစ္စည်းတွေကလဲ ရေ-မီး-မင်း-ခိုးသူ-မချစ်မနှစ်သက်သောသူ တည်းဟူသော မီးလောင်နေမှန်း သိသည့်အတွက် ဒါတပည့်တော်တို့ဖြင့် မီးထဲက ဆွဲထုတ်လိုက်တာမို့ ကိုယ်တိုင် ဆွဲထုတ်တဲ့ နေ့ပဲလို့ ဆိုလို့ ရှိရင် မလွဲဘူးလို့ ဆုံးဖြတ်ချက်ချပါ၊ မောင်ချစ်လှ-မသောင်းတို့ မှတ်မိရဲ့လား။

မှတ်မိပါပြီဘုရား။

ဒါကြောင့် အလှူပေးတာ သူများ ရတာလားလို့ နဂိုက မေးခဲ့ပါတယ်၊ သူများလက်ထဲ ရောက်သွားတာလား၊ ကိုယ့်မီးထဲက ဆွဲထုတ်လို့ ကိုယ်ရလိုက်တာလား။

ကိုယ် ရလိုက်တာပါဘုရား။

အဲဒါ တကာ, တကာမတွေ ရှေးထုံး ရှေးနည်းတွေနဲ့ အလှူပေးတယ်ဆိုရင် ထိုက်တန်သလောက်တော့ဖြင့် ကုန်သွားတာပဲလို့ ပြောဆိုနေကြတယ်၊ ဘယ်လောက် ကုန်သွားသလဲလို့ လဲ မေးတတ်ကြတယ်၊ အဲဒါလဲ ပါတယ်၊ နောင်ကို ခင်ဗျားတို့ ပညာမျက်စိ တပ်ပြီး မင်းအလှူ ဘယ်လောက် ရလိုက်သလဲလို့ မေးရမှာ၊ မင်းတို့က ပစ္စည်း ဘယ်လောက် ကုန်သွားသလဲလို့ ကန့်လန့် မေးချင်မေးနေအုံးမှာ၊ ဒီလိုမေးလို့ ရှိရင်ဖြင့် မီးလောင်ခံတဲ့ဘက်က မေးတာနဲ့ တူတယ်၊ သယ်ယူတဲ့ဘက်က မေးတာနဲ့ မတူဘူး၊ တူသေးရဲ့လား။

မတူပါဘုရား။

အဲဒါကို ဉာဏ်နဲ့ စဉ်းစားကြည့်တော့မှ ဪ.... မီးလောင်တဲ့ အထဲက ဆွဲထုတ်တဲ့ဥစ္စာ သူဆွဲထုတ်လို့ သာ သူရတာပဲ၊ ခန္ဓာကိုယ်ကြီး ကလဲ အို-နာ-သေဘေးနဲ့ မီးလောင်နေတယ်၊ လောဘ, ဒေါသ, မောဟ, သောက, ပရိဒေဝ, ဒုက္ခ, ဒေါမနဿ, ဥပါယာသ စသော တစ်ဆယ့်တစ်ပါးသော မီးကလဲ ခန္ဓာကိုယ်ကြီး လောင်နေတယ်၊

ပစ္စည်းတွေကလဲ ရေ-မီး-မင်း-ခိုးသူ-မချစ် မနှစ်သက်သော သူတို့က လောင်ပြီးသကာလ နေကြတာပဲ၊ ဒီအထဲကမှ တို့သားလေး ရှင်ပြုပြီး ကထိန် ခင်းကျင်းအုံးမှပဲဆိုပြီးသကာလ အလှူပွဲကြီးကိုမဖြစ်ဖြစ်အောင် ဆွဲထုတ်ယူလိုက်ကြတာပဲ၊ ဒီလိုမှ ဆွဲမထုတ်လို့ရှိရင်ဖြင့် ခန္ဓာကလဲ မီးလောင်ပြီး ကုန်၊ ပစ္စည်းတွေကလဲ မီးလောင်ပြီး ကုန်မှာမို့ ဦးတင်တို့ ဦးသန်းမောင်တို့ ရလိုက်ပါအုံးမလား။ (မရလိုက်ပါဘုရား။)

ဒါဖြင့် ဒီအလှူ ဘယ်လောက် ရလိုက်သတုံးလို့ မေးရမလား၊ ဒီအလှူ ဘယ်လောက် ကုန်သွားသတုံးလို့ မေးရမလား၊ ဦးတင်ပဲ တရားသူကြီးလုပ်ပြီး ဆုံးဖြတ်စမ်းပါ။

ဘယ်လောက် ရလိုက်သတုံးလို့ မေးရမှာပါဘုရား။

လောဘမီး၊ ဒေါသမီး စသည်တို့နဲ့ပဲ စားသုံးပစ်လိုက်လဲ ကုန်သွားမှာပဲ၊ မကုန်ဘူးလား။ (ကုန်မှာပါဘုရား။)

တစ်နည်းအားဖြင့် အမြတ်တော်ကြေးက အများကြီးချမယ် ဆိုရင်လဲ မင်း ဆိုတဲ့ ရာဇတော၀ါမီးလောင်တာနဲ့ ကုန်မသွားဘူးလား။

ကုန်သွားပါတယ်ဘုရား။

အဲဒီလို ကုန်မှာသိနေတော့ မီးလောင်တဲ့အထဲက ဆွဲမထုတ်ဘူး လို့ဆိုရင်ဖြင့် ဦးသန်းမောင် ကိုယ်ပိုင်ရလိုက်စရာ မြင်သေးရဲ့လား။

မမြင်ပါဘုရား။

ဒါဖြင့် ယနေ့ သံဃာ အပါး ၂၀၀ ကျော်အား လှူဒါန်းမည့် သင်္ကန်းတွေ၊ ထီးတွေ၊ ဖိနပ်တွေ၊ ခြင်ထောင်တွေ၊ မျက်နှာသုတ် ပ၀ါတွေနဲ့ သီလရှင်များလဲ ထိုက်တန်သလောက် လှူပြီးသကာလ နက်ဖြန် သီတင်းကျွတ်လပြည့်ကျော် ၄ ရက်တွင် လှူကြ တန်းကြ ပေးကြ ကမ်းကြမည့် အလှူပွဲကြီးမှာ အလှူခံ ပုဂ္ဂိုလ်များမှာတော့ လှူဖွယ်ပစ္စည်းများသာ ရ၍ ကိုယ်မှာတော့ သဒ္ဓါ သီလ သုတ စာဂ ပညာ ဆိုတဲ့ နိဗ္ဗာန်သွား ရတနာတွေ ရလိုက်တယ်၊ ဒီလို တွက်လိုက် ပြန်တော့လဲ ကုန်သွားတာလား၊ ရလိုက်တာလား မေးလို့ရှိရင်ဖြင့် မောင်ချစ်လှတို့ မသောင်းတို့ ဘယ့်နှယ်ဖြေမလဲ။

ရလိုက်တာပါဘုရား။

ဒီနေ့သည်ကား ဆိုလို့ရှိရင် ဉာဏ်အမြင် ထူးခြားလာတဲ့အတွက် တို့ဆရာဘုန်းကြီးဆီကို သွားကြစို့၊ ဟိုမှာရှိတဲ့ သံဃာတော်အရှင်မြတ်တို့ကို ကထိန်သင်္ကန်း ကပ်ပြီးသကာလ တို့သားလေးကို ရှင်ပြုကြစို့လို့ ဆိုတဲ့ ဥစ္စာဟာဖြင့် ဉာဏ်မျက်လုံး ပွင့်လာလို့ မီးလောင်မှန်း သိတာပဲ၊ ခါတိုင်းတော့ အဝိဇ္ဇာမျက်လုံးနှင့်မို့ မီးလောင်မှန်းမသိဘူး၊ ခုတော့ မီးလောင်နေတယ်ဟေ့၊ ဒီမီးထဲက တို့ဆွဲထုတ်ပြီးသကာလ ကိုယ်ပိုင်ကိုယ်ဆိုင် လုပ်ကြစို့ရဲ့ဆိုတော့ ဒီနေ့ဟာ ဉာဏ်မျက်လုံးပွင့်တဲ့နေ့ဆိုလို့ရှိရင် လွဲပါ့မလား။

မလွဲပါဘုရား။

ဉာဏ်မျက်လုံး ပွင့်ခင်ကတော့ ပစ္စည်းဥစ္စာ စုသာနေမယ်ဆိုရင် စုရင်း လောဘမီး၊ ဒေါသမီး၊ မောဟမီး စသည်တို့က လောင်ပစ်လိုက်ရင်း ကုန်ရင်း၊ ရေ၊ မီး၊ မင်း၊ ခိုးသူ၊ မချစ်မနှစ်သက်သောသူတွေက ဝိုင်းလို့ အချိန်ကျလာရင် အခွန်ဆောင်ရရင်း၊ အမြတ်တော်ပေးရရင်းဆိုတော့ ခါတိုင်းတော့ဖြင့် စုလိုက် ကုန်လိုက် မီးလောင်လိုက် ဖြစ်နေတယ်၊ ခုတော့ မီးလောင်နေမှန်း သိတဲ့အတွက် တို့မီးထဲက ဆွဲထုတ်ပြီးသကာလ လွတ်ရာကို ပို့တော့မယ်၊ ထားပါတော့မယ်ဆိုတော့ ကုန်သွားတာလား ရလိုက်တာလား။ (ရလိုက်တာပါဘုရား။)

ဘယ်လောက် ကုန်သွားသတုံးလို့ မေးရင်ဖြင့် မီးလောင်တာမှ ကုန်တယ်လို့ပြောရတာ။ (တင်ပါဘုရား။)

ဆွဲထုတ်လို့ ရတဲ့ဟာကျတော့ ရတယ်လို့ပြောရမယ်။

တင်ပါဘုရား။

ယနေ့တော့ ဒီတကာ တကာမတွေက မီးထဲကဆွဲထုတ်လို့ ရလိုက်တာ၊ မသိမလိမ္မာဘဲနဲ့ အရမ်း ဆွဲထုတ်တာလား၊ အင်း... ဉာဏ်မျက်လုံးအမြင်နဲ့ ကောင်းတာဆွဲထုတ်တာလားဆိုတဲ့ ဆွဲထုတ်မှုကလဲ ၂ မျိုးရှိတယ်။

မီးထဲက ဆွဲထုတ်တာလဲ ၂ မျိုးရှိသေးတယ်၊ ဘယ်လို ၂ မျိုးရှိသလဲဆိုလို့ရှိရင်ဖြင့် နိဗ္ဗာန်တည်းဟူသော ရတနာမြတ်ကြီးကို လိုချင်

လို့ ဆွဲထုတ်တာက တစ်မျိုး၊ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည် ရောက်ကြောင်းကိုလိုချင်လို့ ဆွဲထုတ်တာက တစ်မျိုး။ အဲဒီလို မီးထဲက ဆွဲထုတ်ပေမယ့်လဲ ဦးအောင်ဇေဝေတို့ ဦးသန်းမောင်တို့ ဆွဲထုတ်တတ်အုံးမှနော်၊ မီးလောင်နေတုန်း စဉ့်အိုးကြီးတွေ၊ ဒယ်အိုးကြီးတွေ ထင်းတွေကိုသာ ဆွဲထုတ်နေလို့တော့ အပိုပေါ့၊ အလကားပေါ့၊ ဒါတွေလောင်နေလို့ကော ဘာအရေးကြီးစရာရှိသတုံး၊ ပညာမျက်စိနဲ့ ကြည့်ပြီးသကာလ နိဗ္ဗာန်ရောက်ကြောင်းနှင့်တူတဲ့ အဖိုးတန်ပစ္စည်းတွေကို ဆွဲထုတ်မယ်ဆိုလို့ရှိရင် အတော့်ပဲ အမှန်ပဲ၊ သည့်ပြင် လူ့ပြည်၊နတ်ပြည်၊ ဗြဟ္မာ့ပြည် ရောက်ကြောင်းတွေ ဆွဲထုတ်မိမယ်ဆိုရင် ဆွဲထုတ်မိတဲ့ နေရာမှာ နောက်ထပ် မီးကကူးပြီးလောင်ပြန်တယ်၊ သဘောကျရဲ့လား။

ကျပါတယ်ဘုရား။

ဒါဖြင့် အရမ်းဆွဲထုတ်တာက တစ်မျိုး၊ ဉာဏ်မျက်လုံးအမြင်နဲ့ ဆွဲထုတ်တာကတစ်မျိုးဆိုတာ မောင်ချစ်စိန့်တို့ မှတ်မိရဲ့လား။

မှတ်မိပါတယ်ဘုရား။

ယနေ့သည်ကားဆိုရင် မောင်ချစ်လှတို့၊ မသောင်းတို့ တကာမကြီးတို့ ခြော်....မီးထဲက ဆွဲထုတ်ပေမယ့် အဖိုးတန်တွေကို ဆွဲထုတ်ပြီး ကိုယ်ပိုင် လုပ်တာတွေဆိုတော့ နိဗ္ဗာန်ရောက်ကြောင်း ပစ္စည်းတွေကိုသာ ဆွဲထုတ်လိုက်တယ်၊ နတ်ပြည် ရောက်ကြောင်း ပစ္စည်းတွေကို အရေးမကြီးဘူး ဆိုပြီး သကာလ ယနေ့သည် နိဗ္ဗာန် ရောက်ကြောင်း ပစ္စည်းကိုသာလျှင် လိုချင်လို့ ဒီဧရာစက်ချပ်ကြီးကို ဆင်နဲ့ပါ၏ဆိုတာ ဆုံးဖြတ်ချက်ချရမယ်၊ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည် လိုချင်လို့ မီးထဲကဆွဲထုတ်ပြီးသကာလ လှူလိုက်တယ်၊ တန်းလိုက်တယ်၊ ပေးလိုက်တယ်၊ ကမ်းလိုက်တယ်ဆိုတော့ မီးကူးပြီး လောင်တာပဲ၊ ဒီမှာလဲ လောင်ရက်ပဲ၊ ဟိုရောက်ရာ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည် တွေမှာလဲ ခန္ဓာနဲ့ပစ္စည်းတွေ မလောင်ဘူးလား၊ လောင်မလား။

လောင်မှာပါဘုရား။

ဒါဖြင့် မီးကူးလောင်တာပေါ့၊ ဒီနေရာကတော့ ဆွဲထုတ်ပါရဲ့၊ ဟိုနေရာကျတော့ ဆက်ကူးပြီးလောင်တဲ့ဥစ္စာမျိုး၊ဆွဲထုတ်ငြားသော်လဲ

မျက်စိမမြင်တဲ့ ပုဂ္ဂိုလ်က ဆွဲထုတ်တဲ့ပစ္စည်း ဖြစ်လေသောကြောင့် ဒါလဲ မီးထဲကထုတ်လို့ ရတော့ ရလိုက်ပါရဲ့၊ ဒါပေမယ့် မီးဆက်လောင် အုံးမှာမို့ မကောင်းဘူး၊ ရှင်းပြီလား။

ရှင်းပါပြီဘုရား။

ယနေ့တော့ မောင်ချစ်လှတို့ မသောင်းတို့ တကာမကြီး တို့က ဆွဲထုတ်တာသည်ကားဆိုရင် အပိုးမဖြတ်နိုင်တဲ့ ပစ္စည်းကို ဆွဲ ထုတ်ပြလိုက်တာပဲ၊ မအို-မသေ အမြဲနေတဲ့ နိဗ္ဗာန် ရောက်ကြောင်း မဂ္ဂင်နဲ့သာ ဆွဲထုတ်ပါမယ်ဆိုပြီးသကာလ ယနေ့ အလှူကြီးဆင်နွဲတဲ့ အတွက် ဆွဲထုတ်တဲ့အထဲက နောက်တစ်ဖန် မီးမလောင်တဲ့ ပစ္စည်းကို ရလိုက်ပါတယ်၊ ဆွဲထုတ်တာတောင်မှ ထုတ်တတ်အုံးမှ၊ ကုတ်ကုတ် ကတ်ကတ်ဆွဲထုတ်ရပါမယ်၊ အရှုံးထုတ်သလို ဆွဲထုတ်လို့ရှိရင် တော် ပါ့မလား၊ တကယ့် အပိုးအနဂ္ဂမဖြတ်နိုင်တဲ့ နိဗ္ဗာန်ရောက်ကြောင်း ကြီး ဆွဲထုတ်တော့မှ မပျောက်တဲ့ပစ္စည်း မပျက်တဲ့ပစ္စည်း ရတယ်လို့ ဆုံးဖြတ်ချက်ချလိုက်စမ်းပါ။

မှန်လှပါဘုရား။

ဒါဖြင့် မီးလောင်နေတဲ့အထဲက ဆွဲထုတ်ပေမယ့် အကန်း ဆွဲ ထုတ်တာနဲ့ အမြင်ရှိတဲ့လူ ဆွဲထုတ်တာနဲ့ ဦးတင် မခြားနားဘူးလား။

ခြားနားပါတယ်ဘုရား။

ဦးသန်းမောင်တို့ ဒီရောက်လို့ ထူးထူးဆန်းဆန်းတွေ ကြားရ ပြန်ပြီ၊ မကြားဘူးလား။(ကြားပါတယ်ဘုရား။)

ဪ....ဆွဲထုတ်နည်းက မီးထဲက ဆွဲထုတ်လို့ ရတဲ့ အထဲက အဖိုးတန် မတန် ရှိသေးတယ်၊ ဒီတော့ ဆွဲထုတ်တဲ့နည်းက မှန်အုံးမှ မဆိုနိုင်ဘူးလား။ (ဆိုနိုင်ပါတယ်ဘုရား။)

လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည် ရောက်ကြောင်း ပစ္စည်းတွေကို ဆွဲထုတ်မိလို့ရှိရင် ဆွဲထုတ်တဲ့ပစ္စည်းနဲ့ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည် ယူလိုက်မယ်ဆိုရင်လဲ မီးကူးစက်လောင်အုံးမှာပဲ၊ အဲဒီ ဆွဲထုတ်တဲ့

ပစ္စည်းနဲ့ နိဗ္ဗာန်ကို အရောက်သွားတော့မယ်ဆိုရင်လဲ မီးကူးလောင်စရာ ရှိသေးရဲ့လား။

မရှိပါဘုရား။

တစ်ဆယ့်တစ်ပါးသောမီး ငြိမ်းတာ နိဗ္ဗာန်မဟုတ်လား။

ဟုတ်ပါတယ်ဘုရား။

ကဲ....မောင်ချစ်လှတို့ မသောင်းတို့ ယနေ့အလှူပွဲကြီးသည် မအို-မသေ အမြဲနေတဲ့ နိဗ္ဗာန်ကို မီးထဲက ဆွဲထုတ်တဲ့ပစ္စည်းကြောင့် ရလိုက်တာပဲ၊ ဒါဟာ မီးမှန်းသိလို့ပဲ၊မီးက ဒုက္ခသစ္စာ၊မီးလောင်နေတာသိလို့ ဆွဲထုတ်နိုင်တဲ့ဉာဏ်က မဂ္ဂသစ္စာ၊ ဓီမဂ်ကသာလျှင် မအို–မသေ အမြဲနေတဲ့နိဗ္ဗာန်ကို ပို့ဆောင်တဲ့ယာဉ်ရထားကြီး ဧကန်ဖြစ်နေသောကြောင့် ငါတို့သည် နိဗ္ဗာန်သွားကြောင်း ယာဉ်ရထားကောင်းကို ကိုယ်ပိုင်ရတဲ့နေ့ပါပဲလို့ ဆုံးဖြတ်ချက်ချပါ။ (မှန်လှပါဘုရား။)

မီးကင်းရာဘက်သို့ ရောက်ပေပြီလို့ ဆုံးဖြတ်ချက် ချဖြစ်အောင် ချပါဆိုတာ ဆရာဘုန်းကြီးက သတိပေးလိုက်ပါတယ်၊ ကိုင်း....ဒါဖြင့် နေရာကျပါပေါ့လား။

(၃၁)ဘုံ အပြင်ဘက်ကို ထုက်ထားပါလား၊ ကိုယ်ပိုင်ပစ္စည်းကို မီးထဲကဆွဲထုတ်ခြားသော်လဲ (၃၁)ဘုံ အတွင်းမှာပဲ ထုတ်မိလို့ ရှိရင်ဖြင့် ရောက်ရာဘုံမှာလဲ မီးလောင်အုံးမှာပဲ၊ (၃၁)ဘုံက မီးဟုန်းဟုန်းတောက်တဲ့ ဘုံတွေပဲ၊ ဒါဖြင့် ဒီနေ့ ဆွဲထုတ်တဲ့ ပစ္စည်းဟာ နိဗ္ဗာန်အရောက် ဆွဲထုတ်နိုင်တဲ့ အတွက် တစ်နည်း တစ်ဆယ့်တစ်ပါးသော မီးတို့၏ ငြိမ်းရာ သိမ်းရာ မလောင်ရာအရပ်သို့ ပို့လိုက်တဲ့အတွက် သမ္မာဒိဋ္ဌိမျက်လုံးရှိတဲ့ ပုဂ္ဂိုလ်၏ အလှူပွဲကြီးဆိုရင်လဲ လွဲပါ့မလား။

မလွဲပါဘုရား။

လှူပေမယ့် ရော့....အင့်....ဆိုတဲ့ ဥစ္စာက အလှယ်ကလေးပေါ့ဗျာ၊ တကယ်အဖိုးတန်ကို မီးထဲက ဆွဲထုတ်ပြီးသကာလ မီးလွတ်တဲ့

နေရာသို့ တကယ် ပို့မှုကျတော့ တကယ်ကိုသိ၊ သာလျှင် တကယ် အဖိုးတန်တယ်ဆိုတာ ပေါ်လာတယ်၊ ရှင်းပြီလား။

ရှင်းပါပြီဘုရား။

တကာ–တကာမတို့ ဘယ်အကျိုးငှာ လိုချင်ရချင်လို့ လှူကြ တန်းကြလဲဆိုတော့ ဇာတိ–ဇရာ–ဗျာဓိ–မရဏ တည်းဟူသော ဒုက္ခ စပ်သိမ်း ကင်းငြိမ်းရာအမှန် ပြည်နိဗ္ဗာန်ကို ရောက်လို ရလို၍ လှူကြ တန်းကြပါတယ်ဆိုရင် မှန်တယ်၊ သဘောပါရဲ့လား။

ပါ ပါတယ်ဘုရား။

ခင်ဗျားတို့သည် အမိဝမ်းခေါင်းထဲက လာခဲ့ကြပါတယ်။ ယခုဘဝအစ အမိဝမ်းခေါင်းထဲမှာ ကလလရေကြည်က စခဲ့ရတယ်၊ ကိုယ့်အတွက် သူ့အတွက် အတူတူပဲ၊ အဲဒီ ကလလရေကြည်ဆိုတဲ့ ရေကြည်ပေါက်ကလေးတစ်ပေါက်ဟာ အပေါ်က အစာသစ်တွေ၊ အောက်က အစာဟောင်းတွေကြားမှာ ပထမစပြီးမှုတည်ခဲ့ပါတယ်၊ လူတစ်ယောက် အစဟာ အင်မတန် သေးငယ်လှတဲ့ ကလလရေ ကြည်ကလေးတစ်ပေါက်က စရတယ်၊ဒါလေးဟာ ပုလွန်းအေးလွန်း သော အာဟာရ စားသောက်မိရင်လဲ ပျက်လိုက်၊လှုပ်လိုက် ရှားလိုက် ရင်လဲ ပျက်လိုက်ဆိုတော့ လူတစ်ယောက်ဖြစ်ဖို့ရာလွယ်ပါ့မလား။

မလွယ်ပါဘုရား။

ဒါလေး နေရ ထိုင်ရတဲ့ နေရာကလဲ အမိရဲ့ အစာသစ်နှင့် အစာဟောင်းကြား၊ အူမ အူသိမ်တွေကြား၊ အညစ်အကြေးတွေ နံစော်နေတဲ့အထဲမှာ နေရတာဆိုတော့ ဒီအထဲမှာ ကလလရေကြည် တည်နေရတဲ့ မောင်ချစ်လှဖြစ်စေ, မသောင်းဖြစ်စေ, တကာမကြီး ဖြစ်စေ ဒုက္ခအကြီးအကျယ် ရောက်မနေဘူးလား။

ရောက်နေမှာပါဘုရား။

အမိဝမ်းထဲမှာ သုခနဲ့ နေရသလား, ဒုက္ခနဲ့ နေရသလား။

ဒုက္ခနဲ့ နေရပါတယ်ဘုရား။

အဲဒီ ဒုက္ခကြီးကို တပည့်တော်တို့ ယခုမြင်ပါပြီဘုရား၊ဆရာဘုန်းကြီးကလဲ ဉာဏ်မျက်လုံး ပွင့်အောင်ညွှန်ပြတဲ့အတွက် မြင်ပါပြီ ဘုရား၊ အဲဒီ ဒုက္ခကြီးကို ရွံခြင်း၊ မုန်းခြင်း၊ ငြီးငွေ့ခြင်း ပျင်းရိခြင်း၊ မလိုချင်ခြင်းဖြစ်ပါ၍ အဲဒီဒုက္ခကြီးမှ လွတ်ချင်သောကြောင့် သံဃာတော် အပါး ၂၀၀ ကျော်အား လှူဖွယ် ပစ္စည်းတွေကို အချိုးကျ စိစိငှငှ လှူဒါန်းပါ၏လို့ ယခု စိတ်ပြောင်းလိုက်ပါ၊ဒုက္ခမှ လွတ်ချင်လို့ လှူတာပဲနော်၊ ဒုက္ခက ဒုက္ခသစ္စာ၊ မြင်တဲ့ဉာဏ်က မဂ္ဂသစ္စာ၊ အဲဒီလို မြင်တဲ့ဉာဏ်နဲ့ လှူပါ၏ဆိုတော့ မဂ်ဉာဏ်နဲ့လှူတဲ့ အလှူဖြစ်တယ်၊ ရှင်းပြီလား။ (ရှင်းပါပြီဘုရား။)

တကာမကြီး ဉာဏ်နဲ့လှူတဲ့ အလှူလို့ မှတ်ပါ၊ ဒုက္ခမှလွတ်ချင်လို့ လှူတဲ့အလှူမို့ သဒ္ဓါက နောက်လိုက်ဖြစ်ပြီး ဉာဏ်က ရှေ့သွားဖြစ်တယ်လို့ မှတ်စမ်းပါ၊ဉာဏ်က သာမည ဉာဏ်လားလို့ မေးတဲ့အခါကျတော့ ဒုက္ခသစ္စာကိုသိတဲ့ ဉာဏ်ဆိုသောကြောင့် မဂ်ဉာဏ်နဲ့ လှူတဲ့အလှူမို့ ဒုက္ခခပ်သိမ်း ကင်းငြိမ်းတဲ့နိဗ္ဗာန်မှတစ်ပါး အခြားဘာမှ အကျိုးမပေးတော့ဘူးလို့ ယုံယုံကြည်ကြည် မောင်ချစ်လှတို့ မသောင်းတို့က မှတ်ပါနော်။

ကဲ....ဒါဖြင့် လိုက်ဆိုကြစမ်း။

တပည့်တော် တပည့်တော်မတို့သည် ဇာတိဒုက္ခ ဘေးကြီးကို ကောင်းစွာသိ၊ တကယ်သိ၊ ဉာဏ်အမြင်နဲ့သိ၊ အသိသုံးပါးနဲ့ ပြည့်စုံသည် ဖြစ်ပါ၍၊ ဤသိသော ဒုက္ခကြီးကို ရွံခြင်း၊ မုန်းခြင်း၊ ငြီးငွေ့ခြင်း၊ ပျင်းရိခြင်း၊ မလိုချင်ခြင်း ရှိသည်ဖြစ်ပါ၍၊ ဇာတိ ဒုက္ခ ကင်းရာ နိဗ္ဗာန်ကိုသာ ရည်မှန်း၍ ဤသက်နှံး အစရှိသော လှူဖွယ်ပစ္စည်းများကို ပင်လျှောက်ပြီးသော သံဃာတော် အရှင်မြတ်တို့အား ဒုက္ခငြိမ်းရာ သိမ်းရာဖြစ်သော နိဗ္ဗာန်ကိုရည်မှန်း၍ လှူဒါန်းပါ၏ အရှင်ဘုရား။

ဩော်....ဒုက္ခငြိမ်းရာ ရည်မှန်းပြီး လှူတန်းတဲ့ပစ္စည်းပါလား၊ ဒုက္ခငြိမ်းရာဆိုတာ မောင်ချစ်လှတို့က နိဗ္ဗာန်ပဲလို့ မှတ်လိုက်ပါနော်၊ အဲဒီတော့ ကိုယ့် ဇာတိ ဒုက္ခကြီးက ကိုယ်မုန်းလွန်းလို့ လှူဒါန်းပါတယ်ဆိုမှဖြင့် နောက် ဇာတိ ဒုက္ခရစရာရှိသေးရဲ့လား။

မရှိပါဘုရား။

ဒါဖြင့် ဒုက္ခသိမ်းဘာ နိဗ္ဗာန်နေ၁် အဲဒီ အမိဝမ်းခေါင်းထဲမှာ အမိကျော်ဘက်ကိုမျက်နှာမူပြီး ငါတို့မင်းတို့ နေခဲ့ရတယ်၊ ဒူးနှစ်ဘက်ပေါ်မှာ တံထောင်ဆစ်နှစ်ခုထောက်ပြီး ခေါင်းပေါ်မှာ လက်နှစ်ဘက်ယှက်နေခဲ့ရတယ်၊ အမိက ရှေ့ကုန်းလိုက်ရင် လည်ပင်းချိုးလိုက်သလို၊ အမိက နောက်ကော့လိုက်ရင် ကုပ်ချိုးလိုက်သလို ခံရတယ်၊ အဲဒီနေရာဟာလဲ အင်မတန် ကျဉ်းမြောင်းတယ်၊ အောက်ကလဲ အမေရဲ့ကျင်ကြီးအိမ်ပေါ်မှာ ထိုင်ရ၊ အပေါ်က အမေစားထားတဲ့ ချွဲးအန်ဖတ်နဲ့တူတဲ့ အစာသစ်ကို ရွက်ထားရတယ်၊ အကောင်အထည်ကလေးဖြစ်လာပြီဆိုတော့ အသက်လဲ ရှူလို့မရဘူး၊ ကွေးလို့ဆန့်လို့လဲ မရဘူးဆိုတော့ မောင်ချစ်လှတို့ မသောင်းတို့ အဲဒါ ဒုက္ခလား သုခလားလို့ တွေးစမ်းပါ။

ဒုက္ခပါဘုရား။

ဩော်....ဒါ ပဋိသန္ဓေနေရတဲ့ ဒုက္ခပဲ၊ ၉ လနဲ့ ၁၀ လအတွင်း ထမင်းကျွေးမယ့်သူလဲ မရှိဘူး၊ ကျင်ကြီးကို သုတ်ပေးမယ့်သူလဲ မရှိဘူး၊ စောင်းပေးမယ့်သူ၊လှည့်ပေးမယ့်သူလဲမရှိဘူးဆိုတော့ အဲဒါကို ဘာသစ္စာ ခေါ်ကြမလဲ။

ဒုက္ခသစ္စာပါဘုရား။

အဲဒီ ဒုက္ခသစ္စာကြီးကို ဆရာဘုန်းကြီးကပေးတဲ့ ဉာဏ်နဲ့ ကိုယ်ကိုယ်တိုင် နေခဲ့ရတာကို ကြည့်လိုက်တော့ နောက်တစ်ဖန် နေချင်စရာ သေးရှိလား။ (မရှိပါဘုရား။)

(၉) လကျော် (၁၀) လတိုင်တိုင် မစောင်းရ၊ မတိမ်းရ၊ အသက်မရှူရ၊ ကျွေးမယ့်မွေးမယ့်သူလဲ မရှိဘူး၊ ကယ်မယ့်သူလဲ မရှိဘူး၊ အထီးကျန် တစ်ကောင်ကြွက် တစ်မျက်နှာမို့ ဘယ်ကမှ ကူမယ့်သူ မရှိဘဲကိုး၊ ကျင်ကြီးသွားဖို့နေရာ၊ ကျင်ငယ်သွားဖို့နေရာတွေလဲ မရှိဘူး၊ ကိုယ့်လက် ကိုယ့်ခြေကလဲ မစွမ်းမသန် ဒုက္ခိတမို့ ဘာမှမလုပ်နိုင်ဘူး၊ ရိုပ်မိပြီလား။ (ရိပ်မိပါပြီဘုရား။)

အဲဒီလို အကြုံမျိုး မကြုံသေးဘူးလား၊(ကြုံဖူးခဲ့ပါတယ်ဘုရား။) အဲဒါ ဆင်းရဲတာအမှန် ဒုက္ခသစ္စာပဲ၊ ဒုက္ခသစ္စာဆိုတာ ဒု-က စကာဆုပ်

စရာ၊ ခ-က အသုံးမကျတာ၊ သစ္စာ-က အမှန်၊ ပေါင်းလိုက်တော့ စက်ဆုပ်စရာ အသုံးမကျတာအမှန်၊ ဦးတင်တို့ ဦးသန်းမောင်တို့ ဝေ ပြီလား။ (ပေါ်ပါပြီဘုရား။)

ပါဠိလိုတော့ ဒုက္ခသစ္စာ၊ မြန်မာလိုတော့ စက်ဆုပ်စရာ အသုံးမကျတာအမှန် ဖြစ်လေသောကြောင့် ဤ (၉) လကျော် (၁၀)လ အမိဝမ်းထဲမှာ နေရတာကို အခု ဆရာဘုန်းကြီးပြောတဲ့ ဉာဏ်မျက်လုံးနဲ့ ကြည့်လိုက်တော့မှ ခြော်.... ငါတို့ ဒီလိုနေခဲ့ရပါကလားဆိုတဲ့ လောကီ မဂ်ဉာဏ် သမ္မာဒိဋ္ဌိမဂ္ဂင် ပေါ်တာပဲ၊ အဲဒီမဂ္ဂင်နဲ့ ကြည့်လိုက်တော့ မောင်ချစ်လှတို့ မသောင်းတို့ ဒီနေရာ နေချင်သေးရဲ့လား။ (မနေ ချင်ပါ ဘုရား။)

ဒီ ဒုက္ခရောက်တဲ့နေရာ မနေချင်လို့ ဒုက္ခ လွတ်ရာကျွတ်ရာသာ ရောက်ချင်တဲ့ ဉာဏ်နဲ့ ဤသက်န်း၊ ဤခြင်ထောင်၊ ဤဖိနပ်၊ ဤထီး ဤမျက်နှာသုတ်ပဝါတို့ကို လှူဒါန်းခြင်း၊ သားလေး ရှင်သာမဏေ အဖြစ် သွတ်သွင်းခြင်း ကိစ္စအဝဝတို့ကို ယနေ့ တပည့်တော်တို့ လှူဒါန်း ပြီးပါပြီဆိုတာ ဆုံးဖြတ်ချက်ချပါနော်၊ ဘာမှမလိုချင်ဘဲ ဇာတိဒုက္ခမှ လွတ်ချင်လို့ လှူတာလို့ မှတ်ပါ၊ အဲဒီဇာတိဒုက္ခကြီးကို ရွံခြင်း၊ မုန်း ခြင်း၊ ငြီးငွေ့ခြင်း၊ ပျင်းရိခြင်း၊ မလိုချင်ခြင်းဖြစ်ပါ၍ အဇာတ ဆိုတဲ့ ဇာတိချုပ်ရာ နိဗ္ဗာန်ကိုသာ ရည်မှန်းပြီးသကာလ ဤသင်္ကန်း နှင့်တကွ ဤလှူဖွယ်ပစ္စည်းတွေကို လှူဒါန်းပါ၏လို့ စိတ်ပြောင်းလိုက် ကြစမ်းပါ၊ ပြောင်းပြီးပြီလား....။

ပြောင်းပြီးပါပြီ ဘုရား။

နောက်ပြီး မွေးဖွားခါနီးကျတော့ ခေါင်းကစပြီး မွေးရမှာ ကိုး၊ နဂိုကတော့ မျက်နှာက ကျောဘက်လှည့်နေပြီး ခေါင်းကတော့ အထက်နေတာ၊ နောက်တော့ ကံကြောင့်ဖြစ်တဲ့လေက အောက်က ပြီး တွန်းမှုတ်လိုက်တော့ အမိရဲ့ မွေးဖွားရမယ့် နေရာဌာနသို့ ကျွမ်းပြန် သွားပြီး ခေါင်းက အောက်ဘက်သို့ ရောက်သွားတယ်၊ ဦး မောင်ကြီး ဒီ ကျွမ်းပြန်ကြီးနဲ့များ နေချင်သေးရဲ့လား။ (မနေချင်ပါ ဘုရား။)

ခေါင်းက စမွေးရလို့ ကျွမ်းမပြန့်ဘဲနဲ့ နေရပါမလား၊

မနေရပါ ဘုရား။

ဒီတော့ အဲဒီကလေးစိတ်ထဲမှာ အသူတာရာနက်တဲ့ ချောက်၊ အလံတစ်ရာနက်တဲ့ ချောက်ကြီးထဲ ငါတော့ ဇောက်ထိုးဆင်းရတော့မယ်၊ ဒီတစ်ခါတော့ ငါတော့ သေပွဲနဲ့ရတော့မှာလို့ ကလေးစိတ်ထဲမှာ အောက်မေ့ပြီး တက်သွားတာပဲ၊ ဘယ်လောက်ကြောက်သွားသလဲ၊ ဦးသန်းမောင်တို့ အမေ့ဝမ်းထဲ ပြန်ရောက်ချင်သေးရဲ့လား။

မရောက်ချင်ပါ ဘုရား။

ဒီနေရာရောက်ချင်သူများ ပါသေးသလား။(မပါပါ ဘုရား)။ အဲဒါ ဘာသစ္စာလဲ။ (ဒုက္ခသစ္စာပါ ဘုရား။)

ကဲ.... အားလုံး လိုက်ဆိုကြ....။

တပည့်တော် တပည့်တော်မတို့သည် မွေးဖွားခါနီးဖြစ်သော ခန္ဓာသည် အနိုးပင်စိုက်သကဲ့သို့ ဆင်းရဲအတိ အမှန်ရှိတာကို တပည့်တော်တို့ကိုယ်တိုင် ဉာဏ်နှင့်ကြည့်၍ သိသည်ဖြစ်ပါသည်၊ ဤမွေးဖွားခါနီး ဒုက္ခကို ရှုံ့ခြင်း၊ မုန်းခြင်း၊ ငြီးငွေ့ခြင်း၊ ပျင်းရိခြင်း၊ မလိုချင်ခြင်း ရှိသည်ဖြစ်ပါ၍ ဒုက္ခလွတ်ရာ အဇာတိဟု ဆိုအပ်သော ပဋိသန္ဓေ မနေရာအမှန် ပြည်နိဗ္ဗာန်ကိုသာ ရည်မှန်း၍ ဤသက်နှင့် ဤလူ့ဖွယ်ပစ္စည်း စသည်တို့ကို လှူဒါန်းပါ၏ အရှင်ဘုရား....။

ဒုက္ခကြောက်၍ လှူတဲ့ အလှူပွဲလို့ အောက်မေ့ရမယ်၊ ဒုက္ခကြောက်တဲ့လူ နိဗ္ဗာန်ရောက်မှာပဲ၊ ဒုက္ခမကြောက်တဲ့လူ ဘယ်တော့မှ မရောက်ဘူး၊ ရောက်ပါမလား....။

(မရောက်နိုင်ပါ ဘုရား။)

ကဲ.... မွေးဖွားတော့မယ်ဆိုတော့ စဉ်းစားကြည့်ပါ၊ တစ်လက်မရှိတဲ့ သံဝိုင်းပေါက်ကလေး ဖောက်ထားပါ၊ ကြွက်ကိုယ်လုံးက ၂ လက်မရှိတယ်၊ ကြွက်နောက်ကနေပြီး ကြိမ်တွေ တုတ်တွေနဲ့ ဝိုင်းပြီး မောင်းကြရိုက်ကြတော့ ကြွက်က အဲဒီအပေါက်ကအတင်းတိုးထွက်တဲ့

အခါ ကိုယ်ပေါ်မှာအရေခွံမကျန်ရစ်တော့ဘဲ သွေးရဲရဲဖြင့် အပြင်ထွက်သွားရတယ်၊ အဲဒီလိုပဲ အမိဝမ်းခေါင်းထဲက အပြင်ဘက်သို့ထွက်ရတဲ့ ဒုက္ခကြီးကလဲ ထွက်ရာဌာနကလဲ ကျဉ်းမြောင်း၊ ထွက်ရမယ့်ကလေးက ကြီးထွားနေတဲ့အချိန် ဖြစ်နေသောကြောင့် ခုတင်က ကြွက်အရေခွံ မပါဘဲနဲ့ ထွက်ရသလို ဖြစ်နေတယ်၊ ကိုယ်မွေးဖွားလာခဲ့ရတဲ့ဒုက္ခ၊ ခံစားရတဲ့ဒုက္ခ ဘယ်လောက်ကြီးသလဲဆိုတာ ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

ဒီဒုက္ခကို မမြင်တာကတော့ ခင်ဗျားတို့က မေ့နေပြီ၊ ဉာဏ်နဲ့ မကြည့်လို့ဘဲ၊ သဘောပါရဲ့လား။ (ပါပါတယ်ဘုရား။)

ဒါဖြင့် မွေးဖွားရတဲ့ ဒုက္ခကလဲ တကာ တကာမတို့ သေးသလား ကြီးသလားဆိုတာ အကဲခတ်ကြပါအုံး။

ကြီးပါတယ် ဘုရား။

အဲဒီ မွေးဖွားလာတဲ့ ဒုက္ခကြီးကို အခု ဆရာဘုန်းကြီးပေးတဲ့ ဉာဏ်နဲ့ ကြည့်လိုက်တော့ မမြင်ကြဘူးလား။ (မြင်ပါတယ်ဘုရား။)

ဒီဒုက္ခကြီးဟာ ဘာသစ္စာလဲ။ (ဒုက္ခသစ္စာပါ ဘုရား)။

အဲဒီ ဒုက္ခကြီးကိုလဲ နောက်တစ်ဖန် ဘယ်တော့မှ မတွေ့ချင်လို့ ဒုက္ခသိတဲ့ ဉာဏ်နဲ့ တပည့်တော် တပည့်တော်မတို့က သံဃာတော် အရှင်မြတ်တို့အား ဤ ကထိန်လျာ သင်္ကန်းကို လှူဒါန်းပါ၏ အရှင်ဘုရား၊ သဘောပါရဲ့လား။ (ပါပါတယ်ဘုရား။)

တကာ တကာမတို့ မွေးဖွားရတဲ့ ဒုက္ခမှ လွတ်လို၍ လှူဒါန်းတယ်ဆိုတော့ နောက် ဘာခန္ဓာမှ မဖြစ်ချင်တဲ့ အလှူပေါ့၊ ခန္ဓာဖြစ်ချင်ရင် ဒုက္ခသစ္စာကို ရအုံးမှာပဲ၊ ကဲ ဒါဖြင့် ရှေ့ဆက်ကြအုံးစို့။ မွေးဖွားပြီးသကာလ အပြင်ဘက် ရောက်ပြန်တော့လဲ အမိဝမ်းထဲတုန်းကတော့ နေမထိ လေမထိနဲ့ နေရလို့ ဘာမှမဖြစ်သော်လဲ အပြင်ရောက်တယ်ဆိုရင်ပဲ ဝမ်းဆွဲဆရာမတွေက ကိုင်လိုက်တွယ်လိုက်၊ ရေနဲ့ပက်ချိုးပေးလိုက်၊ ခေါင်းက မွေးရာပါဆံပင် ရိတ်လိုက် စသည်တို့ကို လုပ်

ကြတော့ ငါသည် ဤလောကရေကို ကျပြီး ဤဒုက္ခကြီးကို နှံ့ရထော့ မယ်ဆိုပြီးသကာလ ကလေးက မငိုနိုင်ဘဲ ဖြစ်သွားတယ်။ အဲဒီတော့ အမိဝမ်းခေါင်းထဲမှ အပြင်ထွက်ရတဲ့ ဒုက္ခက သေးသလား ကြီး သလား။

ကြီးပါတယ်ဘုရား။

အဲဒီ ဒုက္ခကြီးကိုလဲ ခင်ဗျားတို့ကိုယ်တိုင် တွေ့ခဲ့ကြရသော ကြောင့် ဒီမွေးဖွားရတဲ့ ဒုက္ခကြီးကို ရွံခြင်း၊ မုန်းခြင်း၊ ငြီးငွေ့ခြင်း၊ ပျင်းရိခြင်း၊ မလိုချင်ခြင်းရှိသည် ဖြစ်ပါ၍ ဤသက်နှင့်တကွ လူ ဖွယ်ပစ္စည်းတို့ကို သံဃာတော်အရှင်မြတ် (၂၀၀)ကျော်အား လှူဒါန်း ပါ၏လို့ စိတ်ထားပြောင်းလိုက်ကြပါ။ မောင်ချစ်လှတို့ မသောင်းတို့၊ တကာမကြီးတို့ ပြောင်းဖြစ်အောင် ပြောင်းပါဆိုတာ ဒီကနေ့ သတိ ပေးလိုက်တယ်။

မှန်လှပါဘုရား။

ကိုင်း.... မသေလို့ အပြင်ဘက် ရောက်လာပြန်တော့ အဝတ်နဲ့ ထုပ်ပြီးသကာလ ကျင်ကြီးတွေ ကျင်ငယ်တွေနဲ့ ထွေးလုံးရစ်ပတ်ပြီး နေရပြန်တယ်။ ရေဆာလို့ရှိရင် အမေက နို့ပေးလို့ပေး၊ နို့ဆာလို့ ရှိရင်လဲရေပေးလို့ပေး၊ပါးစပ်ပါရဲ့နဲ့ မပြောတတ် မတောင်းတတ်ပါ၊ အောက်ရုံသာအောက်တတ်တယ်၊ ငိုရုံသာငိုတတ်တယ်၊ခြေထောက်ပါရဲ့နဲ့လဲ ကျင်ကြီးစွန့်ဖို့ ကုဋီ (အိမ်သာ)တို့ကို မသွားနိုင်လို့ ဒီနားတွင်ပဲ စွန့်ချ လိုက်ကြတာပဲ၊ ကျင်ငယ်လဲ ဒီနားတွင်ပဲ စွန့်ချလိုက်တာပဲ၊ ပါးစပ် ပါရဲ့နဲ့လဲ ခြင်ကိုက်ပါတယ်လို့ မပြောတတ်ဆိုတော့ ဒုက္ခိတကလေး ဖြစ်မနေဘူးလား။ (ဖြစ်ပါတယ်ဘုရား။)

အဲဒီ ဒုက္ခိတကလေးဖြစ်နေတာကို ဘာသစ္စာလို့ ဆိုကြမလဲ။

ဒုက္ခသစ္စာပါဘုရား။

ဒါကြောင့် ဘုရားသခင် ကိုယ်တော်မြတ်ကြီးက ခန္ဓာ ၅ ပါး ဟာ ဒုက္ခသစ္စာလို့ ဟောပါတယ်၊ ဒုက္ခသစ္စာ ဟုတ်မဟုတ် ကြည့်စမ်း၊ ခြေပါလို့ ခြေအသုံးချနိုင်ရဲ့လား။ (မချနိုင်ပါဘုရား။) လက်ပါလို့ ကော (မချနိုင်ပါဘုရား)။ ပါးစပ်ပါလို့ကော (မချနိုင်ပါဘုရား။)

ဒါဖြင့် သူ့ပေးလူပေးနဲ့ စားရတဲ့ ဒုက္ခတကလေး၊ သူ့ထူ ငါထူမှ ကြွနိုင်တဲ့ ဒုက္ခတလေးဆိုတာ ယုံကြပြီလား။

ယုံပါပြီဘုရား။

ဒါဖြင့်အခု ဒီအချိန် ဒီရောက်လာတာ ခင်ဗျားတို့ဘယ်လမ်းက လာခဲ့ကြသလဲ ဆိုရင် ဘယ်နှယ်ဖြေပါမလဲ။

ဒုက္ခတဘဝက လာခဲ့ပါတယ်ဘုရား။

ခင်ဗျားတို့က သူများခြေကျိုးလက်ကျိုးတော့ ဒုက္ခတကလေး သနားစရာလေးလို့ ပြောတတ်ကြတယ်၊ ကိုယ်ကျိုးခဲ့တာတော့ ပြန်ကြည့်တာမဟုတ်ဘူး၊ ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

အဲဒါကြောင့် ဒုက္ခတဘဝလေးကို မောင်ချစ်လှ မသောင်းတို့၊ တကာမကြီးတို့ နောက်ထပ် ရောက်ချင်ကြသေးသလား။

မရောက်ချင်ပါဘုရား။

အဲဒီမေးစ ဒုက္ခတဘဝ ဒုက္ခသစ္စာကြီးကို တပည့်တော်တို့ ရွံ့ခြင်း၊ မုန်းခြင်း၊ ငြီးငွေ့ခြင်း၊ ပျင်းရိခြင်း၊ မလိုချင်ခြင်းရှိသည် ဖြစ်ပါ၍ ဒုက္ခလွတ်ရာကိုသာ ရည်မှန်းပြီး ဤသက်နှံနဲ့တကွ လှူဖွယ် ပစ္စည်းတွေကို လှူဒါန်းပါ၏ အရှင်ဘုရားလို့ စိတ်ထဲက ပြောင်းလိုက်ပါ။

အဲဒီလို မေးဖွားခါစ ဒုက္ခတဘဝကလဲ လွတ်လာပါရော ကလေး ကြီးမြောက်လာပြီလို့ မပြောကြဘူးလား။

ပြောပါတယ်ဘုရား။

ကြီးတယ်ဆိုတာ အိုတာပဲ၊ ဇရာဒုက္ခ ရောက်တာပဲ၊ သရက်သီး ဟာ ရင့်ရင့်ပြီးလာတော့ ဦးသန်းမောင်တို့ ကြွေမလို့မဟုတ်လား။

ဟုတ်ပါတယ်ဘုရား။

ဒီမှာလဲ ရင့်ရင့်ပြီးလာတာ အိုတာပဲ မဟုတ်လား။

ဟုတ်ပါတယ်ဘုရား။

အိုရင် သေမလို့မဟုတ်လား။ (ဟုတ်ပါတယ်ဘုရား။)

ဇာတိဒုက္ခပြီး ဇရာဒုက္ခနဲ့နေရတော့ တကာ တကာမတို့ ကျုပ်တို့မှာ အမိဝမ်းထဲ နေတုန်းက ဇာတိဒုက္ခ၊အပြင်ဘက်ရောက်လာတော့ ဇရာဒုက္ခနဲ့ဆိုတော့ မောင်ချစ်လှတို့ ချမ်းသာတာ ပါသေးရဲ့လား။

မပါပါဘုရား။

ဒါဖြင့် ဘယ်အချိန်မှ မချမ်းသာဘူးဆိုတာ ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

ဒါဖြင့် အဲဒီ ဇရာဒုက္ခဆိုတာ ဝမ်းထဲက တေဇောမီးတွေက တောက်လောင်လာတော့ ခန္ဓာကိုယ်က ကြီးထွားရင့်ကျက်လာတယ်၊ အကြောတွေကလဲ မာပြီးသကာလ ရင့်ထော်လာတယ်၊ ဒါကြောင့် ဒီတေဇောမီးဟာ အိုမင်း ရင့်ကျက်ရှိတွင်မက သေခါနီးအောင် လောင်တဲ့မီးလို့ မှတ်လိုက်ကြစမ်းပါ၊ ရိပ်မိပြီလား။

ရိပ်မိပါပြီဘုရား။

ဇာတိဒုက္ခပြီး ဇရာဒုက္ခကို ဆက်တွေ့ရတာဆိုတော့ ဒီဇရာဒုက္ခကြီးကိုလဲ ရှုံခြင်း၊ မုန်းခြင်း၊ ငြီးငွေ့ခြင်း၊ ပျင်းရိခြင်း၊ လိုချင်ခြင်း မရှိသည်ဖြစ်၍၊ သူ့ကို ဦးတည့်တဲ့ဉာဏ်နဲ့ တပည့်တော်တို့သည် ဇရာဒုက္ခ၏ လွတ်ရေး၊ အဇရံ—မအိုရာဖြစ်သော နိဗ္ဗာန်ကိုသာ ရည်မှန်း၍ အဖိုးတန် သက်နှံ့၊ ထီး၊ ဖိနပ် စသည်တို့ကို လှူဒါန်းပါ၏ အရှင်ဘုရားလို့ စိတ်ပြောင်းလိုက်ပါ၊ ရှင်းပြီလား။ (ရှင်းပါပြီဘုရား။)

ကောင်းပြီ၊ တကာ တကာမတို့ ဒီခန္ဓာကြီးဟာ ဇရာက ဘယ်သွားမယ် ထင်ကြသလဲ၊ ဒီခန္ဓာကြီးဟာ သူ့လမ်းစဉ်အတိုင်း သွားနေရတော့ ဒီကနေပြီး ဗျာဓိဘက် သွားရမယ်၊ မသွားရပေဘူးလား။

သွားရမှာပါဘုရား။

ဗျာဓိဆိုတဲ့ရောဂါတွေ ဖိစီးလာမှဖြင့် ဆရာဝန်တွေက ဝိုင်းပြီး ကုကြသော်လဲ ဘယ်လူ့ ဆေးမှ မသောက်နိုင်၊ကိုယ့်ကျင်ကြီး ကျင်ငယ်တွေကိုမှ ထပြီးမစွန့်နိုင်၊ ကိုယ့်အဝတ်မှ ကိုယ် မဖုံးမဖိနိုင်တဲ့ ဗျာဓိဒုက္ခကို ရောက်အုံးမှာပဲ၊ မရောက်တော့ဘူးလား။

ရောက်အုံးမှာပါဘုရား။

ဒါဟာ ခန္ဓာကြီးရဲ့ လမ်းစဉ်မှီ ဘယ်မရောက်ဘဲ ရှိပါ့မလဲ၊ သဘောကျပြီလား။ (ကျပါပြီဘုရား။)

ဒါဖြင့် ခန္ဓာဟာ ကလဲလရေကြည် တည်စကတည်းက မကောင်းလိုက်တာ အခု အချိန်ကျအောင် ကောင်းတာ ပါသေးရဲ့လား။ (မပါပါဘုရား။)

ရောဂါတွေဖိစီးပြီး အိပ်ရာဖျာကပ် ဗျာဓိဒုက္ခကြီးနဲ့ တွေ့တဲ့အခါကျတော့ အဲဒါ ဗျာဓိ ဒုက္ခသစ္စာလို့ မောင်ချစ်လှတို့ မသောင်းတို့ တကာမကြီးတို့ မှတ်ပါ၊ အဲဒီ ဗျာဓိ ဒုက္ခကြီးကိုလဲ ရောက်ရမှာ ကေန်သိသည် ဖြစ်ပါသောကြောင့် ဤဗျာဓိ ဒုက္ခကြီး နောက်တစ်ဖန် မရလိုခြင်း စိတ်ပြင်းပြသည်ဖြစ်ပါ၍ အဗျာဓိဆိုတဲ့ မနာရာဖြစ်သော နိဗ္ဗာန်ကိုရည်မှန်း၍ တပည့်တော်တို့သည် ယနေ့အလှူပွဲကြီးကို ရေစက်ချပြီး လှူဒါန်းပါ၏အရှင်ဘုရားလို့ မောင်ချစ်လှတို့ မသောင်းတို့ တကာမကြီးတို့ စိတ်ပြောင်းလိုက်ကြစမ်းပါ၊ သဘောကျပြီလား။

ကျပါပြီဘုရား။

နောက် ဒီကနေပြီး ဘယ်ဆက်သွားပြန်သလဲဆိုတော့ ခန္ဓာကြီးရဲ့ လမ်းစဉ်အတိုင်း မဆုံးသေးဘဲကိုး၊ နာဘေးကြီးက သေဘေးကြီးဆီကို သွားရအုံးမယ်၊ သေခါနီး ဒုက္ခဆိုတာလဲ ဦးတင်တို့ ရှိသေးတယ်လို့ မှတ်ရမယ်။ (မှန်လှပါဘုရား။)

သေခါနီး ဒုက္ခကလဲ မသေးဘူးနော်၊ အကုသိုလ်တွေ လုပ်ထားတဲ့ ပုဂ္ဂိုလ်တွေကျတော့ သေခါနီးမှာ နာလိုက်တာ၊ ကျင်လိုက်တာ၊ ကိုက်လိုက်တာ၊ ခဲလိုက်တာ၊ အကြောတွေက ဟိုကဆွဲ ဒီကဆွဲနဲ့ ကိုယ်ကလဲ ဟိုစောင်းချင် ဒီစောင်းချင်ဆိုတော့ သေခါနီး ဒုက္ခကော မကြီးဘူးလား။

ကြီးပါတယ်ဘုရား။

အဲဒီ မရဏ ဒုက္ခကြီးဟာ ဘယ်သူရှိလို့ ပေါ်လာတာလဲ ဆိုတော့ ခန္ဓာရှိလို့ပေါ်လာတာ၊ ရှင်းပြီလား။

ရှင်းပါပြီဘုရား။

အဲဒီ မရဏ ဒုက္ခကြီးကလဲ တွေ့လတ္တံ့ ဖြစ်နေသောကြောင့် ဒီ မရဏဒုက္ခကြီးကို နောင်ကို မတွေ့ချင် မကြုံချင်တဲ့ ဉာဏ်နဲ့ တပည့်တော်တို့ ဤသင်္ကန်း ဖိနပ် စသည်တို့ကို သံသာဒတော် အရှင်မြတ်တို့အား အချိုးကျ ရည်မှန်း၍ လှူဒါန်းပါ၏ အရှင်ဘုရားလို့ စိတ်ကို ပြောင်းလိုက်ကြစမ်းပါ၊ ပြောင်းဖြစ်အောင် ပြောင်းပါနော်။

မှန်လှပါဘုရား။

အကယ်၍ ဒီလိုမှမဟုတ်ဘဲ ဒီနေရာ ရောက်ချင်ပါသေးတယ်ဆိုရင် ဇာတိ ပြန်လှည့်တော့မယ်၊ သေပြီးနောက် ဇာတိ ပဋိသန္ဓေ ပြန်လှည့်မယ်ဆိုရင် ဦးသန်းမောင်တို့ စိုင်းသွားပြီး ဇာတိက လာတာ၊ သေပြီး ဘယ်လှည့်မတုံးဆိုတော့ ဇာတိ ပြန်ရောက်ပြန်တယ် မဟုတ်ဘူးလား။ (ဟုတ်ပါတယ်ဘုရား။) ဇာတိ ပြန်ရောက်ပြန်တော့ ဦးတာင်တို့ တစ်ပတ် မရသေးဘူးလား။

ရပါတယ်ဘုရား။

ဇာတိ ပြန်ရောက်ပြန်တော့ ဒီလိုအပတ်ပေါင်း နောက်က ဘယ်လောက် လည်ခဲ့သတုံးလို့မေးရင် ဘယ့်နှယ်ဖြေကြမလဲ။

မရေတွက်နိုင်ပါဘုရား။

မလည်ချင်တဲ့ဉာဏ်သည် သံသရာပြတ်ချင်တဲ့ ဉာဏ်ပဲ၊ တပည့်တော်တို့ အဲဒီ ခန္ဓာသံသရာကြီး ပြတ်ချင်တဲ့ဉာဏ်နဲ့ ဖြတ်လိုသော ဆန္ဒ ပြင်းပြသည်ဖြစ်ပါ၍ ဤသင်္ကန်း ဖိနပ် စသည်တို့ကို လှူဒါန်းပါ၏ အရှင်ဘုရားလို့ စိတ်ပြောင်းရမယ်၊ ရှင်းပြီနော်။

ရှင်းပါပြီဘုရား။

အဲ ဒုက္ခခပ်သိမ်းတို့၏ ငြိမ်းရာဖြစ်သော နိဗ္ဗာန် တစ်ခုတည်းကိုသာ ရည်မှန်းပြီး လှူကြပါစို့။

ကဲ....ရေစက်ချကြစို့။

ဘန္တေ—အရှင်ဘုရားတို့၊ မယံ—အကျွန်ုပ်တို့သည်၊ ရောဂါဒီဟိ—ရောဂ အစရှိကုန်သော၊ ကောဒသဂ္ဂိဟိ - တစ်ဆယ့်တစ်ပါးသော မီး

တို့ဖြင့်၊ ပရိပိဋ္ဌိတံ—လှန်ကဲ ညှဉ်းဆဲ နှိပ်စက်၍ နေထသော၊ သံသာရဘယံ—ချားရဟတ်ပမာ ချာချာပတ်၍ တစ်ဖြစ်တည်းဖြစ်, တစ်ပျက်တည်း ပျက်၍နေသော သံသာရဘေးကြီးကို၊ ဘီတာ— အလွန်တရာကြောက်ကြပါကုန်သည် ဖြစ်၍၊ တတော—ထိုသံသရာ ဘေးဘယမှ၊ မုတ္တာ—ကင်းလွတ်ရ ပါကုန်သည်၊ ဟုတွာ—ဖြစ်၍၊ နိဗ္ဗာနံ—နိဗ္ဗာန်ချမ်းသာမြတ်ကြီးကို၊ သစ္ဆိကရဏတ္ထာယ—မကြာမတင်, ဆောလျင်ကူးမြောက်, အသော့ရောက်၍, မျက်မှောက်ပြုရပါခြင်း အကျိုးငှာ၊ ညာတာစက္ခုနာ— အမှန်ကို မြင်တတ်သော ဉာဏ်စက္ခုဖြင့်၊ ဂဝေသန္တော—ရှာမှီးကြည်ရှုသည်ရှိသော်၊ ဘိက္ခဝေ—သံသရာရေး လာမည့်ဘေးကို တွေးဆ ရှုမျှော်ကြသော သူတော်ကောင်း အပေါင်းတို့၊ ပုညံ—ကောင်းမှုကုသိုလ် ဟူသမျှသည်၊ သုခံ—လူ,နတ် နိဗ္ဗာန် သုံးတန်သော ချမ်းသာကြီးကို၊ ဇနေတိ—မုချမသွေ ဖြစ်စေတတ်၏။

ကုသိုလ်ကတော့ လူချမ်းသာ နတ်ချမ်းသာ နိဗ္ဗာန်ချမ်းသာကို ပေးတာပဲ၊ သို့သော်လဲ မောင်ချစ်လှတို့ အကြင်လင်မယားနဲ့ တကာမကြီးတို့က လူချမ်းသာဆိုတာ ဒုက္ခသစ္စာ မလိုချင်ပါ၊ နတ်ချမ်းသာဆိုတာ ဒုက္ခသစ္စာ မလိုချင်ပါ၊ နိဗ္ဗာန်ချမ်းသာမှသာ သုခသစ္စာ ဖြစ်သောကြောင့် တပည့်တော်တို့,လိုချင် ရချင်ပါ၏ အရှင်ဘုရားလို့ စိတ်ပြောင်းလိုက်ပါ၊ သတောပါရွဲလား။

ပါပါတယ်ဘုရား။

ကိုင်း...ဣတိ—ဤသို့၊ ဝုတ္တံ—သုံးလူ,ဆရာ စေသတ္တာသည် ကောင်းစွာ ထုတ်ဖော် ဟောကြားတော် မူအပ်သော စကားတော်မြတ်ကို၊ မနသိတွာ—နှလုံးနှစ်ခြိုက် ပိုက်မိကြကုန်သည်ဖြစ်၍၊ တိသရဏေန—သရဏဂုံသုံးပါးနှင့်၊ သဟ-တကွ၊ ပဉ္စသီလာနိ-အင်္ဂါငါးပါးနှင့် ပြည့်စုံသော ပရမတ္ထသီလတော်မြတ်ကို၊ သမာဒိယိတွာ, ဂဏှိတွာ-ကောင်းစွာကျင့်သုံး ခံယူဆောက်တည်ပြီး၍၊ ဣမာနိ ဝိဝရာဒိနာနာဒါတဗ္ဗဝတ္ထူနိ—ဤသက်နှီးအစရှိသော အထူးထူးသော လှူဖွယ်ဝတ္ထု အစုစုတို့ကို၊ အာယသမန္တာနံ—အရှင်ဘုရားတို့၏၊ သမ္မုခေ—မျက်မှောက်တော်၌၊ ဒက္ခိဏောဒကံ—မြတ်သော အလှူရေစက်ကို၊ နိဗ္ဗာနာယ—မအို မသေ အမြဲနေသော နိဗ္ဗာန်ကိုသာ ရည်မှန်း၍၊

သံဃသ—သံဃာတော် အရှင်မြတ်အား၊ ဒေမ—လှူဒါန်း ဆက်ကပ်ပါကုန်၏ အရှင်ဘုရား။

အဒ္ဒသုဟိ—တစ်ပါးကုန်သော၊ ပုညေဟိ—အနမတဂ္ဂသံသရာမှစ၍ ယခုဘဝတိုင်အောင် ပြုလုပ်ဆည်းပူးခဲ့ကြသောကောင်းမှုကုသိုလ်ကံ စေတနာတို့ကြောင့်လည်းကောင်း၊ မယံ—တပည့်တော် တပည့်တော်မတို့သည်၊ အဇာတိံ—ပဋိသန္ဓေ မနေရာ စင်စစ်ဖြစ်သော၊ အဇာရံ–မအိုရာ စင်စစ်ဖြစ်သော၊ အဗျာဓိံ—မနာရာ စင်စစ်ဖြစ်သော၊ အမတံ—မသေရာ စင်စစ်ဖြစ်သော၊ သိဝံ—ဇာတိဇရာ ဗျာဓိ မရဏ စသည် ထောင်သောင်း ဘေးအပေါင်းတို့ ကောင်းကောင်းကြီး ငြိမ်းအေးရာဖြစ်သော နိဗ္ဗာန်ချမ်းသာမြတ်ကြီးကို၊ ဣစ္ဆိတ ဝရေန-မိမိတို့ အလိုရှိရာ တောင်းတအပ်သော ဆုထူးဆုမြတ်အပေါင်းနှင့်၊ သစ္စိကရေယျာမ -မငြိုမငြင် ဆောလျင်ကူးမြောက် အသော့ရောက်၍ မျက်မှောက်ပြုရပါလို၏ အရှင်ဘုရား။

ဘန္တေ—အရှင်ဘုရား၊ မယံ—တပည့်တော် တပည့်တော်မတို့သည်၊ ဣမိနာဒါနပုညေန—ဤကဲ့သို့ လှူဒါန်းရသော ကုသိုလ်ကံ စေတနာတို့ကြောင့် လည်းကောင်း၊ ဣမိနာသီလပုညေန– ဤကဲ့သို့ ဆောက်တည်ရသော ကုသိုလ်ကံစေတနာတို့ကြောင့် လည်းကောင်း၊ အညေဟိ—တစ်ပါးကုန်သော၊ပုညေဟိ—အနမတဂ္ဂ သံသရာမှစ၍ ယခုဘဝအထိ ပြုလုပ်ဆည်းပူးခဲ့သော ကောင်းမှုကုသိုလ်ကံ စေတနာတို့ကြောင့်လည်းကောင်း၊ မယံ—တပည့်တော် တပည့်တော်မတို့သည်၊ အဇာတိ—ပဋိသန္ဓေဆိုတာ မြူမှ မသန်းသော ဇာတိဇာတ်တွေကင်းရာဖြစ်သော ဒုက္ခသစ္စာ၏ ငြိမ်းရာဖြစ်သော အဇာတိဆိုတဲ့နိဗ္ဗာန်ကိုသာ ရည်မှန်းပါ၏ အရှင်ဘုရား။

ဣမဿ ပုညဿ—ဤကောင်းမှုကုသိုလ်ကံ၏၊ ဘာဂံ—အဖို့ကို၊ ဂုဏဝိသိဋ္ဌာနံ—ကျေးဇူး အထူးကြီးပေလှသော၊ မာတာပိတုန္နံ—မိခင်ဘခင် ကျေးဇူးရှင်တို့အား လည်းကောင်း၊ အာစရိယာနဉ္စ—ဆရာသမားတို့အားလည်းကောင်း၊ ဣမာသံ ပရိသာနဉ္စ—ယခု စည်းဝေးရောက်လာကြသော ပရိသတ်တို့အားလည်းကောင်း ယမ ရာဇဿစ—ငရဲသဉ္ဇနင်း ယမမင်းအားလည်းကောင်း၊ ဒေဝါရာဇဿစ—နတ်တို့

သေ႑ှနင်း သိကြားမင်းအားလည်းကောင်း၊ ကေတိ သဘာဝေ— သုံးဆယ့်တစ်ဘုံ၌၊ စရန္တု ဒုနံ—ကျင်လည်ကျက်စား ပြေးသွား၍ နေကြကုန်သော၊ သဗ္ဗသတ္တာနဥ္စ — အလုံးစုံသော သတ္တဝါ တို့အားလည်းကောင်း၊ ဘာဇေမ—ရေစက်သွန်းချ အမျှပေးဝေငှပါ ကုန်၏၊ တေသတ္တာ....ထိုသတ္တဝါ အပေါင်းတို့သည်၊ အမေ့ဟိ—အကျွန်ုပ်တို့နှင့်၊ သမံ—ထပ်တူထပ်မျှ၊ ပုညဘာဂံ ကုသိုလ်အစု ကောင်းမှုအဖို့ကို၊ လဘိတွာ—အတူတကွ အမျှရကြကုန်သည် ဖြစ်၍၊ သုခိတာ—ကိုယ်စိတ်နှစ်ဖြာ ချမ်းချမ်းသာသာ ရှိကြကုန်သည်။ မုဒိတာ—ပီတိမောက်လှမ်း၍ ဝမ်းမြောက်သောစိတ် ရှိကြကုန်သည်၊ ဘဝန္တု—ဖြစ်ကြပါစေ ကုန်သတည်း။

(မောင်ချစ်လှ အမျှဝေလိုက်)

အားလုံး ကုသိုလ်အဖို့ အမျှ....အမျှ....အမျှ....

ယူတော်မူကြပါခင်ဗျား။

သာဓု....သာဓု....သာဓု

ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် လာရောက်လှူဒါန်းကြသော မည်သည့်ပုဂ္ဂိုလ်အားမဆို ပေးလှူမည့် လှူဖွယ်ပစ္စည်းကို လက်ခံတော်မမူသေးပဲ အလှူရှင်အား ဝိဝဋ္ဋဒါနဖြစ်မြောက်စေရန်၊ အလှူရှင်ပုဂ္ဂိုလ်၏စရိုက်ကိုလိုက်၍ ဒိဋ္ဌိဝိစိကိစ္ဆာ ကင်းစင်အောင်ဖြုတ်ပေးပြီးနောက် ခန္ဓာအရှိ ဉာဏ်အသိ မြင်စေရန် တရားထိုင်ခိုင်းလေ့ရှိပါသည်၊ ကျေနပ်လောက်အောင် တရားထိုင်ခိုင်ပြီးမှ အလှူပွဲမတိုင်မီ (ဝိဝဋ္ဋဒါန) အလှူအဖြစ်သို့ ထမြောက် အောင်မြင်အောင် ကြိုတင်ရေစက်သွန်းချပေးထားလေ့ ရှိပါသည်၊ ထို့ပြင် ညှော်ပရိသတ်များအား ကျေးမွေးညှော်ခံသည့် အလှူပွဲရက်အတွင်းလည်း တစ်ဖန် ရေစက်ချပေးလေ့ ရှိပါသည်။

အဆိုပါ သီတင်းကျွတ်လပြည့်ကျော်(၂)ရက်နေ့, ရေစက်ချပြီးနောက် ဦးချစ်လှ-ဒေါ်သောင်းတို့၏ ရင်သွေးများအား ဆရာတော် ဘုရားကြီးကိုယ်တိုင် သာမဏေများအဖြစ်သို့ သွတ်သွင်းချီးမြှင့်တော်မူပြီး၊ ည(၇)နာရီအချိန်တွင် ရထားထွက်ဖို့နီးပြီ မိုးချုပ်ကလေးရှိတော့တယ်ဆိုသည့် တရားကို နောက်ဆုံးဟောခဲ့ခြင်းဖြစ်ပါသည်။ သီတင်းကျွတ်လပြည့်နေ့မှစ၍ အများတရားဟောရာ၌လည်းကောင်း, တပည့်ရင်း တကာရင်းများကို ဆုံးမရာ၌လည်းကောင်း၊ (ခန္ဓာဝန်ချရတော့မည့်အကြောင်း ထင်ရှားပြတ်သားစွာ အမိန့် ရှိခဲ့ပါသည်၊) ထိုရက်များ၌ တပည့်ရင်း တကာရင်း စုံညီစွာရှိပါသော်လည်း ဆရာတော်ဘုရားကြီး ကျန်းမာစွာ သီတင်းသုံးလျက် တရားဟောမပျက်ဘဲ ရှိသောကြောင့် တပည့်တကာများကလည်း တရားအားထုတ်မှုမပျက်ဘဲ ရှိပါတော့သည်။



**ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး**
**နောက်ဆုံး ဟောတော်မူခဲ့သော (၁၅-၁၀-၆၂)**
**၁၃၂၄-ခု၊ သီတင်းကျွတ်လပြည့်ကျော် (၂)ရက်**
**"ရထားထွက်ဖို့ နီးနေပြီ မှီခိုကလေးရှိတယ်"**
**ဆိုသည့် ညနေ တရားတော်**

ကဲ....နာတဲ့လူကလဲ ခန္ဓာကြည့်ပြီး နာရမယ်၊ ဟောတဲ့ပုဂ္ဂိုလ်ကလဲ ခန္ဓာကြည့်ပြီး ဟောမယ်၊ ဘာဝနာပွားပြီး ဟောတဲ့အတွက် ဘာဝနာပွားပြီး နာရမယ်၊ ကုရုတိုင်းက လူတွေ အားလုံးကုန်ပဲ ကျွတ်တန်းဝင်ကြတယ်ဆိုတာ မနေ့က ဟောခဲ့ပါတယ်၊ ဦးသန်းမောင်တို့ ဦးတင်တို့ နာကြမယ် မဟုတ်လား။

နာမှာပါ ဘုရား။

ခင်ဗျားတို့ တရားကို ကြိုးစားစေချင်တာက တခြားကြောင့် မဟုတ်ဘူး၊ ဦးတင် ဘယ်ကလာသတုံး၊ (မပြောတတ်ပါဘူးဘုရား၊ လူ့ပြည်တော့ ရောက်လာတာပဲဘုရား။)

ဟာ....ဒါဖြင့် ခင်ဗျားကို တရားက ပို့လိုက်တာပဲ။

ဦးသန်းမောင် ဘယ်က လာသတုံး၊(တရားက ပို့လိုက်တာပါပဲ ဘုရား။။)

သို့သော်လဲ ခင်ဗျားတို့ ခြေလျင် လာသလား (ခြေလျင်လဲ မလာပါဘူးဘုရား)။ အဲ တရားပို့လိုက်တာနဲ့ လူ့ပြည် ရောက်လာတာပဲ။

ဒါကြောင့် ခင်ဗျားတို့မှာ တရားသာအမိ တရားသာအဖပါပဲ၊ တရားကပို့လို့ ရောက်လာတယ်ဆိုတော့ နောက်တစ်ခါတရားကပို့လို့ ရောက်ရတာပဲ၊ ခင်ဗျားတို့ ပစ္စန္တရစ်မရောက်မှ၍စဉ်းစားပါအုံး၊ပစ္စန္တရစ် ဇနပုဒ်မှာရောက်နေတဲ့ပုဂ္ဂိုလ်လဲ မြို့ကြီးပြကြီးပညာရှိ

သူ့ဒ တ်ကောင်း ပေါများတဲ့ နေရာကို ရောက်လာတယ်၊ ဒါလဲ ဘယ်သူ ပို့လိုက်ပြန်သလဲ ဦးတင်။

တရားက ပို့လိုက်တာပါဘုရား။

ဦးသန်းမောင်ကော မွေးတာက ဒါနိဘီမြို့၊ ကြီးပွားတာက ရန်ကုန်မြို့၊ ဒါ ဘယ်သူပို့လိုက်တာလဲ မေးရင် (တရားက ပို့ပါ တယ် ဘုရား။)

အဲဒါကြောင့် တရားပဲအားကိုးရာရှိတော့တယ်ဆိုတာကို သေသေ ချာချာ မှတ်ပါ၊ တကာ တကာမတွေ ဘာအားကိုးကြမလဲ(တရား အားကိုးကြရမှာပါ ဘုရား။)

ကဲ....ဒီတကာ တကာမတွေကို သက်သေသာဓကေ လုံလောက် အောင် ရှင်းပြပါအုံးမယ်။

ဘုရားသခင်ကိုယ်တော်မြတ်ကြီး ဘုရားဖြစ်လာတယ်၊ ဘုရား ဖြစ်လာတော့ ဩော်....ငါ အတုမရှိတဲ့ ဘုရားတော့ ဖြစ်လာပြီ၊ ငါ့ ထက်သာတဲ့ပုဂ္ဂိုလ် ရှိရင်ဖြင့် ကိုးကွယ်မယ်၊ ဆည်းကပ်မယ်၊ ပူဇော် မယ်၊ ပသမယ်လို့ ဘုရားသခင် ကိုယ်တော်မြတ်ကြီးက ၃၁ ဘုံထဲ မှာ လျှောက်ပြီးသကာလ ကြည့်လိုက်တယ်၊ငါ့ထက် သီလ,သမာဓိ ပညာသာတဲ့ပုဂ္ဂိုလ် ရှိရင်ဖြင့် ငါကိုးကွယ်မယ်၊ ဆည်းကပ်မယ်လို့ ဆို တော့ တစ်ယောက်မှမမြင်ဘူး၊ (မှန်ပါ။) ဒီလို တစ်ယောက်မှမမြင် တော့ သူ့ဟာသူ တွေးလိုက်တယ်၊ ငါ ဘယ့်နှယ်ကြောင့် ဘုရား ဖြစ်လာရတာလိမ့်တုန်းလို့ တွေးတော့မှ တရားကြောင့် ဘုရားဖြစ် လာရတာပဲ၊ တရားပဲ ကိုးကွယ်မှဖြစ်မယ်၊ ကိုင်း....ပေါ်ကြပြီလား။ ပေါ်ပါပြီ ဘုရား။

ဘုရားက သူ့ထက် သီလသာရင် သီလသာတဲ့ ပုဂ္ဂိုလ်ကို ကိုးကွယ်မယ်၊ ပညာသာရင် ပညာသာတဲ့ပုဂ္ဂိုလ်၊ သမာဓိသာရင် သမာဓိသာတဲ့ ပုဂ္ဂိုလ်ကို ကိုးကွယ်မယ်ဆိုပြီး (၃၁)ဘုံထဲ ဦးသန်း မောင် ဉာဏ်နဲ့ကြည့်လိုက်တယ်၊ (မှန်ပါဘုရား။)

လူ့ပြည်, နတ်ပြည်, ဗြဟ္မာ့ပြည်တွေ ထဲမှာပေါ့၊ ရှာလို့ကို မတွေ့ဘူး၊ ဒီတွင်မှ ငါသည် ဘယ်နှယ်ကြောင့် ဘုရားဖြစ်လာပါ

လိမ့်မလဲလို့ ဆင်ခြင်လိုက်တော့၊ ဩော်...တရားအားထုတ်လို့ ဘုရားဖြစ်လာတာ ရှင်းကြပြီလား၊ (ရှင်းပါပြီဘုရား)။

ဘုရားဘာဖြစ်လို့ ဘုရားဖြစ်၊ တရားအားထုတ်လို့ဘုရားဖြစ်လာတယ်ဆိုတာ ပေါ်ကြပြီလား။ (ပေါ်ပါပြီဘုရား။)

ဒါဖြင့် တရားကိုးကွယ်မှုပဲဆိုတဲ့စိတ် ပေါ်ပြီးသကာလ ငါ တရားကိုးကွယ်မှုပဲဆိုပြီး ဆုံးဖြတ်လိုက်တယ်လို့ ဦးအောင်ဇံဝေတို့ ဦးသန်းမောင်တို့ ဦးတင်တို့ မှတ်ရမယ်။

မှန်လှပါ ဘုရား။

ဒါဖြင့် ခင်ဗျားတို့လဲ ဩော်—ဒီအတိုင်းနေလို့တော့ မဖြစ်တော့ဘူး၊ တရားပို့လို့ရောက်တာ၊ စုတေမနေ သေလွန်လို့ရှိရင်လဲ တရားပို့တဲ့ဆီ သွားရမှာပဲ၊ ဒီတရားကိုရွေးပြီး သကာလ ဘယ်တရားပို့တာ ကြိုက်တယ်ဆိုတာ ဆရာဘုန်းကြီးက ဝေဖန်မယ်၊ အကုသိုလ်တရားက ပို့တာကြိုက်သလား၊ ဒါနကုသိုလ်တရားပို့တာ ကြိုက်သလား၊ သီလကုသိုလ်တရားပို့တာ ကြိုက်သလား၊ သမထကုသိုလ်တရားပို့တာ ကြိုက်သလား၊ ဝိပဿနာကုသိုလ်တရားပို့တာ ကြိုက်သလားလို့ မေးတော့ မေးခွန်း ၅-ခုထွက်လာတယ်၊ ဒီတရားတွေကတော့ ပို့မည့် တရားတွေဆိုတာ အမှန်ပဲ။

ဘုရားသခင် ကိုယ်စား ဘုန်းကြီးက ဝေဖန်လိုက်တယ်၊ ဒီ ၅-မျိုး ဝေဖန်လိုက်တော့ကို မောင်ချစ်စိန်တို့က ဟာ....အကုသိုလ်ပို့တဲ့ဆီတော့ တပည့်တော်တို့ မသွားချင်ဘူးဘုရား၊ အပါယ်လေးပါးသာ ရလိမ့်မယ်၊ အကုသိုလ်တရားပို့ရင် အပါယ်လေးပါးကို ပို့တာ၊ ဒါတော့ မသွားချင်ဘူး၊ ဦးအောင်ဇံဝေတို့လဲ မသွားချင်ဘူး၊ နောက်ကသီလရှင်တွေကကော သွားချင်သလား။(မသွားချင်ပါဘုရား။)

ဒါနကုသိုလ်က ဇို့လိုက်ပြန်တော့လဲ လူပြည်နှင့် နတ်ပြည်ပို့တယ်၊ ပို့ပြန်တော့လဲ အခု ဆရာဘုန်းကြီးထံ ဆည်းကပ်နေတဲ့တကာ တကာမတွေဖြစ်လာတော့ ဒီမှာ အိုဘေး၊နာဘေး၊သေဘေးရှိတယ်ဆိုတာ သိပြီးသား ဖြစ်နေပါတယ်၊ ဒါဖြင့် သူ ပို့တဲ့နေရာ တပည့်တော်တို့ မသွားနိုင်ဘူး။

ဘာဖြစ်လို့ဆိုတော့လဲ အိုဘေး--နာဘေး-- သေဘေးကို ကြောက်တယ် မဟုတ်လား။ ဟုတ်ပါတယ်ဘုရား၊

သီလ ကုသိုလ်ကလဲ ပို့မှာပဲ၊ အကနိဋ္ဌ ဗြဟ္မာ့ဘုံထိအောင် ပို့မှာပဲ၊ နတ်ပြည်ကစပြီး ဘယ်ဘုံပို့ပို့ သူကလဲ အိုဘေး နာဘေး သေဘေးရှိတဲ့ဆီကိုပို့မှာပဲ၊ဒါဖြင့် သီလကုသိုလ်ပို့တဲ့ဆီကိုလဲ သွားလို့ တော်ပါ့မလား ဦးသန်းမောင်၊ (မတော်ပါဘုရား၊)ဟိုမှာ ဒုက္ခသစ္စာ ရှိတယ်၊ မရှိဘူးလား, (ရှိပါတယ်ဘုရား၊) ရောက်တဲ့နေရာမှာ ဒုက္ခသစ္စာရှိတယ်ဆိုတာ ပေါ်ပြီလား (ပေါ်ပါပြီ ဘုရား။) ဒါဖြင့် အဲဒီကော သွားချင်ကြသေးသလား။ (မသွားချင်ပါ ဘုရား။)

ဒုက္ခလွတ်ရာမှ ကျုပ်တို့ အားကိုးရမှာကိုး၊ သမထကုသိုလ် အားထုတ်ပြီးသကာလ သမထကုသိုလ်ပို့ရာ သွား မ လား ဆို တော့ ဦးတင် ဗြဟ္မာ့ဘုံ ၂၀ သွားရလိမ့်မယ်၊ သွားချင်ကြရဲ့လား။

မသွားချင်ပါ ဘုရား။

အလကား သက်ဆိုးရှည်နေတာပဲ၊ ခန္ဓာဝန်ထမ်းပြီးသကာလ အိုဘေး နာဘေး သေဘေးတွေနဲ့ အတူတူနေရတာဖြစ်နေသောကြောင့် လဲ သမထကုသိုလ် ပို့ရာကိုလဲ တို့မသွားဘူး၊ ဒါဖြင့် အခုပြောခဲ့တဲ့ (၄)ချက်ကို ဦးတင်လဲ မကြိုက်ဘူး၊ ဦးသန်းမောင်လဲ မကြိုက်ဘူး။ ဒါဖြင့် ဝိပဿနာကုသိုလ်ပို့တဲ့နေရာကိုကော မကြိုက်ဘူးလား၊ဟော — တကာ တကာမတွေကို မေးလိုက်လို့ရှိရင်ဖြင့် ဟင် သူကတော့ဖြင့် နိဗ္ဗာန်ပဲပို့မယ်၊ ဒုက္ခခပ်သိမ်းငြိမ်းတဲ့ နိဗ္ဗာန်ပဲပို့မယ် ရှင်းကြပြီလား၊ (ရှင်းပါပြီဘုရား။) ဒါဖြင့် ဘယ်ဟာ အကြိုက်ဆုံးလဲ၊ (ဒုက္ခ ခပ်သိမ်း ငြိမ်းတဲ့ နိဗ္ဗာန် အကြိုက်ဆုံးပါ ဘုရား။)

ကိုင်း....ဒါဖြင့် တရားပို့လို့ ခုဒီနေရာရောက်လာပြီး နောက် တစ်ခါ ဘယ်တရားပို့တဲ့ဆီကို ခင်ဗျားတို့သွားမတုံးလို့ မေးတော့ တပည့်တော်တို့ သစ္စာသိပြီ ဘုရာ့၊ ဒုက္ခသစ္စာဆီတော့ မသွားချင်ဘူး၊ ဒုက္ခသစ္စာမရှိတဲ့ဆီတော့ တပည့်တော်တို့ သွားချင်တယ်၊ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

ဒါဖြင့် ဒုက္ခသစ္စာမရှိတဲ့ဆီပဲ တပည့်တော်တို့ သွားချင်တယ် ဆိုရင်ဖြင့် ဝိပဿနာကိုကြိုးစား၊ မဂ်ဆိုက်သွားလိမ့်မယ်၊ မဂ်ကပို့လို့ ရှိရင်ဖြင့် နိဗ္ဗာန်မှတစ်ပါး ဦးအောင်ဇံဝေ ဘယ်မှမပို့ဘူး၊ ဒုက္ခထဲ ပို့သေးရဲ့လား။ (မပို့ပါဘုရား။)

ဒါဖြင့် တရားတွေအများကြီးရှိတဲ့ အနက်က ဘယ်တရား အကြိုက်ဆုံးလဲလို့ မေးရင် ဦးတင် ဖြေစမ်း၊ (ဒုက္ခသစ္စာ မရှိရာပါ ဘုရား။) ပေါ်ပြီလား (ပေါ်ပါပြီဘုရား။) ဘယ်သူ့ဆီရှာ သွားချင် သလဲ၊ (ဝိပဿနာဆီရှာ သွားချင်ပါတယ် ဘုရား။)

ဝိပဿနာဆီရှာ သွားချင်ကြတယ်ဆိုတာ ဟုတ်တယ်၊ ဝိပဿနာ ကတော့ ကိလေသာဖြတ်ပြီးသကာလ ကိလေသာဖြတ်၊ ကံဖြတ်ဖြစ် လေသောကြောင့် ကိလေသာကို ဖြတ်လိုက်တယ်ဆိုတော့ ကိလေသာ ဝဋ်ပြတ်ပြီလို့ ဦးတင်ကမှတ်လိုက်ပါ၊ (မှန်လှပါဘုရား။) ကံဖြတ်လိုက် တယ် ဆိုကတည်းက ကမ္မဝဋ်ကော၊

ပြတ်ပါတယ်ဘုရား။

ကမ္မဝဋ်ပြတ်တော့ ဦးသန်းမောင်က သူ အကျိုးပေးမည့် ဝိပါကဝဋ်လုပ်ချင်လို့ ရသေးရဲ့လား။ (မရပါဘုရား။)

ကံပဲဖြတ်လိုက်ပေါ့ မဟုတ်ဘူးလား၊ (ဟုတ်ပါတယ်ဘုရား။) အဲဒါကြောင့် ဝိပဿနာကတော့ဖြင့် တကာ တကာမတို့၊ ဝဋ် ၃ ပါးမှ ကျွတ်တဲ့ဆီပို့တယ်။

ဇီကနေ့တရားမှာ အဆီအသားချည်း ဟောနေတယ်ဆိုတာ အသေအချာ မှတ်စမ်းပါ၊ အဆီအသားနဲ့ အစစ်တွေရွေးပြီးသကာလ တရားအစချီကတည်းက အင်မတန်သိစေလိုတဲ့ ဆန္ဒနဲ့မရွေးတတ်မှာ စိုးလို့ ရွေးပုံခြင်းရာ အင်္ဂါတွေနဲ့ ပြည့်စုံအောင် ပြောလိုက်ပါတယ်။

မှန်လှပါဘုရား။

ကိုယ်လာတာ မသိမှာစိုးပြီး အရမ်းလာခဲ့တယ် ဆိုတာလဲ သိအောင်လို့ အရမ်းတရားတွေပို့လိုက်တော့ ခင်ဗျားလဲ အရမ်းရောက် ချင်သလို ရောက်လာတာ, ပေးတာ မရွေးတတ်ဘူး၊ သစ္စာမသိလို့။ မှန်ပါဘုရား။

သူ့ပို့ရာ ကျုပ်သွားမယ်ဆိုတဲ့ အဓိပ္ပာယ် ရောက်နေတယ်၊ ယခု တော့ ကျုပ်တို့ရွေးပြီးသကာလ ပို့ခိုင်းမယ်၊ ဒီသဘောဟာ သေးတာ မဟုတ်ဘူး၊ ဒီသဘော မသေးဘူးဆိုတာ ဦးတင် သေသေချာချာ မှတ်ပါ၊ ဦးသန်းမောင် (တရား) ဆိုတာပထမတရားပို့လို့ ရောက်တယ် ဆိုတာသိတော့ တချို့ တရားပို့လိုက်တာ အပါယ် ၄ ပါးကျရောက် သွားတယ်၊ (မှန်လှပါဘုရား။)

တချို့ တရားကပို့လိုက်တာ နတ်ပြည်ရောက်ပြီး ကျွမ်းထိုး မှောက်ခုံ အပါယ်ပြန်ကျတယ်၊ တချို့ တရားကပို့လိုက်တာ ဗြဟ္မာ့ပြည် ရောက်ပြီး ကျွမ်းထိုး မှောက်ခုံ ဗြဟ္မာ့ပြည်ကနေပြီး အောက်ပြန်ကျ တယ်၊ ဒီတရားတွေကို ခင်ဗျားတို့ အားကိုးရာ အားထားရာအဖြစ်နဲ့ လုပ်လို့ တော်ပါ့မလားဆိုတာ ယနေ့ မေးပါတယ်။ (မတော်ပါ ဘုရား။)

မတော်ဘူး, ဗီလိုမတော်ဘူးဆိုတဲ့ အသံကလေးဟာ ဦးတင် ဦးသန်းမောင်, ဦးအောင်ဇံဝေ၊ မတော်ဘူးလို့ ခင်ဗျားတို့ ပါးစပ် ကလေးက ထွက်လာတာဟာ သစ္စာသိလို့ ထွက်လာတာ၊ (မှန်လှပါ ဘုရား။) ဘာဖြစ်လို့ထွက်, သစ္စာသိလို့ ထွက်တာပါဘုရား၊ သစ္စာ သိလို့၊ ဪ.... တပည့်တော်တို့ နတ်ပြည်ဆိုတာလဲ ဒုက္ခသစ္စာပဲ၊ (အိုဘေး, နာဘေး,သေဘေး)နဲ့ကို ဘုရား၊သောက ပရိဒေဝတွေ ဘုရား, မတွေ့ဘူးလား၊ အဲဒီလို သစ္စာသိတော့, ဦးသန်းမောင် နတ် ပြည်သွားချင်သေးသလားဆိုတော့ (မသွားချင်ပါဘုရား။)

ဘာဖြစ်လို့တုံး၊ အိုနာသေ ရှိတယ်ဘုရား၊ ပထမ ပျော် သလိုလိုနဲ့၊ နောက် ပျင်းခန်း(ဒုက္ခ)နဲ့ ဇာတ်သိမ်းရလိမ့်မယ်၊ ကောင်း ကြပါ့မလား, (မကောင်းပါဘုရား။) ကိုင်း-ဘယ်ပုဂ္ဂိုလ်တွေ ရွေး တတ်ပါသလဲလို့ မေးတော့ခင်ဗျားတို့ရွေးတတ်တယ်၊ဒီတကာ တကာ မတွေကို သစ္စာဟောထားလို့ အိုဘေး, နာဘေး,သေဘေး မရှိတာ ဟာ နိဗ္ဗာန်ကိုး၊ အိုဘေး,နာဘေး,သေဘေးရှိတာတွေက လူ့ပြည်, နတ်ပြည်, ဗြဟ္မာ့ပြည်, အပါယ် ၄ ပါးကို အဲဒီတော့ ဓမ္မ ၅ မျိုးရှိတဲ့ အနက်က အကုသိုလ်ပို့ရာ အပါယ်လေးပါးကိုလဲ တပည့်တော်တို့ မသွားဘူးဘုရား၊ ဒါနကုသိုလ်ပို့ရာကိုလဲ တပည့်တော်တို့ မသွားဘူး

ဘုရား၊ လူတော့လူရတယ်၊ လူပေမယ့် သူတို့ပို့တဲ့ဆီတော့ မသွားဘူး၊ ဟုတ်ကဲ့လား။

မှန်ပါဘုရား။

သူကတော့ ပို့မှာပဲ၊ မသွားဘူး၊ ခင်ဗျားက ကျုပ် ဒါန ကုသိုလ်လုပ်ပေမယ်လို့ ဒုက္ခသစ္စာလိုချင်လို့ လှူတာ မဟုတ်ဘူးဆိုတော့ သွားသေးသလား။ (မသွားပါဘုရား။)

အဲဒီတော့ သစ္စာသိထားမှ ဒါနလဲ လမ်းဆုံးပို့တယ်၊ သီလ ကကော လမ်းဆုံးပို့တယ်၊ လမ်းဆုံးဆိုတာ နိဗ္ဗာန်ပဲ၊ သမထကကော (လမ်းဆုံးပို့ပါတယ်ဘုရား။) ဝိပဿနာကတော့ ခင်ဗျားတို့က ပို့ပါလို့ မဆိုနဲ့တော့၊ သူက ကိလေသာဖြတ်၊ ကံဖြတ် အကျိုးပေးဖြတ်ကိုး၊ ရှင်းပြီလား။ (ရှင်းပါပြီဘုရား။)

ဒါဖြင့် သူကတော့ ကိလေသဝဋ်၊ ကမ္မဝဋ်၊ ဝိပါကဝဋ် ဖြတ်လိုက်တဲ့အတွက် ဝဋ်ကျွတ်တဲ့နေရာ ပို့မှာပဲဆိုတာ ဦးသန်းမောင် မှတ်လိုက်ပါ၊ ဒါဖြင့် ဩဇာ တို့ဆရာ ဘုန်းကြီးသည် တို့ အကျိုးကို အများကြီး အလိုရှိတဲ့အတွက် တို့ကို ဘာအရေးတကြီး ပြောနေသတုံး ဆိုတဲ့အခါကျတော့ အားကိုးထိုက်တာ အစစ် ရှာကြဖို့ ပြောတာပါပဲ ဦးတင် ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

ဘယ်လိုပေါ်သတုံး၊ အားကိုးထိုက်တာ အစစ်ရှာ၊ ဒီရှာနည်း နိဿျည်းကိုလဲ တကာ တကာမတွေက စဉ်းစားကြအုံး၊ သစ္စာမသိတဲ့ ပုဂ္ဂိုလ်ဟာ ဘာမှမရှာတတ်ဘူး၊ ဖြစ်သမျှအကြောင်း အကောင်းချည့် ပြောတာပဲ၊ သစ္စာမသိတဲ့ ပုဂ္ဂိုလ်ဟာ ဘယ်လိုပြောလေ့ရှိသလဲ။

ဖြစ်သမျှအကြောင်း အကောင်းချည့်ပါဘုရား။

အဲဒါ သူ့ဟာသူ ရွေးတတ်လို့ ပြောတာလား၊ မရွေးတတ်လို့ ပြောတာလား။ (မရွေးတတ်လို့ ပြောတာပါဘုရား။)

ဒါဖြင့် ဒီနေ့ည ဘုန်းကြီးက ခင်မျှားတို့ဟာ ကလေးစိတ် ဖြစ်ပြီးသကာလ နေပြားသော်လည်း လူကြီးစိတ် သွင်းပေးတယ်လို့ မဆိုနိုင်ဘူးလား။ (ဆိုနိုင်ပါတယ်ဘုရား။)

နဂိုကတော့ဖြင့် ဖြစ်သမျှ အကြောင်း အကောင်းချည့်ပဲ၊ ဦးသန်းမောင်တို့လဲသုံးမှာပဲ၊ ဦးတင်တို့လဲသုံးမှာပဲ။(မှန်လှပါဘုရား။) မဟုတ်ဘူး၊ဖြစ်သမျှအကြောင်း အကောင်းဆိုတာ သူလုပ်သလို ခံမယ် ဆိုတာ မင်းတို့က ကြိုက်တာရွေးအုံးမှပေါ့၊ သူလုပ်သလို ခံတော့ မလားလို့ ဘုန်းကြီးကမေးရမယ်၊ ဖြစ်သမျှအကြောင်း အကောင်းချည့်ပဲဆိုရင် သူလုပ်သလို ခံမယ်ဆိုတဲ့ အဓိပ္ပာယ် မရောက်ဘူးလား၊ အခုဟာ မင်းတို့လုပ်သလို မခံဘူး၊ ငါ သစ္စာသိထားတယ်၊ အပို့ ကောင်းကို ရှာမယ်ဆိုတော့ အတော် ထင်ရှားသွားပြီ၊ မထင်ရှား သေးဘူးလား။

ထင်ရှားပါတယ်ဘုရား။

အပို့ကောင်း ရွေးတတ်တယ်၊ ဦးအောင်ဇံဝေ အပို့ကောင်းကိုရွေးတတ်တယ် ဆိုကတည်းက ဦးသန်းမောင် ဘာဖြစ်လို့ ရွေးတတ်သလဲ၊ (သစ္စာသိလို့ ရွေးတတ်ပါတယ် ဘုရား။) ဘယ်လောက် ကျေးဇူးများသလဲ မောင်ချစ်စိန်၊ ဒါဖြင့် တကာ တကာမတွေ ပြောတဲ့ စကား ဖြစ်သရွေ့အကြောင်း အကောင်းချည့်ပဲ၊ ကံစီမံသလို မလုပ် ပါနဲ့၊ ဉာဏ်စီမံသလို လုပ်ပါ၊ ဝိပဿနာဆိုတာ ဉာဏ်လမ်း၊ ဉာဏ်မှ ဖြစ်ပျက် မြင်တာ၊ ကံစီမံသလို ခံရမှာပဲဆိုတာ ဦးတင် ဒီအသုံးမသုံးနဲ့။ ဆရာဘုန်းကြီးက သာမညဘုန်းကြီး မဟုတ်ဘူး၊ ခင်ဗျားတို့ ဉာဏ် ပေးတာ၊ ဉာဏ်စီမံရာ သွားပါ။ ကံစီမံတာက ၃၁ ဘုံ၊ဉာဏ်စီမံ တာက ၃၁ ဘုံအပြင်ဘက်၊ ပေါ်ပြီလား။

ပေါ်ပါပြီဘုရား။

ကံစီမံတာက (၃၁ ဘုံပါဘုရား။) ဉာဏ်စီမံတာက (၃၁ ဘုံ အပြင်ဘက်ပါဘုရား။) ၃၁ ဘုံ အပြင်ဘက်ထွက်မှ နိဗ္ဗာန်ရောက်သေစွာပဲ၊ ပေါ်ပြီလား။(ပေါ်ပါပြီဘုရား။) ဒါဖြင့် ဦးအောင်ဇံဝေတို့ ဘယ်သူ စီမံရာ လိုက်ရမှာလဲ၊ ဉာဏ်စီမံရာ လိုက်ရမယ်၊ ဉာဏ်ကလဲ တစ်ခါ ခွဲကြ

အုံးစို့၊ ဉာဏ်က ဘယ်လိုခွဲမလဲလို့ မေးတဲ့အခါကျတော့မှ ဦးတင်တို့ တရားသားချည့် ပြောရတဲ့အတွက် မှတ်ပည်သာ စိတ်ကူးပေတော့၊ ဉာဏ်က ဉာဏ်စီမံသလို သွားမယ်ဆိုတော့ ကမ္မဿကတာဉာဏ်တစ်မျိုး ကောင်းတာလုပ် ကောင်းကျိုးပေးတဲ့ ဉာဏ်ကလေးလောက်ကိုလဲ သူစီမံသလို ဦးသန်းမောင်က လိုက်နေတယ်၊ မလိုက်ဘူးလား။

လိုက်ပါတယ်ဘုရား။

ကောင်းတာလုပ် ကောင်းကျိုးပေးတယ်ဆိုတာ ကမ္မဿကတာဉာဏ်မလိုက်နဲ့ မရှက်ကြဘူးလား၊ သုဂတိတော့ ပို့လိုက်တာပဲ၊ ပို့ပေမယ့်လဲ ဒိဋ္ဌိတန်းလန်းပါသွားတယ်။ငါလုပ်လို့ ငါရတယ်ဆိုတဲ့ ဒိဋ္ဌိက မပါဘူးလား၊ အဲဒါက ကမ္မဿကတာဉာဏ် ပို့ရာကိုလဲ ဦးတင်က မလိုက်နဲ့။ (မှန်ပါဘုရား။)

ဒိဋ္ဌိပါသွားတယ်၊ ခွဲပြထားတယ်၊ ပို့လဲပို့ အောက်ကိုလဲ ဆွဲချလိုက်တယ်ဆိုတော့ ကောင်းသေးရဲ့လား။ (မကောင်းပါဘုရား။) ပေါ်ပြီလား။ (ပေါ်ပါပြီဘုရား။)

ဩော်....ဒါဖြင့် ကမ္မဿကတာဉာဏ် ပို့ရာကို တပည့်တော်မလိုက်ဘူးဆိုတော့ ဘာဖြစ်လို့တုံးဆိုရင် အို— ပြန်ရောက်အုံးမှာဘုရား၊ ဒိဋ္ဌိကြီးနဲ့ ဒိဋ္ဌိတန်းလန်းနဲ့ ဆက်သွားတာကိုး။အချို့ တကာတကာမတွေကတော့ မကြားဖူး ပေဘူး၊ ဦးသန်းမောင်တို့တော့ တစ်လောက ပြောဖူးတယ်၊ ငှက်တစ်ကောင်၊ ဒီငှက်ကလဲ အင်မတန် ကြီးတယ်။ ဒီကျောင်းလောက် ကြီးတဲ့ ငှက်ကြီး၊ ထားပါတော့ ထိုငှက်ကြီးကို အဆိပ်လူးတဲ့မြားကလေးနဲ့ ပစ်လိုက်တဲ့အခါကျတော့ အဆိပ်လူးတဲ့မြားတံက သေးသေးလေး၊ အဖျားက ချွန်ချွန်ကလေးသာရှိတာပေါ့။ အဲဒါလေးနဲ့ မှန်တယ်၊ မှန်ပေမယ့် ငှက်ကောင်ကကြီးတော့ အဆိပ်က ပြန့်းကနဲ ချက်ချင်းမပြန့်ဘူး။ မပြန့်သေးတော့ ပျံတက်သွားတယ်၊ ပစ်လိုက်တဲ့အခါ မှန်တော့ မှန်တယ်၊ ပျံတက်သွားပေမယ့် အဆိပ်မပြန့်ခင်သာ ပျံနိုင်တာကိုး၊ အဆိပ်ပြန့်တော့ ဘယ့်နှယ်နေမလဲ။(မပျံနိုင်ပါဘုရား...။)ပုံးကနဲ ပြန်ကျတယ်။

ကမ္မဿကတာဉာဏ်က ဒိဋ္ဌိအဆိပ် မပြန့်ခင် တက်တယ်၊ ဒိဋ္ဌိအဆိပ်ပြန့်တဲ့အခါ ပုံးဆို ထိုးကျလာတယ်၊ ပေါ်ပြီလား။ (ပေါ်ပါပြီဘုရား။) ကမ္မဿကတာဉာဏ်လောက်ကို ဘုန်းကြီးတို့ တကာတကာမတွေ ငါ့လူရင် ငါရတယ်ဆိုတဲ့ တစ်လုံးလောက်ကို ဦးတင်တို့ ဦးအောင်ဇံဝေတို့က ကိုးစားလောက်ပြီ အားထားလောက်ပြီဆိုတဲ့ စိတ်ကို ဖျောက်ပစ်ပါ။ အဆိပ်မပြန့်ခင် တက်တာပေါ့၊ အဆိပ်ပြန့်ရင် ဒိငှက်ကြီး ဘာဖြစ်မှာတုံး။

ပြန်ကျမှာပါ ဘုရား။

ဒီမှာလဲ ကုသိုလ်မကုန်ခင် အထက်တက်တယ်၊ ဒိဋ္ဌိအဆိပ်ပြန့်တာနဲ့ တစ်ချက်တည်း ကျတာပဲ၊ ဒါဖြင့် ကမ္မဿကတာဉာဏ်က ဒိဋ္ဌိ မပြုတ်နိုင် မပယ်နိုင်ဘူးဆိုတာ ရှင်းပြီလား။

ရှင်းပါပြီဘုရား။

ဒီတစ်လုံးဟာ သေပျော်တဲ့ တစ်လုံးလို့ မှတ်လိုက်စမ်းပါ၊ နည်းနည်းနောနော မဟုတ်ဘူး၊ ဆရာသမားတွေက သူ့ကိုပဲ အရေးတကြီး ပြောနေတယ်၊ ဦးသန်းမောင် မင်းတို့က ဒီဘဝ ကျန်းမာချမ်းသာတယ်၊ နောက် ဘဝလဲ ကျန်းမာ ချမ်းသာမှာပဲ၊ မင်းတို့လုပ်ကိုင် လှူဒါန်းတာတွေ နည်းတာမှ မဟုတ်တာ၊ မင်း ရမှာပေါ့လို့ မပြောပေဘူးလား။ (ပြောပါတယ်ဘုရား။)

ဒါ ဒိဋ္ဌိ ဦးစီးပြီး ပြောတာ၊ ကိုယ်ကလဲ မယုံဘူးလားဆိုတော့ ကိုယ်လုပ် ကိုယ်ရတာဆိုတော့ အသိသားပဲ၊ ဒိဋ္ဌိက မပါဘူးလား။

ပါပါတယ်ဘုရား။

ဒါက ကမ္မဿကတာဉာဏ်၊ ဒိဋ္ဌိပါတယ်ဆိုတော့ ဒိဋ္ဌိဉာဏ်စီစဉ်ရာကိုတော့ မလိုက်ဘူး၊ ဆရာကောင်း သမားကောင်း တွေ့နေမှပဲ ဒီအဓိပ္ပာယ်လဲ ပေါ်တယ်နော်၊ ဦးသန်းမောင် မတွေ့ရင် ပေါ်ပါ့မလား။ (မပေါ်ပါဘုရား။)

ဦးအောင်ဇံဝေကလဲ အတူတူပဲ၊ မင်းတို့ လုပ်တာတွေ ဘယ်သွားမလဲကွ၊ ကိုယ်လုပ် ကိုယ်ရမှာပေါ့ ဆိုတော့ကို သူများပြောလိုက်ရင် ကိုယ်ကလဲ ငါလုပ် ငါရမှာပဲလို့ ယူမယ်၊ ယူရင် ဒိဋ္ဌိပါမပါ။

ပါပါတယ်ဘုရား။

ပါရင် ကုသိုလ်ကလဲ ပို့လိုက်မှာပဲ၊ ဒိဋ္ဌိကလဲ၊လိုက်သွားမှာပဲ၊ ငှက်ကြီးလိုပဲ အဆိပ်မပြန်ခင် လန့်ပြီးပျံတဲ့ အနေတော့ တက်သွားပါရဲ့၊ အဆိပ်ပြန်တော့ လန့်ပျံ ပျံနိုင်သေးရဲ့လား၊ အပါယ်လေးပါးကိုပြန်ကျတယ်၊ အားကိုးလောက်ကဲ့လား။

အားမကိုးလောက်ပါ ဘုရား။

**ဒီည တရားမှာ အဆိတွေ ထုတ်ပြီးတော့ ထပ်ရွေးပြန်ပါတယ်၊ ဒါ နည်းတဲ့ အသုံးအနှုန်း မဟုတ်ဘူး၊ ဉာဏ်တွေကို စစ်တာ၊ ဒါဖြင့် ဒီဉာဏ် အားကိုးလို့ရှိရင် ဒုက္ခရောက်မှာဖြစ်လို့ ဘုရားတပည့်တော်တို့ ကမ္မဿကတာဉာဏ်လောက်ဖြင့် အားမကိုးတော့ဘူး၊ အခု ဆရာသမားပြောလို့ ရှင်းပါပြီ၊ ဒိဋ္ဌိတန်းလန်းနဲ့ ဆိုတာတော့ ယုံကြည်ပြီနေ၊ ဘယ်ဉာဏ်များ အားကိုးရပါ့မလဲလို့ ဦးသန်းမောင်တို့က စောဒကတက်တော့ရင် ဘယ်ဉာဏ် အားကိုးရမလဲဆိုတော့ နာမရူပပရိစ္ဆေဒဉာဏ်ဆိုတာ ရှိတယ်၊ ဒုတိယဉာဏ် တက်လာတယ်၊ ခုတင်က ကမ္မဿကတာဉာဏ်၊ ခုဟာက နာမရူပပရိစ္ဆေဒဉာဏ်၊ နာမ်နဲ့ရုပ်ခွဲပြီး သိတဲ့ဉာဏ်၊ ဒါကို အားကိုးပါ၊ ဘာအားကိုးရမလဲ။**

နာမရူပပရိစ္ဆေဒဉာဏ်ပါ ဘုရား။

**ဒီဉာဏ်ကို အားကိုးလိုက်ပြန်တော့ ဖြေ—သွားချင်တာက နာမ်၊ သွားတာက ရုပ်၊ စားချင်တာက နာမ်၊ စားတာကရုပ်ဆိုတော နာမ်ရုပ်က ကွဲနေတယ်၊ နာမ်ရုပ် ကွဲနေတဲ့ ဉာဏ်ကလေးကို ရတ ရပေမယ့်လဲ ဒီဉာဏ်ကလေးကို ဘုန်းကြီးက ခုတင်က ဉာဏ်ထက်တေ သာပါရဲ့ဟေ့၊ သို့သော် အစစ် အားမကိုးနဲ့အုံးလို့ ကန့်ကွက်ပြန်တယ်**

ဘာပြုလို့ အစစ်အားမကိုးနဲ့အုံးလို့ ပြောရသလဲဆိုတော့ တစ်ဘဝသာ ငှူဋ္ဌသောတာပန်ဖြစ်တယ်, တစ်ဘဝသာ အပါယ်လွတ်တယ်၊

နောက်ဘဝတွေ မလွတ်သေးတော့, အဲဒါကြောင့် နာမရူပပရိစ္ဆေဒဉာဏ်လောက်နဲ့လဲ ဦးသန့်မောင်တို့ ဦးတင်တို့ အားမကိုးနဲ့အုံး၊ တစ်ဘဝသာ အပါယ်လွတ်တာ၊ စူဠသောတာပန် ရှိသေးတယ်၊ ဒီတော့ တကာ တကာမတို့ ဒါလောက်နဲ့ ကျေနပ်ပြီလို့ ပြောချင်ပြောနေမှာ။

ဦးအောင်ဇံဝေတို့လဲ ကြားဖူးမှာပါပဲ၊ တစ်ဘဝ သုဂတိသွားပြီး, တစ်ဘဝ အပါယ်လွတ်တာကလေးနဲ့ ကျေနပ်နေတော့ နောက်ဘဝတွေ စိတ်မချရတာ သူမမြင်လို့ ပြောတဲ့စကားပဲ၊ မောင်ချစ်စိန်ဆုံးဖြတ်ချက်ချ၊ ဒါဖြင့် ဒီဉာဏ်နဲ့လဲ ခုတင်က ဉာဏ်ထက် သာတယ်နော်၊ သို့သော် ဒုတိယဉာဏ်ဟာ တကယ် အားကိုးလောက်ပြီလားလို့ မေးတော့ ကမ္မဿကတာဉာဏ်ထက် နာမရူပပရိစ္ဆေဒဉာဏ် သာပါရဲ့၊ ဒါပေမယ့် ကျုပ်တို့ အလိုကျ မဖြစ်သေးဘူး, ဖြစ်ပြီလား။

မဖြစ်သေးပါ ဘုရား။

ဒါဖြင့် ဘယ်ဉာဏ်ကို အားကိုးရမလဲ၊ ပစ္စယပရိဂ္ဂဟဉာဏ်ကို အားကိုးရမယ်၊ ပစ္စယပရိဂ္ဂဟဉာဏ်ဆိုတာ ပဋိစ္စသမုပ္ပါဒ် သိတဲ့ဉာဏ်၊ အဲဒီဉာဏ်က အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်တယ်၊ သင်္ခါရကြောင့် ဝိညာဏ်ဖြစ်တယ်၊ ဪ သံသရာကြီးထဲမှာ ဒီလို ဖြစ်လိုက်-ပျက်လိုက်နေကြတာပဲ၊ သူ့အကြောင်းနဲ့ သူ့အကျိုးနဲ့ ဖြစ်နေတာပဲ၊ ပုဂ္ဂိုလ်သတ္တဝါလဲ မရှိဘူး၊ အကြောင်း အကျိုးတွေပဲဆိုတာ မသိဘူးလား။

သိပါတယ်ဘုရား။

ဒါကလဲ စူဠသောတာပန် စခန်းထဲကပဲ တည်ရှိနေသေးတယ်၊ ဦးသန်းမောင်တို့ ပဋိစ္စသမုပ္ပါဒ် နားလည်ရုံနဲ့လဲ သေပျော်ပေါ့လို့ မဆိုလိုက်ပါနဲ့၊ တစ်ဘဝ အပါယ်လွတ်တာပါပဲ၊" ဆရာဘုန်းကြီးဟောတာ ဘယ်နှစ်ဉာဏ်ရှိပြီလဲ။

(၃)ဉာဏ်ရှိပါပြီဘုရား။

၃–ဉာဏ်ရှိတော့ အရေးတကြီး မှတ်ကြပါ၊ ဒါဖြင့် ဖြစ် ပျက် သိတဲ့ဉာဏ် တပည့်တော်တို့ အားကိုးတော့မယ်၊ လက္ခဏာသိတဲ့ဉာဏ်ပေါ့၊ လက္ခဏာရေးသုံးပါး သိတဲ့ဉာဏ်၊ ရှင်းပြီလား။

ရှင်းပါပြီဘုရား။

လက္ခဏာရေးသိတဲ့ဉာဏ် အားကိုးတော့မယ်ဆိုတော့ ၄ နံပါတ် ရောက်မလာဘူးလား။ (ရောက်ပါတယ်ဘုရား။)

* လက္ခဏာရေးသုံးပါး သိတဲ့ဉာဏ်ဟာ ဝိပဿနာဉာဏ်ပဲ၊ ဟာ ဦးသန်းမောင်၊ဦးတင်၊ ဒီလောက်နဲ့လဲ မတင်းတိမ်နဲ့အုံးဗျာလို့ မပြော ထိုက်ဘူးလား။ (ပြောထိုက်ပါတယ်ဘုရား။)

ဘာ့ကြောင့် ပြောထိုက်ပါသလဲဆိုရင် ဒုတိယဘဝ သူက ပဋိ သန္ဓေနေအုံးမယ်၊ ပဋိသန္ဓေနေရင် ဇာတိဒုက္ခ၊ ဇရာဒုက္ခ၊ ဗျာဓိ ဒုက္ခ မရဏဒုက္ခတွေ မလာပေဘူးလား။

လာမှာပါဘုရား။

ပြီးတော့မှ သူ့ အထက်ကူးမှာဆိုတော့ တစ်ဘဝနာသွားတယ်၊ တစ်ဘဝနာသွားပြန်တော့လဲ ဩော် အနာလွတ်တဲ့ အလုပ်လုပ်တာ တစ်ဘဝနာလို့ရှိရင် တကယ်အကောင်းစစ်ကဲ့လား သစ္စာသိတဲ့ပုဂ္ဂိုလ်၏ တကယ့် အကောင်းလား၊ အစစ်လားလို့မေးတော့ မဟုတ်ဘူးတဲ့၊ တစ်ဘဝ ဇာတိ ဇရာ မရဏရှိတယ်၊ ဘုန်းကြီး ဥပုသ်နေ့ကဟောတဲ့ ဒုတိယဘဝမှ ကိစ္စပြီးမယ်၊ ဝိပဿနာ ဉာဏ်နဲ့ဆိုရင်လေ မပြော ဘူးလား။

ပြောပါတယ်ဘုရား။

ကဲ ဒါဖြင့် ဒီဉာဏ်ကော ဦးအောင်ဇံဝေတို့ ကျေနပ်သလား။ (မကျေနပ်သေးပါ ဘုရား။)

ဘာကြောင့် မကျေနပ်သလဲမေးတော့ တစ်ဘဝ ဇာတိ ဇရာ မရဏနဲ့ နေရတာဆိုရင် တစ်ဘဝ ဒုက္ခရောက်တာပဲဆိုတော့ မောင် ချစ်စိန် ပေါ်ပြီလား။ (ပေါ်ပါပြီဘုရား။)

စင်းလုံးချော အကောင်းကြိုက်တာဖြင့် တကာ တင်၊ တကာ သန်းမောင်တို့ ဒုက္ခချုပ်ငြိမ်းအောင်လုပ်လိုက်၊ (မှန်လှပါဘုရား။) သဘောကျပြီလား။ (ကျပါပြီဘုရား။)

တစ်ခါချုပ်နဲ့လဲ မကျေနပ်နဲ့၊ နှစ်ခါချုပ်နဲ့လဲ မကျေနပ်နဲ့၊ သုံးခါချုပ်နဲ့လဲမကျေနပ်နဲ့အုံး၊ လေးခါချုပ်အောင်လုပ်လိုက်၊ ဒီဘဝ

သေ၊ ဟိုဘဝ မအို မသေ အမြဲနေတဲ့နိဗ္ဗာန်ရောက်ပြီးသကာလ ပဋိသန္ဓေလဲ မနေတော့ဘူး၊မနေတော့ ဒုက္ခ၊ လေးခါချုပ်ပြီးတဲ့ပုဂ္ဂိုလ်ဖြစ်ပြီးတဲ့နောက်တော့ မောင်ချစ်စိန် အကောင်းဆုံးဉာဏ်ပဲ၊ (မှန်လှပါ ဘုရား။) မဂ်ဉာဏ်ဆိုတာ ရှင်းပြီလား။ (ရှင်းပါပြီဘုရား။)

မဂ်လေးပါးကို ဆိုပါတယ်၊ ဒါဖြင့် ဘုန်းကြီးတို့ တကာ တကာမတွေ ယနေ့ ဉာဏ်စဉ်ရွေးလိုက်တာ အရင်ဆုံး ဓမ္မတွေ ရွေးခဲ့တယ်၊ ဓမ္မငါးမျိုး အခုဒီဉာဏ်ငါးမျိုးနဲ့ ဓမ္မ ငါးမျိုးထဲမှ ခွဲထုတ်ပြီးသကာလ ဝိပဿနာဓမ္မ မဂ်ဓမ္မတွေကို ကြိုက်ပါတယ် ဆိုပြောသော်လည်း ဒါတွေ တစ်ခါ အဆင့်ဆင့် အယုတ်အညံ့ ရွေးလိုက်တဲ့အခါကျတော့ မောင်ချစ်စိန်ရေ မဂ်ကိစ္စဟာ အကောင်းဆုံးပဲ၊ မဂ်ဉာဏ်ဟာ အကောင်းဆုံးပဲ၊ ပေါ်ပြီလား။

ပေါ်ပါပြီ ဘုရား။

ဒါဖြင့် မဂ်ဉာဏ်မှတစ်ပါး ကျုပ်တို့သည် အားကိုးရာမရှိဘူး ဆိုတော့ ဒုက္ခဟူသရွေ့ လွတ်အောင် လုပ်ရလိမ့်မယ်၊ သူမှတစ်ပါး အားကိုးရာရှိသေးသလား။ (မရှိပါဘုရား။)

အဲဒီတော့ ဒါကို အားကိုးကျေနပ်ပြီးနေတဲ့ တကာ တကာမတွေ မှီခိုနေတဲ့ တကာ တကာမတွေကို ဒါကိုပဲ ကြိုးစားကြ၊ ကိုယ်ခန္ဓာကြီးက ဒုက္ခသစ္စာ ဖြစ်ပျက်၊ ဒီ ဒုက္ခသစ္စာကြီး ချုပ်အောင် မောင်ချစ်စိန်တို့က ကြိုးစားနိုင်သမျှ ကြိုးစားရမယ်၊ ဦးတင်တို့ကလဲ ကြိုးစားနိုင်သမျှ ကြိုးစား၊(မဟုတ်ဘူးလား။)

ဟုတ်ပါတယ်ဘုရား။

မချုပ်ရင်ဝိပဿနာဉာဏ်နဲ့သာဆိုရင်တစ်ဘဝနာတယ်၊အပါယ်တော့ မကျတော့ဘူး၊ချုပ်ရင် တစ်ဘဝ မနာတော့ဘူး၊တစ်ခါတည်းနဲ့ ကိစ္စ ပြီးသွားမယ်ဆိုတော့ အကျေနပ်ကြီး ကျေနပ်ဖို့ မကောင်းဘူးလား၊ ကိုင်း—ဒါဖြင့် အတော် အရေးကြီးတဲ့အချက်ပဲ၊ အတော်

အရေးကြီးလို့ ပြောနေတာပါကလား ဆိုတာကော ဦးတင်တို့ ဦးသန်းမောင်တို့ ရိပ်မိကြပြီလား။

ရိပ်မိပါပြီဘုရား။

ဦးအောင်ဇံဝေတို့ ဒီလောက်ဝေဖန်တာ မကြားဘူးပါဘူး၊ ဒီလောက်ဝေဖန်နိုင်တာ အတော်ခဲယဉ်းသားပဲ၊ကုသိုလ်တစ်မျိုးတည်းထားပြီး ပြောနေကြတာ ဉာဏ်တစ်မျိုးတည်းထားပြီး ပြောနေကြတာပါ၊ ကမ္မဿကတာ ဉာဏ်လောက်လဲ အားမကိုးပါနဲ့အုံး၊ နာမရူပ ပရိစ္ဆေဒဉာဏ်လောက်လဲ အားမကိုးပါနဲ့အုံး၊ပစ္စယ ပရိဂ္ဂဟဉာဏ် ပဋိစ္စသမုပ္ပါဒ် နားလည်ရုံနဲ့လဲ အားကိုးလောက်ပြီလို့ မဆိုပါနဲ့အုံး၊ လက္ခဏာရေးသုံးပါးသိရုံနဲ့လဲ တော်လောက်ပါပြီ၊သိတဲ့ဉာဏ်နဲ့ပဲ ငါ သေပါတော့မယ် ဆိုပြီးသကာလ ဒီလောက်နဲ့လဲ မနေပါနဲ့၊တစ်ဘဝနစ်နာမှာ စိုးသေးတယ်၊ ပေါ်ကြပြီလား။

ပေါ်ပါပြီဘုရား။

ဒါဖြင့် ဘုန်းကြီးတို့ တကာ တကာမတွေမှာ ခန္ဓာဇာတ်သိမ်းငြိမ်းရာရောက်တဲ့ မဂ်ဉာဏ် လေးခုကိုသာလျှင် ကျုပ်တို့ အကြီးဆုံးအားကိုးထိုက်တဲ့တရားပဲလို့ဆိုပြီးသကာလ ဒါကိုပဲ ဆရာဘုန်းကြီးအကူအညီနဲ့ ကိုယ်စွမ်းရည်နဲ့ နှစ်ဘက်ညှပ်ပြီး ကြိုးစားပါ၊ ဆရာဘုန်းကြီးက မသိတာပြောတာပေါ့၊ ခင်ဗျားတို့က ကိုယ်ပိုင်ဉာဏ်နဲ့ ကိုယ့်ခန္ဓာကြည့်ပေါ့၊ ဆရာဘုန်းကြီးက အကူအညီလေးကို ဒီနည်းနဲ့ပေးလိုက်မယ်ဆိုလို့ ရှိရင် ဦးတင် ဘာပူစရာရှိသတုံး၊ ဦးသန်းမောင်လဲ အသက် တော်တော်ကြီးပြီ၊ ဦးတင်လဲ အသက် တော်တော်ကြီးပြီ၊ ဦးအောင်ဇံဝေတို့ ဘုန်းကြီးတို့လဲကြီးပြီ၊ နောက်ကို ဒီသာသနာမရှိတော့ဘူးလို့ ဆုံးဖြတ်ချက်ချပြီး လုပ်ကြပါ။

ဒီသာသနာမရှိတော့ဘူး၊ ကွယ်တော့မယ်၊ ဘယ့်နှယ်ကြောင့်ကွယ်ရသတုံးဘုရားလို့မေးလို့ရှိရင် အို ကွယ်ချိန်တန်လို့ကွယ်တာပေါ့၊ ဒီကျမ်းတွေ ဒီအလုပ်တွေဟာဟာ ပုဂ္ဂိုလ်တိုင်း မလုပ်တာများတယ်၊

ဘုန်းကြီးလဲ အသက်ကြီးပြီ၊ ဒီတော့ ကွယ်တော့မှာပေါ့၊ မကွယ်ပေဘူးလား။(ကွယ်မှာပါ ဘုရား။)

အဲဒီတော့ တို့ဆရာနဲ့ တို့တကာတွေနဲ့ ယခုတွေ့ရခြင်းဟာ အဆီအနှစ်တွေလဲ ရပြန်၊ မကွယ်ခင်ကလေးမှီရုံရှိတဲ့ ပုဂ္ဂိုလ်ဘွေမို့ မြန်မြန်လုပ်လိုက်၊ မှီရုံကလေးရှိတော့တယ်။ (မှန်လှပါဘုရား။)

ရထားက ထွက်ခါနီးနေပြီ၊ မှီရုံကလေးရှိတယ်၊ တက်မိရုံကလေးရှိတယ်၊ ရထားထွက်လုနီးပြီဆိုတာ ရိပ်မိကြပြီလား။

ဒီနေ့ ဒီတွင်ပဲ တော်ကြစို့။

သာဓု....သာဓု....သာဓု။

**မှတ်ချက်**။ ဆရာတော်ဘုရားကြီးသည် နောက်ထပ် တရားဟောချိန်မရှိတော့ဘဲ နောက်ဆုံးတရားသာဖြစ်သောကြောင့် သတိပေး ဟောခြင်းဖြစ်ပါသည်။

**မှတ်ချက် ဆောင်ပုဒ်**။ ခန္ဓာရထွက်၊ သေဖို့ရက်၊ ချိန်းချက်မရှိကြ။
သေခါနီးမှာ၊ နိမိတ်လာ၊ ရောက်ရာဘုံဘဝ။
ငရဲစရှိ၊ ဒုဂ္ဂတိ၊ မြင်ဘိ ထိုကာလ။
ရင်တွင်းလှိုက်ပူ၊ ပွက်ပွက်ဆူ၊ ကယ်သူဒဝေးမည်ပ။
ဘယ်သား ဘယ်သမီး၊ ဘယ်ပစ္စည်း၊ ချီးနှီးထိုကာလ။
မသာနလုံး၊ သေလွန်ဆုံး၊ အရှုံးနာကြည်းစွ။
ချိန်မနှောင်းခင်၊ ယခုပင်၊ မြန်လျင်အားထုတ်ကြ။
မဂ္ဂင်မှသာ၊ အားကိုးရာ၊ ခေမာဖြောင့်တန်းလှ။
အကုသလာ၊ ကြွေးတွေဟာ၊ များစွာ အနန္တ။
မဂ်ဉာဏ်ဆိုက်ရောက်၊ ကြွေးကုန်ပျောက်၊ ကဲမောက် လွန်ချမ်းမြ။

**အဆောက်အဦများကို လိုက်လံစစ်ဆေး**
**ကြည့်ရှုတော်မူခြင်း**

၁၃၂၄–ခု၊ တော်သလင်းလကုန်လောက်တွင် စာရေးသူအားခေါ်သဖြင့် မန္တလေးမြို့မှ အမရပူရမြို့ ဆရာတော်ဘုရားကြီး ခြေတော်ရင်းသို့ သွားရောက်ခဲ့ရပါသည်။

ဆရာတော်ဘုရားက ''မောင်ကျော်သိန်း၊ မင်းလဲ ဒီမှာလာနေ အုံး၊ အခြား အရောင်းအဝယ်ကိစ္စတွေကို ဘာမှမလုပ်နဲ့၊ ဒီမယ် အရေး ကြီးတယ်၊ (မှန်လှပါဘုရား။) ကဲ... လာ မောင်ကျော်သိန်း၊ ဒီရိပ်သာ အတွင်းက ဆောက်နေတဲ့ အဆောက်အဦတွေ ရှောက်ကြည့်ရအောင်'' ဟု မိန့်တော်မူပြီး ဆင်းကြွသွားသဖြင့် နောက်တော်ပါးမှ လိုက်ခဲ့ရ ပါသည်၊ အဆောက်အဦများကို ကြည့်ရှုရင်း ''ဒီ အဆောက်အဦတွေ ကို အမြန်ပြီးအောင်လုပ်, ငါကြည့်သွားချင်တယ်''ဟု အမိန့်ရှိသဖြင့် ပန်းရန်ဆရာ ဦးလှအား ခေါ်၍ လုပ်လက်စအလုပ်များကို အမြန်ဆုံး လက်စသတ်ရန် ပြောဆိုပြီး လုပ်အားတိုးရန် အလုပ်သမားထပ်ဖြည့် ခိုင်းရပါသည်။

ဆရာတော်က အဆောက်အဦအားလုံးလိုလို လိုက်လံကြည့်ရှု တော်မူရင်း ဓမ္မာရုံပေါ်သို့ ရောက်တော်မူသောအခါ ''ဒီ အဆောက် အဦတွေအားလုံး ပြီးစီးပြီး နေသားတကျရှိနေတာကို ငါကြည့်သွား ချင်တယ်''ဟု ပန်းရန်ဆရာ ဦးလှနှင့် စာရေးသူအား ထပ်ဆင့်အမိန့်ရှိ ပါသည်၊ ကျွန်တော်နှင့် ဆရာလှပါ ဆရာတော် ရန်ကုန်ကြွမည့်အတွက် အမိန့်ရှိသည်ဟု ထိုစဉ်က အောက်မေ့မိခဲ့ကြပါသည်။

ဆရာတော်မှာ မည်သည့်အခါမှ ရိပ်သာအတွင်းရှိ အဆောက် အဦများသို့ လှည့်လည်ကြည့်ရှုခြင်း မရှိခဲ့ပါ၊ ကျားပျံဆေးလိပ်ခုံပိုင်ရှင် ဦးသန်းမောင်ကလည်း ယောဂီ သီလရှင်များအတွက် လက်ရှိရိပ်သာ မှာ ကျဉ်းကျပ်သဖြင့် ရိပ်သာချဲ့ရန် တစ်ဆက်တည်းရှိ မြေကွက်ကို ဝယ်ရန် စရံများပင် ပေးထားပါသည်။

ကျွန်တော်ကလည်း အဝေးမြို့များမှ လာရောက် တရား အားထုတ်ကြသော ယောဂီများအတွက် (အကျေးရုံ) ထမင်းစား ဆောင် တစ်ခုနှင့် ရှစ်မျက်နှာ မှန်ဘုရားကျောင်းဆောင် တစ်ခု ရေးသူက ဆောက်လုပ်လှူဒါန်းလိုသဖြင့် သီတင်းကျွတ်လဆန်းက တော်ဘုရားအား လျှောက်ထားရာ ''အေး... အမြန်ဆောက်''ဟု အမိန့်ရှိပါသဖြင့် သစ်မာသားများ, ကျွန်းသားများ ဝယ်ယူကာ ရိပ်သာအတွင်းရှိ ဓမ္မာရုံအရှေ့တောင်ထောင့်တွင် စုပုံထားကာ သီတ

ကျွတ် လဆန်း ၁၃ ရက်နေ့တွင် ဆောက်လုပ်ရန် အချို့လက်သမား များက အကျွေးရုံအတွက် အသားများ ဖြတ်တောက်နေလျက် စာရေးသူနှင့် လက်သမားဆရာ ဦးလှဒင်မှာ ဘုရားစင်အတွက် စီစဉ်နေစဉ်၊ ဆရာတော်ဘုရားကြီးသည် မကြာစဘူး ကြွလာကာ "မင်း.... ဒီအဆောက်အဦတွေကို ဆက်မလုပ်နဲ့၊ ငါ့အတွက် အသုံးချစရာလိုလာမယ်" ဟု အမိန့်ရှိတော်မူပါသဖြင့် ကျွန်တော့်မှာ ရင်တွင်း၌ ဆို့သွားပြီး ဘယ်လိုနည်း ဝမ်းနည်းမိကြောင်းကို ဖော်မပြနိုင်တော့ပါ၊ ဆရာတော်ဘုရား အမိန့်ရှိသောစကားကို နားလည်၍မဟုတ်ပါ၊ အလိုလို ရင်ထဲလေးနေပြီး ပြန်လည်၍ လျှောက်ထားချင်သော်လည်း မလျှောက်ဝံ့တော့ဘဲ အဆိုပါ လက်သမားများကို ပန်းရန်ဆရာ ဦးလှ အလုပ်တွင် ပေါင်းပြီး အလုပ်ခိုင်းရပါတော့သည်။

**မှတ်ချက်**။ ဆရာတော်ဘုရား ခန္ဓာဝန်ချပြီးနောက် အဆိုပါအသားများကို ဦးချစ်ဆွေ-ဒေါ်ဒေါ်မတို့ မွှာရုံပေါ်၌ နိဗ္ဗာန်ကျောင်းချတွင် ရုပ်ကလာပ်ထားရှိရန် ပြာသာဒ်အကာ အရံ လက်ရုံးများနှင့် အဝီစိတွင်းရေစုပ်ရန် စက်ခန်း ဆောက်လုပ်လှူဒါန်းပြီးသည့် အချိန်ကျမှ ဆရာတော် အမိန့်ရှိခဲ့သော စကား၏အဓိပ္ပာယ်မှာ ပေါ်လွင်လာရာ၊ စာရေးသူမှာ မျက်ရည်များဆယ်မရအောင် ဖြစ်ခဲ့ရပါတော့သည်၊ လက်သမားဆရာ ဦးလှဒင်နှင့် ပန်းရန်ဆရာ ဦးလှတို့လည်း ဆရာတော် ခန္ဓာဝန်ချပြီးနောက် အလောင်းစင် ပြာသာဒ်များပြုလုပ်ရာမှ ဆရာတော် အမိန့်ရှိခဲ့သော စကား၏အဓိပ္ပာယ်များကို သိရှိရပြီး ကျွန်တော်ကဲ့သို့ ခံစားရသည်ကို သိရှိရပါတော့သည်။



## ထူးဆန်းလှသော အတိတ် နိမိတ်များနှင့် ဖြစ်ရပ်များ

ရိပ်သာဓမ္မာရုံ၏ တောင်ဘက်၌ ပေါက်ရောက်လျက်ရှိသော မန်ကျည်းပင်ကြီးတွင် ညဥ့်စဉ် အိပ်တန်းဝင်ကြသော စာကလေးများမှာ ထောင်သောင်းမက များပြားလှပေသည်။

သီတင်းကျွတ်လဆန်း ၁၃ ရက်နေ့ ညဥ့် သန်းခေါင်အချိန်တွင် ထူးကဲစွာ ဆူညံသောအသံကြီးကို ဖြစ်စေလျက် (ပြိုလာရာ) တစ်ပြိုင်တည်း ထ၍ ပျံသန်းကြသည်ကို ကျွန်တော်လည်း ထွက်ကြည့်မိရာ ထိုမန်ကျည်းပင်ကြီးပေါ်၌ နှစ်မိနစ်ခန့် နေ့အချိန်ကဲ့သို့ လင်းနေသော အရောင်ကြီးကို မြင်ရပြီး စာကလေးများလည်း ဆူညံစွာ အော်မြည်ပျံသန်းသွားကြသည်ကို မြင်ရသဖြင့် အလိုလိုကြက်သီးမွေးညင်းများ ထကာ စိတ်များပင် ချောက်ချားလာပါသောကြောင့် တရားကို နိုင်အောင် ရှုယူရပါသည်။

လွန်ခဲ့သော ၃ နှစ်ကျော်မှစ၍ အိပ်တန်းတက်ခဲ့သော အဆိုပါ စာကလေးအုပ်ကြီးများကို ဘေးမဲ့ဖြစ်စေရန် ဆရာတော်ဘုရားက စာရေးသူအား စောင့်ရှောက်ရန် မှာထားပါသည်၊ ၎င်းဖြစ်ပျက်ပြီး ညမှစ၍ ထိုမန်ကျည်းပင်ကြီးတွင် စာကလေးများ အိပ်တန်းမတက်ကြတော့ပါ။

သီတင်းကျွတ်လပြည့်ကျော် တစ်ရက်နေ့ ည ၁၂ နာရီအချိန်မှစ၍ ဆရာတော် ကျိန်းစက်ရာအခန်းမှ ဝင်းကနဲ အလင်းရောင်ကြီးများ ပေါ်ပေါက်လာသည်ကို ဆရာတော်အခန်း ပြင်ဘက်ဝ၌ အိပ်သော ဦးလှဘူးက တွေ့မြင်ရသဖြင့် အခန်းတံခါး အရိပ်အခြေကို အကဲခတ်ရာ ဆရာတော်နှင့် တစ်ဦးတစ်ယောက် စကားပြောနေသံကို ကြားရသဖြင့် ဦးလှဘူးမှာ မည်သည့်ပုဂ္ဂိုလ်ဝင်ရောက်ပြီး လျှောက်ထားနေသည်ဟု မစဉ်းစားတတ်အောင် ဖြစ်နေပါသည်၊ တံခါးများအားလုံး ပိတ်ထားလျက်ပင်။

နောက်တစ်ည (၂)ရက်နေ့တွင် ဝတ်ပြုသူများအား အကျိုးအကြောင်း ပြောပြပြီး သတိဝီရိယနှင့် အိပ်ကြရန် နှိုးဆော်ထားလေသည်၊ ၎င်းည (၁၂)နာရီခန့်တွင်လည်း အလားတူ ဝင်းထိန်သောအလင်းရောင်ကို ထပ်မံ၍ မြင်လိုက်ကြရသည်၊ ဦးလှဘူးက ဆရာတော်၏ အခန်းတံခါးကို ဖွင့်လှစ်၍ ကြည့်ရှုရာ ဆရာတော်မှာ ထိုင်လျက်ပင် သီတင်းသုံးနေသည်ကို ဖူးမြင်ရသဖြင့် ဦးလှဘူးက "ဆရာတော်ဘုရား စောစောက အလင်းရောင်လဲ မြင်လိုက်ရတယ်၊ ဆရာတော်အသံလဲ ကြားမိပါတယ်၊ ဘယ်သူနဲ့ စကားအမိန့်ရှိနေပါသလဲဘုရား" ဟု လျှောက်ထားကြည့်ရာ ဆရာတော်ဘုရားက "လှဘူးရာ မင်းသိသွားပဲ" ဟုသာ အမိန့်ရှိတော်မူပါသည်။

၁၃၂၄-ခု၊ သီတင်းကျွတ် လပြည့်ကျော် ၂ ရက်နေ့တွင် ဖူးကုတ်မြို့မှ ဦးချစ်လှ ဇနီးတို့ ရောက်ရှိလာကြပြီး ၃ ရက်နေ့၌ သာရှင်ပြု အလှူ၊ ၄ ရက်နေ့မှာ ကထိန်ခင်းကျင်းရန် ရှိပါသဖြင့် ယောဂီများနှင့် အလှူရှင်၏ ဆွေမျိုးမိတ်သင်္ဂဟ ရပ်ဝေးရပ်နီး ဧည့်ပရိသတ်များမှာ ကျောင်းတိုင်း ဇရပ်တိုင်း ပြည့်ညပ်လျက် ရှိနေပါသည်၊ ၎င်းပရိသတ်ထဲမှ မအိပ်သေးသော သူများနှင့် အချက်အပြုတ် တာဝန်ကျနေသောသူများကလည်း ကျောင်းအမိုးမှ ဝင်းကနဲမီးလုံးကြီးကျဆင်းသွားပြီးနောက် မကြာခင် ဝင်းကနဲ အလင်းရောင်ကြီး ပြန်တက်သွားသည်ကို မြင်လိုက်ကြသည်ဟု ပြောပြပါသည်၊ (၃) ရက်နေ့ညတွင်လည်း အလားတူဖြစ်သည်ကို အရပ်ထဲမှမအိပ်သေးသောသူများလည်း မြင်လိုက်ကြရသည်ဟု ပြောကြပါသည်။

လပြည့်ကျော် ၃ ရက်နေ့ညတွင် ထပ်မံ၍ အလင်းရောင်နှင့် အသံများ ကြားရပါသဖြင့် ဦးလှဘူးကလည်း ပထမညကကဲ့သို့ ဆရာတော်အား လျှောက်ထားကြည့်ရာ ဆရာတော်က "လှဘူးရာ၊ မင်းကလဲ သိရက်သားနဲ့ ထပ်မေးနေပြန်ပါပြီ၊ အချိန် သိပ်မလိုတော့ဘူး" ဟုသာ အမိန့်ရှိတော်မူသည်၊ အခြားဘာမျှ မိန့်တော်မမူချေ၊ ဦးလှဘူးမှာလည်းပြန်လည်လျှောက်ထားခြင်း မပြုဝံ့တော့သဖြင့် အခန်းအပြင်သို့သာ ထွက်ခဲ့ရကြောင်း ပြောပြပါသည်။

(၃)ရက်နေ့ ရဟန်းခံရှင်ပြု ကထိန်အတွက် ကြို့တင်ရေစက်ချပေးတော်မူရာ ပန်ကာလေ ခံမိသဖြင့် အအေးမိ အခိုးငုပ်သွားသော

ကြောင့် ညနေပိုင်းတွင် ဒေါ်တင်လှအားခေါ်ပြီး အခိုးထုတ်ဆေး ကပ်ခိုင်းသဖြင့် ဆေးကပ်ပြီးနောက် ဒေါ်တင်လှက ဆရာတော်ဘုရား အား ပင်ပန်းလွန်း အားကြီးသဖြင့် ညတရားမဟောရန် လျှောက် ထားရာ ဆရာတော်က "ဟာ–တင်လှ၊ ငါ ဘာမှ မဖြစ်ပါဘူး၊ အခိုး နည်းနည်း ငုပ်သွားတာပါ၊ ကိစ္စမရှိပါဘူး"ဟု မိန့်တော်မူပြီး ည တရားပွဲကိုလည်း ဟောမြဲပင် ဟောတော်မူသည်။

ထိုသို့ တရားဟောပြောခြင်းမှာလည်း ဝတ်ဖြည့်ချိန် တစ်နာရီ လောက်တွင် ဝတ်ဖြည့်ခံရင်း ဝတ်ဖြည့်သူများနှင့် ကျောင်းတွင် ညအိပ် တရားအားထုတ်သူများကိုသာ အစဉ်ဟောပြော ဆုံးမမြဲ ဖြစ်သည့်အတိုင်း ဟောပြောခြင်းမျှသာ ဖြစ်ပါသည်၊ သို့ပါ၍ အဆိုပါ ဟောပြောချက်များကို မည်သူကမှ အသံဖမ်းခြင်း၊ မှတ် သားထားခြင်း မရှိကြပါ၊ (၃) ရက်နေ့ည ဝတ်ဖြည့်ပြီးချိန်တွင် ဝတ်ဖြည့်သူ တပည့်များဖြစ်ကြသော ဦးလှဘူး၊ ဦးကြည်၊ ဦးချစ်စိန်၊ ဦးတင်၊ ဦးတင်ငွေတို့အား "နက်ဖြန်နံနက် (၅)နာရီ အားလုံးလာ ခဲ့ကြ၊တင်ငွေ နက်ဖြန် မင်းတို့ ကောအိမ်မှာ ဘာအရေးကြီးတဲ့ကိစ္စရှိရှိ လာခဲ့ကြ၊ကြားလား၊ ဘယ်လောက် အရေးကြီးကြီး အားလုံး လာခဲ့ ကြ၊ အလုပ်က ငွေ ဘယ်လောက်ရရ မသွားကြနဲ့၊ ဝတ်သေတဲ့မသာ မရှိဘူး၊ အကြောင်းရှိတယ်"ဟု အမိန့်ရှိတော်မူသည်ကို ကိုတင်ငွေ က အိမ်ရောက်လျှင်ရောက်ချင်း ၎င်း၏ဘခင် ဦးစောမောင်အား ပြောပြရာ ဦးစောမောင်က "ဒီလိုဆိုရင် ကလေးတွေလဲ ကျောင်းမလွှတ် နဲ့၊ ငါပါ လိုက်မယ်"ဟု ဆိုကာ (၄) ရက်နေ့တွင် ဦးစောမောင်တို့ အိမ်သားအားလုံး ဆရာတော်ဘုရားထံသို့ ရောက်ရှိလာကြပါသည်

*

### ဆရာတော်ဘုရားကြီးက
### စာရေးသူနှင့် ကျောင်းအမ ဒေါ်တင်လှတို့အား
### ဆုံးမ ဩဝါဒပေးပုံ

သီတင်းကျွတ် လပြည့်ကျော် (၄)ရက်နေ့ နံနက်(၅)နာရီ အချိန်တွင် ဒေါ်တင်လှနှင့် သီလရှင်ဆရာကြီး ဒေါ်ကုမ္မာရတို့က ကျေ ကာအုပ်ဖျော်၍ သွားရောက်ကပ်လှူရာ အကပ်ခံပြီးနောက် ဒေါ်တင် လှအား ''သွား....ငါ့အိပ်ရာ ပြင်ခင်းထား''ဟု ခိုင်းတော်မူရာ၊ ဒေါ် တင်လှက အချိန်မဟုတ်ဘဲ ခိုင်းသဖြင့် အံ့အားသင့်နေစဉ် ဘေးမှ တပည့်ရင်းများက ဒီနေ့ ကထိန်နဲ့ အလှူအတန်းနဲ့မို့ နေ့အနားယူ ချင်လို့ အမိန့်ရှိတာပဲဟု ပြောဆိုပြီး ဝိုင်းဝန်းကူညီ ခင်းကျင်းပေး ကြသည်။

အိပ်ရာအိပ်ခင်းနှင့် အခန်းများ ခင်းကျင်း ရှင်းလင်းပြီး နောက်, အခန်းမှ ပြန်ထွက်၍အလာတွင် ဒေါ်တင်လှအား တင်လှ ကော ယာဂုသောက်ပြီးပြီလား။

သောက်ပြီးပါပြီဘုရား။

အေး....ဒါဖြင့် ထိုင်အုံး, ဆုံးမစရာ ရှိသေးတယ်ဟု ပြော သဖြင့် ဒေါ်တင်လှနှင့်အတူပါလာသူ သီလရှင် ဒေါ်ကုမ္မာရနှင့် အခြား တပည့်များရှေ့တွင် တင်လှ၊ မင်းတို့ အသက် ငယ်သေး တယ်၊ လောကဓံတရား တိုက်ခတ်ခံရဖို့အရေး အများကြီး ရှိသေး တယ်၊ အတိုက်ခံရဖို့လဲ ငါမြင်တယ်၊ ဒီလောကဓံလှိုင်းဒဏ် အတိုက်ခံ ရဖို့လဲ ငါမြင်တယ်၊ ဒီလောကဓံလှိုင်းဒဏ် ခံနိုင်အောင် တရားကို ကြပ်ကြပ်ရှုပါ၊ မင်းတို့က ဘာနဲ့တူနေသလဲဆိုတော့ အလွန်ကျယ်ဝန်း ပြီး ရေစီးသန်လှတဲ့ရေပြင်မှာ ကမ်းမမြင် လမ်းမမြင် မှိုတွယ်ရာမဲ့ ကူးခတ်နေရတဲ့ သံသရာခရီးသည်နဲ့ တူနေတယ်၊ ဒီခရီးသည်ဟာ ကူးရင်း ခတ်ရင်းနဲ့ မျောရင်းနဲ့ပဲ တစ်ခုသော ကမ်းနံဘေး ရောက်

သွားရှာတယ်၊ ဒီကမ်းနံ့ဘေးမှာလဲ အိုမင်းရင့်ရော်ပြီး ရေစီးဒဏ်၊ ကမ်းပါးပြိုတဲ့ဒဏ်တွေ ခံနေရတဲ့သစ်ပင်အိုကြီးတစ်ပင်ကို သွားတွေ့ရသတဲ့၊ ဒီသံသရာခရီးသည်ဟာ ဝမ်းသာအားရနဲ့ ဆွဲမိဆွဲရာ အဲဒီသစ်ပင်အိုကြီးက ထွက်နေတဲ့ အမြစ်တစ်ခုကို လှမ်းဆွဲ လိုက်သတဲ့၊ ဒါပေမယ့် ဒီသစ်ပင်ကြီးရဲ့ အခြေအမြစ်တွေကလဲ ရေစီးဒဏ်၊ လှိုင်းဒဏ်၊ လေဒဏ်ကြောင့် လဲလုလဲခင်အခြေမှာ ရောက်နေတော့ သံသရာခရီးသည်ရဲ့မှီခိုရာအားထားခြင်းကို မခံနိုင်ရှာဘဲ မှီခိုသူသံသရာခရီးသည်ရဲ့ အပေါ်ကို လဲပြိုကျသွားတယ်၊ ဒီသံသရာခရီးသည်မှာ ကမ်းမမြင်မမြင်ကူးခတ်လို့ မောဟိုက်ပင်ပန်းတဲ့အထဲမှာ သစ်ပင်အိုကြီးပိတဲ့ ဒဏ်ကပါ ထပ်လောင်းခံလိုက်ရတော့ ခရီးသည်ဟာ ဘယ်လိုနေမလဲ ဟင်၊ (သေဖွယ်ရာသာ ရှိပါတယ်ဘုရား။)

အေး....ဟုတ်တယ်, သေရုံပဲ ရှိတော့မပေါ့၊ သဘောပေါက်ကဲ့လား၊ သစ်ပင်အိုကြီးဟာ ဘယ်သူနဲ့ တူသလဲ။

မှန်ပါ, သစ်ပင်အိုကြီးဟာ ဆရာတော် အမိန့်ရှိခဲ့ဖူးတဲ့အတိုင်း ဆရာတော်ဘုရားနဲ့ တူပါတယ်ဘုရား။

အေး.... သံသရာခရီးသည်ကကော။

သံသရာခရီးသည်ကတော့ တပည့်တော်မတို့ပါ ဘုရား။

အေး....ဟုတ်တယ်, အဲဒီတော့ ဒီတရားကိုထောက်ပြီး သစ်ပင်အိုနဲ့ တူတဲ့ ငါ့ကို အားကိုးမနေဘဲ သံသရာခရီးသည်တွေဖြစ်တဲ့ မင်းတို့ဟာ ငါဟောခဲ့တဲ့တရားတွေ ငါဆုံးမခဲ့တဲ့စကားတွေကို တစ်သဝေမတိမ်း လိုက်နာအားထုတ်ပြီး ကိုယ့်ကိုယ်ကို သံသရာခရီးသည်မျှောလမ်း မြုတ်လမ်းကလွတ်အောင် ကြိုးစားကြဖို့ ရှိတာပေါ့၊ သဘောပေါက်ပြီလားဟု ထူးဆန်းစွာ ဆရာတော်ဘုရားက ယခင်ညတွေက ဟောခဲ့ဖူးသော နဒီသုတ်ကို ဟောတော်မူပြီး....

''ကဲ ကဲ.... သွားကြတော့, ပြီးတော့ မောင်ကျော်သိန်းကို ငါ့ဆီလွှတ်လိုက်''ဟု မိန့်တော်မူသဖြင့် ဒေါ်တင်လှနှင့် သီလရှင် ဆ... ကြီးတို့လဲ ဆရာတော်ဘုရားအား ဝတ်ချကာ ပြန်ခဲ့ရပြီး ကျွန်တော်...

အား ဆရာတော်ဘုရားခေါ် ကြောင်း ပြောပြသဖြင့် ဆရာတော်ထံသို့ သွားရပါသည်၊ ရောက်သောအခါ ဆရာတော်ဘုရားအား ဝတ်ချကာ နေစဉ်, ဆရာတော်ဘုရားက "မောင်ကျော်သိန်း လာ ဒီရှေ့တိုးအုံး, မင်း သေသေချာချာ နားထောင်, ငါမရှိတဲ့နောက်ပိုင်း မင်းမှာ လောကဓံတရားအမျိုးမျိုး အတိုက်ခံရလိမ့်မယ်,မနိုင်နိုင်အောင် တရားကို ရှုပေးပါ၊ မင်းရှိသမျှပစ္စည်းကို ဉာဏ်နဲ့စွန့်လွှတ်ထား, ပေးစရာရှိတဲ့ အကြွေးများလဲ ပေးလိုက် ကြားလား"

"တပည့်တော်မှာ ပေးစရာအကြွေးငွေများ မရှိပါဘုရား"

"အေး.... ရစရာငွေကတော့ သူတို့ပေးရင် ရလိမ့်မပေါ့၊ အရေးကြီးတာက ရှိပစ္စည်းတွေကို ကိုယ်ပိုင်တာမဟုတ်ဘူးဆိုတာ နှလုံးသွင်းပြီး ဉာဏ်နဲ့စွန့်ထားဖို့ပဲ၊ မင်းတို့ လောကီစီးပွားရေး အခြေအနေကတော့ အားလုံးပြောင်းမှာပဲ၊ ဒီအခါမှာ မင်း လောကဓံလှိုင်းမိမယ်၊ ငါ ဟောခဲ့တဲ့တရားတွေလဲ မင်းတို့ အသံဖမ်းစက်ထဲမှာ ကူးထားတာပဲ၊ ဒီတရားတွေဖွင့်ပြီးတော့ နာပါ၊ တစ်ခါနာရုံနဲ့ သဘောမပေါက်ရင် ထပ်ခါထပ်ခါ နာပါ၊ ငါပြောတဲ့အတိုင်း လိုက်နာနေရစ်ကြ"

မှန်လှပါဘုရား။

ဆရာတော်မှာ ထူးထူးခြားခြား ဆုံးမမှုများကြောင့် ပြန်လည်၍လည်း မလျှောက်တားဝံ့၊ အစဉ်းစားရလည်းခက် ဖြစ်ခဲ့ရပါသည်။ သို့အတွက် ဆရာတော်၏ ဆုံးမပုံကို မင်္ဂလာတိုက်ကျောင်းတွင် ဆရာတော်ဘုရားကြီးအား ရဟန်းဘဝရောက်စကပင် အမြဲတမ်း ဝတ်ကြီးဝတ်ငယ် ပြုစုနေသော အမရပူရမြို့နေ ဦးသာဆိုင်အား ချက်ချင်း သွားရောက် ဆွေးနွေးကြည့်ရာ, ဦးသာဆိုင်က ဦးကျော်သိန်းရော ဆရာတော်က ရန်ကုန်က တကာ တကာမတွေ့ခဲ့ပြီး မကြာခင် ရန်ကုန်ကြွမှာမို့ အမိန့်ရှိတာဖြစ်မှာပေါ့ဟု ထင်မြင်ချက်ပေးပါသည်။



### ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး ရိပ်သာကျောင်းမှ မင်္ဂလာတိုက်ဟောင်း မိုးကုတ်ကျောင်း ဆွမ်းကျွေးရာသို့ ကြွသွားတော်မူခြင်း

သီတင်းကျွတ်လပြည့်ကျော် (၄) ရက် နံနက် (၅) နာရီ တပည့်ရင်းများအား ဆုံးမပြီးချိန်တွင် ဒေါ်တင်လှနှင့် သီလရှင်ဆရာကြီး ဒေါ်ကုမ္မာရတို့က ဆရာတော်ဘုရားကြီး ဆက်ကပ်ရန်ထားခဲ့သော ကွမ်းကာအုပ်ကို ရောက်ရှိလာသော တကာများက ကပ်ကြရာ ဘုဉ်းပေးပြီးနောက် မင်္ဂလာတိုက်ဟောင်းအတွင်း၌ ကထိန်အတွက် သံဃာတော် အပါး (၂၀၀)ကျော် ဆွမ်းကျွေးရှိ၍ တပည့်သံဃာတော်များ ခြံရံကာ ကြွသွားတော်မူလေသည်၊ တပည့် တကာ–တကာမအပေါင်းတို့က ဆရာတော်ဘုရားကြီး ကျန်းမာ ချမ်းသာစွာ သီတင်းသုံးသည်ကို မြင်ရသောအခါ အလှူအတွက် အရေးကြီးလှိုသာခေါ်သည် ထင်မှတ်ကာ လုပ်ဆောင်စရာရှိသည့် ကိစ္စများကို ဆောင်ရွက်လျက်ရှိကြပါသည်။

တပည့် တကာ–တကာမများအား ခေါ်ရသည့်အကြောင်းရင်းမှာ ခန္ဓာဝန်ချမည့်အချိန်ကို သိရှိပြီးဖြစ်၍သာ လုပ်ဆောင်ရန်ကိစ္စများရှိသည့်အတွက် ခေါ်တော်မူကြောင်း နောက်မှ သိရှိ သဘောပေါက်နားလည်ကြပါသည်။



### ၁၃၂၄—ခု၊ သီတင်းကျွတ်လပြည့်ကျော် (၄) ရက်နေ့၌ ဦးချစ်လှ—ဒေါ်သောင်းတို့၏ ကထိန်အလှူပွဲကျင်းပခြင်း

ဆရာတော်ဘုရားကြီး၏ တကာရင်း တပည့်ရင်းများဖြစ်ကြသော မိုးကုတ်မြို့မှ ဦးချစ်လှနှင့် ဒေါ်သောင်းတို့သည် ၁၃၂၄—ခု၊ သီတင်းကျွတ်လပြည့်ကျော် (၃) ရက်နေ့တွင် ၎င်းတို့၏ ရင်၌ဖြစ်သော သားအား ရှင်ပြုပြီးနောက် လပြည့်ကျော် (၄) ရက်နေ့၊ နေ့တစ်နာရီအချိန် ရိပ်သာတွင်း ဓမ္မာရုံတွင်ကျင်းပမည့် သံဃာတစ်ပါးလျှင် သင်္ကန်းခွဲစုံ (၁)၊ ထီး (၁)၊ ဖိနပ် (၁)၊ စောင် (၁)၊ ခြင်ထောင် (၁)၊ အိပ်ရာခင်း (၁)၊ မျက်နှာသုတ်ပဝါ (၁)၊ ဖောင်တိန် (၁)၊ ခဲတံ၊ ဘလာစာအုပ်၊ ဆပ်ပြာခဲ၊ ဆပ်ပြာအုပ်၊ သွားတိုက်ဆေး၊ သွားပွတ်တံများနှင့် အဖိုးတန်လှူဖွယ်ပစ္စည်း များစွာတို့နှင့် ကထိန်လျာသင်္ကန်း ဆက်ကပ်လှူဒါန်းပွဲကြီးအတွက် ပြင်ဆင်နေကြပါသည်၊ထိုကထိန်ပွဲကြီး ကျင်းပသည့်နေ့ နံနက် ၆ နာရီ၌ သံဃာတော်အရှင်မြတ်အပါး ၂၀၀ ကျော်တို့အား အမရပူရမြို့ မဂ်လာတိုက်ဟောင်းအတွင်းရှိ မိုးကုတ်ကျောင်းတိုက်ကြီး၌ ဆွမ်း ကွမ်း ခဲဖွယ် ဘောဇဉ်ချိုချဉ် ရသာ ယမကာတို့ဖြင့် ဆက်ကပ်လှူဒါန်းကြပါသည်၊ ထိုနောက် အဆိုပါ ကထိန်အလှူပွဲသို့ ကြွရောက်ကြသော သီလရှင်များနှင့် ညှို့ပရိသတ်တို့အားလည်း မင်္ဂလာတိုက်ဟောင်းရှိ ဓမ္မာရုံပေါ်တွင် ခဲဖွယ် ဘောဇဉ် ချိုချဉ်ရသာတို့ဖြင့် ဧည့်ခံကျွေးမွေးလျက်ရှိပါသည်။

ထိုသို့ သံဃာတော် အရှင်မြတ်တို့အား ဆွမ်းကျွေးပြီးနောက် ထေရ်ကြီး ဝါကြီး သံဃာတော်အရှင်မြတ်တို့အား မိုးကုတ်ဆရာတော်ဘုရားကြီးကိုယ်တိုင် လှူဖွယ်ပစ္စည်းများကို ဆက်ကပ်လှူဒါန်း၍ မိမိတို့ကျောင်းသင်္ခမ်းများသို့ ပြန်လည်ကြွမြန်းကြသော ထေရ်ကြီးဝါကြီး သံဃာတော် အရှင်မြတ်အားလုံးကို မိုးကုတ် ဆရာတော်ဘုရားကြီး

ကိုယ်တိုင် ကျောင်းပေါ်မှ ကားများ ဆီသို့အရောက် အကြိမ်ကြိမ် လိုက်ပို့နှုတ်ဆက် ဝတ်ပြုတော်မူပါသည်။ ထိုမျှလောက် မိုးကုတ်ဆရာတော်ဘုရားကြီးကိုယ်တိုင် အပင်ပန်းခံပြီး ကျောင်းပေါ်မှ ကျောင်းအောက် အခေါက်ပေါင်း မရေနိုင်အောင် ထေရ်ကြီး ဝါကြီး သံဃာတော်ကြီးများအား ဝတ်ပြုတော်မူသည်ကို ထိုနေ့, ထိုအချိန်, ထိုအခါ, ထိုတစ်ပွဲ၌သာ တပည့်အပေါင်းက ကြုံဖူးပါသည်။ ၎င်းဆွမ်းကျွေးနှင့်အလှူပွဲတွင် ဓာတ်ပုံများရိုက်ကြရာ ဆရာတော်ဘုရားကြီးလက်ဖက်ရည်ဘုဉ်းပေးနေစဉ် ဓာတ်ပုံများရိုက်ကြပါသေးသည်။

ထိုနေ့က ဆရာတော်ဘုရားကြီးသည် ဆွမ်းဘုဉ်းပေးတော်မမူသည်ကို စာရေးသူကိုယ်တိုင် အသိဖြစ်ပါသည်၊ ထိုအချိန် အထိ ကျန်းမာရွှင်လန်းစွာ ဖူးတွေ့ရပါသည်။



## ကျေးဇူးရှင် ဆရာတော်ဘုရားကြီးက (ငါ့ ခန္ဓာဝန်ကြီးက လေးလှပြီ)ဟု မိန့်တော်မူခြင်း

### ၁၃၂၄-ခု၊ သီတင်းကျွတ်လပြည့်ကျော်(၄)ရက်နေ့

ကထိန်လျှာသက်န်း ဆက်ကပ်သော အလှူပွဲကြီး အတွက် ဆွမ်းကျွေးခြင်းကိစ္စများ ပြီးသောအခါ ဆရာတော်ဘုရားကြီးသည် ဦးလှဘူးကိုခေါ်၍ (မင်္ဂလာရိပ်သာ ကျောင်းတိုက်)သို့ ကြွသွားတော်မူပါသည်၊ ထိုသို့ကြွတော်မူလာစဉ် ဆရာတော်ဘုရားက "ငါ့ခန္ဓာဝန်ကြီးကဖြင့် လေးလှပြီ"ဟု မိန့်တော်မူပြီး ကြွမြဲ ကြွသွားသဖြင့် ဦးလှဘူးက ဆရာတော်ဘုရား အမိန့်ရှိတာ တပည့်တော် နားမလည်ပါ ဘုရားဟုလျှောက်ထားရာ "မင်း တယ်အ တဲ့အကောင်ပဲ"ဟု မိန့်တော်မူပြီး ကျောင်းပေါ်သို့ကြွသွားသဖြင့် ဘာမျှ မလျှောက်လိုက်ရတော့ပေ၊ ကျောင်းပေါ်သို့ရောက်သောအခါ "မောင်လှဘူး၊သွား တင်လှ ခေါ်ချေစမ်း၊ ကော်ဖီလဲ တစ်ခါတည်းဖျော်ခဲ့ပေစေ"ဟု မိန့်တော်မူသည်နှင့် ဦးလှဘူးလည်း ဒေါ်တင်လှထံသို့ သွားရောက်အကြောင်းကြားရင်း ဆရာတော် အမိန့်ရှိပုံများကို ဒေါ်တင်လှအား ပြောပြပါသည်။

ဒေါ်တင်လှနှင့် သီလရှင်ဒေါ်ကုမ္မာရတို့ ကော်ဖီသွားရောက်ကပ်သောအခါ ဆရာတော်ဘုရားကြီးကကော်ဖီဘုဉ်းပေးရင်း ကော်ဖီသောက်လို့ အဆင်ပြေဘယ်၊ ကော်ဖီသောက်လို့ အဆင်ပြေတာနှစ်ခါရှိပြီ၊ အရင် ဝါးဖြူတောင် အလုပ်သမားစခန်းတွင် ကော်ဖီကပ်စဉ်က တစ်ခါ၊ အခုတစ်ခါပါပဲ၊ သူတော်ကောင်းများကို အချိန်မီလိုအပ်တဲ့ ခဲဖွယ်ဘောဇဉ်များကို ဆက်ကပ်ရတဲ့အကျိုးဟာ အလွန် မွန်မြတ်ပါတယ်လို့ အမိန့်ရှိပါတယ်။

ထိုသို့အမိန့်ရှိသည်နှင့်ပတ်သက်၍ ဖော်ပြလိုသည်မှာ ၁၃၂၀-ခုနှစ်၊ တပေါင်းလ ကုန်ခါနီးတွင် ဆရာတော်ဘုရားကြီးသည် မန္တ

လေးမြို့မှ မိုးကုတ်မြို့သို့ အလှည့်ကျ ကြွတော်မူရန်အတွက် မိုးကုတ်မြို့မှ ဦးနိုင်နှင့်အဖွဲ့များက ဆရာတော်ဘုရားကြီးအား ဘောက်(စ်)ဝက်ဂွန်းကားဖြင့် မိုးကုတ်မြို့သို့ပင့်ဆောင်ရာ မန္တလေးမြို့နှင့် မိုးကုတ်မြို့များမှ တကာ တကာမများကလည်း ကားပေါင်းမြောက်မြားစွာဖြင့် လိုက်ပါပို့ဆောင်ကြပါသည်။လိုက်ပို့ကြသော ကားများအနက်, ဒေါ်တင်လှ၊ ဒေါ်စန်းတို့ လိုက်ပို့ကြသောကားမှာ စက်ချို့ယွင်းသွားပါ၍ ဆရာတော်ကြီးအား ပင့်ဆောင်သွားသော ကားနှင့်လိုက်ပို့ကြသောကားများကို မမီနိုင်ဘဲ ဝါးဖြူတောင် အရိပ်ကောင်းသော အလုပ်စခန်းတွင် ရပ်နားနေရပါသည်၊ ဆရာတော်ဘုရားကြီးအား ဆက်ကပ်ရမည့်ကော်ဖီနှင့်ခဲဖွယ်ဘောဇဉ်များမှာ ဒေါ်တင်လှ ဒေါ်စန်းတို့ လိုက်ပါလာသော ကားပေါ်တွင် ပါလာပါသည်။

ဆရာတော်ဘုရားကြီးအား ကော်ဖီနှင့် ခဲဖွယ်ဘောဇဉ်များဆက်ကပ်ရန် စီစဉ်ထားသော နေရာမှာ ရွှေညောင်ပင်စခန်းဖြစ်ပါသည်။ အချိန်မှာ နံနက် (၁၁)နာရီ ကျော်နေပြီ ဖြစ်၍ ဝါးဖြူတောင် အလုပ်စခန်းမှ ရွှေညောင်ပင် စခန်းကိုလည်း တစ်နာရီနှင့်မောင်း၍ မရောက်နိုင်ပါသဖြင့် ဘယ်နည်းနှင့်မှဆရာတော်ဘုရားကြီးအား ကော်ဖီနှင့်တကွ ခဲဖွယ်ဘောဇဉ်တို့ကို အချိန်မီဆက်ကပ်ရန် မဖြစ်နိုင်ပါ၊ သို့ပါ၍ လိုက်ပို့ကြသူများက ဆရာတော်ဘုရားကြီးကိုရည်မှန်း၍ ကော်ဖီနဲ့ ခဲဖွယ်ဘောဇဉ်များမသောက်သေးဘဲ သိသန့်တင်ထားရန် စီစဉ်နေခိုက် မမျှော်လင့်ဘဲ ဆရာတော်ဘုရားကြီး ပင့်ဆောင်လာသော ကားမှာ လာလမ်းမှ ရောက်လာသဖြင့် အားလုံးအံ့အားသင့်လျက် နေရာထိုင်ခင်းများကို ဆောလျင်စွာပြုပြင်ပြီး ယခင်က ရည်မှန်း ပြင်ဆင်ထားသော ကော်ဖီနှင့် ခဲဖွယ်ဘောဇဉ်များကို အချိန်မီဆက်ကပ်ရပါတော့သည်။

သို့ဖြစ်၍ ဒေါ်တင်လှနှင့် ဒေါ်စန်းတို့မှာ ဆရာတော်ဘုရားကြီး ကြွလာသည်ကို နားမလည်နိုင်အောင် ရှိနေပါသဖြင့် ဆရာတော်ဘုရားကြီးနှင့်အတူပါလာသော ဦးနိုင်အားမေးမြန်းကြည့်ရာ "ဆရာတော်ဘုရားအား ပင့်ဆောင်လာသောကားမှာ မန္တလေး—မိုးကုတ်လမ်းတွင် အမြဲတမ်း သွားလာနေကျ ဖြစ်ပါသော်လည်း လက်ပံလှလမ်းခွဲတွင် မျက်စိမှောက်ခါ မိုးကုတ်လမ်းသို့မလိုက်ဘဲစဉ့်ကူးလမ်းသို့

လိုက်သွားမိပြီး စဉ့်ကူးမြို့ရောက်မှ လမ်းလွဲမှားကြောင်းသိလို့ ပြန်လည်၍ လက်ပံပုမှ မောင်းလာရလို့ နောက်ကျနေတာပါဟု ပြောသဖြင့် လမ်းမှားပြီး စဉ့်ကူးရောက်သွားကြောင်း သိရပါသည်။

ထိုစဉ်အခါက ဆရာတော်ဘုရားကြီးက "အခုကဲ့သို့ လိုအပ်နေတဲ့ အချိန်အခါမျိုးတွင် သူတော်ကောင်းများအား ကော်ဖီနှင့်တကွ ခဲဖွယ်ဘောဇဉ် ဆက်ကပ်ရတာဟာ အလွန်ပဲ အကျိုးများပါတယ်" ဟု အမိန့်ရှိခဲ့ဖူးပါသည်။

ထိုအဖြစ်အပျက်ကို ရည်မှန်း၍ ဆရာတော်ဘုရားကြီး အမိန့်ရှိခြင်း ဖြစ်ပါသည်၊ ထို့နောက် ဆရာတော်ဘုရားကြီးသည် မိုးကုတ် ကျောင်းပေါ်တွင် သံဃာတော် အရှင်မြတ်များအား ဆွမ်း-ခဲဖွယ်ဘောဇဉ် ဆက်ကပ်အပြီး ဆရာတော်ဘုရားကြီးကိုယ်တိုင် လှူဖွယ်ဝတ္ထု ပစ္စည်းများကို ထေရ်ကြီး ဝါကြီး သံဃာတော် အရှင်မြတ်တို့အား ဆက်ကပ် လှူဒါန်းပါသည်၊ ထိုကဲ့သို့ အပင်ပန်းခံ၍ ဝတ်ပြုခံသော်လည်း ဆွမ်း-ခဲဖွယ်ဘောဇဉ်များကို လုံးဝ ဘုဉ်းပေးခြင်း မပြုခဲ့ပါ၊ ထို့ကြောင့် ဒေါ်တင်လှနှင့် ဒေါ်ကုမ္မာရတို့ အချိန်မီ ဆက်ကပ်ကြသော ကော်ဖီနှင့် ခဲဖွယ်တို့ကို နှစ်ခြိုက်စွာ ဘုဉ်းပေးတော်မူပါသည်၊ ထိုစဉ်က မန္တလေးမြို့ တိုင်းချစ်ဓာတ်ပုံတိုက်မှ ဦးအုန်းဖေကိုယ်တိုင် ဓာတ်ပုံများ ရိုက်ယူပါသည်၊ မိုးကုတ်ကျောင်းပေါ်၌ ဆွမ်းကပ်စဉ်ကလည်း ဓာတ်ပုံများ ရိုက်ယူပါသေးသည်။

ထိုကဲ့သို့ ဒေါ်တင်လှနှင့် ဒေါ်ကုမ္မာရတို့ ဆက်ကပ်သော ကော်ဖီကို ဘုဉ်းပေးပြီးနောက် ဆရာတော်ဘုရားကြီး၏ ရုပ်လက္ခဏာမှာ ညှိုးနွမ်းနေပါသဖြင့် ဒေါ်တင်လှက "နေမကောင်းဘူးလားဘုရား" ဟု မေးလျှောက်ရာ "ကောင်းပါတယ်၊ ဟိုမှာ သံဃာ[illegible]ပါး (၂၀၀)တောင် ဆွမ်းကျွေးတာ ဆိုတော့ ဆွမ်းဟင်း အနံ့တွေနဲ့ပဲ ဆွမ်းစားချင်စိတ် မရှိတော့ဘူး၊ ပင်ပန်းလာတယ်" ဟု အမိန့်ရှိတော်မူသည်။

မှတ်ချက်။ ဆရာတော်ဘုရားကြီးအတွက်ကော်ဖီကိုဆေးသကြားနှင့် အမြဲဖျော်ပြီး ကပ်ရပါသည်။

ဆရာတော်ဘုရားကြီးက ကော်ဖီဘုဉ်းပေးပြီးနောက်၊ "တင်လှနှင့်—အိပ်မက်များ ဘာ ထူးထူးထွေထွေ မက်သလဲ" ဟု မမေးစဘူး မေးလိုက်ရာ၊ ဒေါ်တင်လှက "တပည့်တော်မ သီတင်းကျွတ်လပြည့်ကျော် (၁) ရက်နေ့ကတော့ မက်ပါတယ်ဘုရား၊ ဒီရိပ်သာထဲမှာ စေတီကြီးတစ်ဆူ သပ္ပာယ်စွာဖူးမြင်ရတယ်ဘုရား၊ ဒီ စေတီနားမှာ ဆရာတော်ဘုရားထိုင်ပြီး တရားအားထုတ် နေတာလဲ ဖူးမြင်တွေ့ရပါတယ်၊ နောက်တော့ ဒီစေတီကြီးရဲ့ ဖောင်းရစ်က တဖြည်းဖြည်း အက်အက်လာပြီး မီးခိုးအဖြူတွေ ထွက်လာပါတယ်ဘုရား၊ အဲဒီ မီးခိုးတွေက နောက်တော့ များများလာပြီး စေတီကြီးက ဆရာတော်ရဲ့ အပေါ် ပြို ကျ သွား ပါ တယ် ဘု ရား၊ ဒါပေမယ့် ဆရာတော်ကို ဘာမျှ မထိမခိုက်ဘဲ စောစောကအတိုင်း ထိုင်လျက်သား တရားအားထုတ်နေတာကို ဖူးတွေ့ပါတယ်ဘုရား" ဟု လျှောက်ထားလိုက်ရာ၊ ဆရာတော်ဘုရားက ပြုံးလျက် "ဟ....တင်လှရ၊ နင့်အိပ်မက်က တယ်စင်းပါလား၊ ပုဗ္ဗနိမိတ်ဆိုတာ ဒီလိုပဲ ဖြစ်ပေါ်စမြဲပဲ၊ ငါလိုခံနိုင်ရည်ရှိအောင် တရားသာ နာနာ အားထုတ်ကြ၊ နင့် အိပ်မက်ထဲကအတိုင်း စေတီပြိုပေမယ့် ငါကတော့ တရားအားထုတ်တာ ပျက်မှာမဟုတ်ပါဘူး၊ ဘယ်လိုသတ္တဝါဖြစ်ဖြစ် ဓမ္မပို့ဆောင်ရာကို သွားရစမြဲပဲ" ဟု အမိန့်ရှိတော်မူပြီး "ဒီမှာ ခဏစောင့်ကြအုံး၊ ငါ သက်န်းသွားလဲအုံးမယ်" ဟု ဆိုကာ အခန်းတွင်းသို့ ကြွသွားပါသည်။

ဆရာတော် ထွက်လာသောအခါ ကောသိ တစ်ထည်၊ သင်းပိုင်တစ်ထည်၊ အံသကိုဋ် နှစ်ထည်ကို ဒေါ်တင်လှလက်သို့ ပေးပြီး၊ "နင် ဒီသက်န်းတွေသိမ်းထားလိုက်၊ ရေလျှော်မပစ်နဲ့၊ နင့်ဇရပ်ယူသွား" ဟု မိန့်တော်မူသဖြင့်ဒေါ်တင်လှတို့လည်း ဆရာတော်ဘုရားကြီးအမိန့်ရှိပုံကို အံ့အားသင့်စွာနှင့် ကျောင်းပေါ်မှ သက်န်းများယူလျက် မိမိတို့ တရားအားထုတ်ရာ ဇရပ်သို့ ပြန်ကြပါသည်။

ထိုနောက် ထိုနေ့နံနက် (၁၁) နာရီ ၅ မိနစ် အချိန်၌ ဒေါ်တင်တင်က ဆက်ကပ်ခိုင်းလိုက်သော စွပ်ပြုတ်ကို နောက်ဆုံးအနေဖြင့် ဘုဉ်းပေးခြင်း ဖြစ်ပါသည်။

**မှတ်ချက်။** အဆိုပါ ကေသီ သင်းပိုင် အံသကိုဋ်များကို ဆရာတော် ဘုရားကြီး ခန္ဓာဝန် ချပြီးနောက် မင်္ဂလာဓာတုဓမ္မစေတီတွင် ကိုးကွယ်ရန် ဌာပနာလိုက်ပါသည်။

**မှတ်ချက်။** ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ အန္တိမ ဈာပန သာဓုကီဠန သဘင်ပွဲကြီးတွင် အများပြည်သူက စေတနာ ထက်သန်စွာ ပူဇော်လှူဒါန်းကြသော အလှူငွေစာရင်းနှင့် အလှူ့ရှင် စာရင်းမှာ စာမျက်နှာ အလွန်များနေပါ၍ ချန်လှပ်ထားရပါသည်။



**အဂ္ဂမဟာပဏ္ဍိတ**
**ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည်**
**၁၃၂၄–ခု၊ သီတင်းကျွတ်လပြည့်ကျော် (၄) ရက်နေ့**
**(၁)နာရီ၂၀မိနစ် အချိန်တွင် ခန္ဓာဝန်**
**ချတော်မူခြင်း**

၁၃၂၄-ခု၊ သီတင်းကျွတ်လပြည့်ကျော် ၄ ရက် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီးသည် စွပ်ပြုတ် ဘုဉ်းပေးပြီးနောက် ဆရာတော်ဘုရားကြီးသည် ပက်လက် ကုလားထိုင်ပေါ်တွင် သီတင်းသုံးရင်း ရပ်ဝေးမှ တရားအားထုတ်လာကြသော ပုဂ္ဂိုလ်များအား တရားဓမ္မ ဟောပြောရင်း ဆရာတော်ဘုရားကြီးအား ဦးလှဘူးနှင့်အတူ ဝတ်ကြီးဝတ်ငယ် ပြုလျက်နေသော ဦးသာဆိုင်အား "မောင်အေးမောင်ကို ဒီ လွှတ်လိုက်စမ်း၊ပြီးတော့ မောင်ကျော်သိန်း သွားခေါ်ချေ"ဟု မိန့်တော်မူသဖြင့် ဦးသာဆိုင်လည်း ထွက်၍သွားပါသည်။

ကိုအေးမောင် ရောက်ရှိလာရာ "မောင်အေးမောင် ဒီနေ့ ၁၂ နာရီမှာ ဏထိန်တရား ဟောစရာရှိတယ်၊အသံချဲ့စက်တွေ ပြင်ဆင်စမ်းသပ်ထားပါ၊ ဦးသာဆိုင်တို့ကလဲ လိုက်သွားပြီး ကြည့်ရှုပြင်ဆင်ထားကြ"ဟု အမိန့်ရှိပြီး ပရိသတ်များအား အပါးမှ ဖယ်ရှားစေပါသည်။

စာရေးသူတစ်ယောက်တည်း ကျန်ရစ်တော့မှ ဆရာတော်က "မောင်ကျော်သိန်း၊ မင်း ငါမရှိတဲ့နောက် တရားကို ဆက်လက်အားထုတ်ပါ၊ မင်း အရောင်းအဝယ်ကို လုံးဝ မလုပ်ပါနဲ့၊ နေ့စဉ် သုံးလောက်ရုံတော့ လူတိုင်းရှိကြတာပဲ၊ ဖြုန်းဖို့ရာသာ ရှာဖွေနေကြရတာ"ဟု အမိန့်ရှိသဖြင့် စာရေးသူက အရှင်ဘုရား ဘယ်တော့ ရန်ကုန်ကြွမှာလဲဘုရားဟု လျှောက်ထားလိုက်ရာ "ငါဘယ်

သွားမယ် ငါဘာလုပ်မယ်ဆိုတာ ငါ့ခန္ဓာက ပြောလိမ့်မယ်။ မင်း ငါ ပြောတာသာ နားထောင်၊ ငါ အခု တယ်နေမကောင်းဘူး၊ မနေ့က အယူမှာ ပန်ကာလေ မိသွားတယ်'' ဒါဖြင့် တပည့်တော်မန္တလေးသွား ပြီး ဆရာဝန်သွားခေါ်ပါ့မယ်ဘုရား။ ''ကိစ္စမရှိပါဘူး၊အခိုးနည်းနည်း ငုပ်သွားတာပါ''ဟု အမိန့်ရှိသော်လည်း ထပ်မံ၍ ''ဆရာဝန် သွား ပင့်မှ ကောင်းမယ်ထင်တယ် ဘုရား''ဟု ထပ်မံ လျှောက်ထားရာ ''အေး....မင်း ဆရာဝန်သွားပင့်ချင်ရင် တစ်ချက်ခဲ့ပြီးမှ သွားပင့်''ဟု အမိန့်ရှိသဖြင့် စာရေးသူလည်း ကျောင်းပေါ်မှဆင်း၍ ဝန်ကြီး ဟောင်း (မြန်အောင်) ဦးတင်၊ (ကျွဲပွဲ) ဦးသန်းမောင်၊ ဦးကြွယ် တို့အား အကျိုးအကြောင်း ပြောပြပါသည်။ အားလုံးသော လူကြီး များက ဆရာဝန်ကို ၁၁ နာရီမထိုးမီ သွားပင့်ထားရင်ကောင်းမယ်ဟု အကြံပေးပြောဆိုကြပါသဖြင့် ဆရာတော်အား လျှောက်ထားရန် အထက်ပါ လူကြီးများနှင့် ကျောင်းပေါ်သို့ ပြန်တက်သွားကြရာ ဒေါ်တင်တင် ချက်ပြုတ်လှူဒါန်းသော ဆွမ်းပွဲကို (လောကီ စီးပွား ရေးနှင့် သားမယား အိုးအိမ်များကိုပါလုံးဝစွန့်လွှတ်လျက်ဆရာတော် ဘုရားခြေတော်ရင်း၌လာရောက်တရားအားထုတ်နေသော)ဦးအဝမ်က လာကပ်နေသဖြင့် ဆရာတော်ဘုရားကြီး ဘုဉ်းပေးနေသောကြောင့် ဘာမှ ပြောဆိုလျှောက်ထားခြင်း မပြုတော့ဘဲ ကိုချစ်စိန်နှင့် မောင်ဇင်အောင်တို့ကိုမှခေါ်ပြီး ဒေါက်တာဆိုနီကိုပင့်ရန် စာရေးသူ သည် မန္တလေးသို့ ထွက်ခဲ့ပါသည်။

အချိန်မှာ ၁၁ နာရီခွဲလေပြီ၊ ဆရာဝန်ပင့်ရန် ထွက်လာခဲ့ရ သော်လည်း ဆရာတော်ဘုရားကြီး၏ဝေဒနာမှာထိုအချိန်ကပြင်းထန်၍ မဟုတ်ပါ။ ကြိုတင်ကာကွယ်သည့်အနေနှင့် ပင့်ရန် ဖြစ်ပါသည်။

ထိုကဲ့သို့ ဆရာဝန်ပင့်နေဆဲအချိန် အမရပူရ ရိပ်သာကျောင်း၌ ဆရာတော်ဘုရားကြီးမှာလဲ ၁၁ နာရီခွဲအချိန် ဆွမ်းပွဲ ဘုဉ်းပေးပြီး နောက် အနီးရှိဒေါ်တင်လှနှင့် ယောဂီများအား ဆုံးမဩဝါဒစကား ပြောဆိုနေစဉ် ရုတ်တရက် ဝေဒနာ ဝင်ရောက် ဖိစီးလာသဖြင့် ဒေါ်တင်လှက ကျောင်းပြင်သို့ထွက်ပြီး ဓမ္မာရုံပေါ်ရှိ ဦးသစ်နှင့် နောက်ထပ် လူကြီးများအား သွားရောက်ခေါ်ဆောင်၍ ဆရာတော် ဘုရားကြီးအား ပြုစုကြပါသည်။

အမရပူရမြို့မှ မြို့မျက်နှာဖုံးလည်းဖြစ်၊ ဘန်ကောက်ပိုး စက်ရက်ကန်းပိုင်ရှင်လည်းဖြစ်သော ဦးကြွယ်ကလည်း ရှမ်းကလေးကျွန်းမှ ဆရာတော် အမြဲတမ်းသုံးစွဲသော လက်နှိပ်ဆရာကြီး ဦးထူးအား ချက်ချင်း သွားရောက် ခေါ်ဆောင်ခဲ့ပါသည်၊ ဆရာတော် ဘုရားကြီးက (ကျား၊ပျံ) ဦးသန်းမောင်ကိုခေါ်ပြီး "ကျုပ်နေမကောင်းဘူး၊ ဝမ်းချုပေးစမ်းပါ၊ တရားဟောစရာလဲ ရှိသေးတယ်၊ ခန္ဓာဝန်ကြီးကလဲ တယ်လေးတာပဲ" ဆိုသဖြင့် ကိုတင်ငွေအား မိုးကုတ် ကျောင်းပေါ်မှ ဝမ်းချုကီရိယာကို အမြန်ယူခိုင်းပြီး ဝမ်းချုပေးရပါသည်။ ဆရာတော်လည်း ကိုယ်တိုင်ထ၍ ကုဋီအိမ်သို့သွားရာ ဘေးမှဝိုင်းဝန်းကူညီကြသည်ကိုပင် လက်မခံပါဘဲ တစ်ပါးတည်း ကုဋီအိမ်သို့ ဝင်တော်မူသည်။ ဆရာတော်မှာ နောက်ဆုံး ခန္ဓာဝန်ချတော့မည့် အချိန်အထိ အသွားအလာမပျက် စကားပြောမပျက် အသံမပြောင်းဘဲ တရားစမူများကို ဟောပြောဆုံးမနေခြင်းကို ဖူးတွေ့ကြရပါသည်။

စာရေးသူလည်း ဒေါက်တာ ဆိုနီကို ပင့်ရင်း ဦးချစ်စိန်နှင့် မောင်တင်အောင်တို့အား မန္တလေးမြို့ ရွှေလှန်ရပ်နေ စခမ်းသာ လက်ဖက်စို လက်ဖက်ခြောက်ပွဲရုံပိုင်ရှင် ဦးချစ်ဆွေနှင့် ဒေါ်ဒေါ်မတို့ထံ အကြောင်းကြား အခေါ်လွှတ်ပါသည်။

ထို့နောက် နေ့(၁၂)နာရီကျော်လောက်တွင် ဒေါက်တာဆိုနီအား ပင့်ဆောင်ခဲ့ရာ အမရပူရမြို့အဝင်တွင် ဝန်ကြီးဟောင်း (မြန်အောင်)ဦးတင်က အခြားကားတစ်စီးဖြင့် ဆရာတော်ဘုရားကြီး၏ ရောဂါဝေဒနာ အခြေအနေမှာ စိုးရိမ်ရ၍ အရေးတကြီး လိုက်လာပြီး ဒေါက်တာဆိုနီကို သူ၏ကားပေါ်သို့ ပြောင်းလဲ ပင့်ဆောင်ပြီး အမြန်မောင်းပါသော်လည်း ထိုအချိန်မှာ မီးရထားလာချိန်နှင့် တိုက်ဆိုင်နေ၍ သံလမ်းဂိတ်မှာ ထုံးစံအတိုင်း ပိတ်ထားရာ မိနစ်ပိုင်းတောင် အချိန်မဖြုန်းနိုင်သောကြောင့် သံလမ်းဂိတ်တံခါးကို အတင်းဖွင့်ခိုင်း၍ မီးရထားမောင်းလာသည့်ရှေ့မှာပင် ကားကို အမြန်ဖြတ်မောင်းရပြီး ဆရာတော်ဘုရားကြီး ထံမှောက်သို့ အချိန်မီ ရောက်ရှိကြပါသည်။

ရောက်လျှင်ရောက်ချင်း ရှေးယခင်ကလည်း အမြဲတမ်းကုသပေးနေကျဖြစ်သော ဒေါက်တာဆိုနီသည် ဆရာတော်ဘုရားကြီး၏ ရောဂါ

ဝေဒနာကို နည်းမျိုးစုံဖြင့် အစွမ်းကုန် စမ်းသပ်ကြည့်ရှုကာ လိုအပ်သော ဆေးများကို ထိုးပေးပါသည်၊ ထို့နောက် ဒေါက်တာဆိုနီကပင် မန္တလေးမြို့ ပြည်သူ့ဆေးရုံအုပ် ဆရာဝန်ကြီး စောမြအောင်အား ထပ်မံအပင့်ခိုင်းသဖြင့် (၁၂)နာရီခွဲအချိန်တွင် မန္တလေးသိပ္ပံနှင့် ဝိဇ္ဇာ တက္ကသိုလ် ပါမောက္ခဦးနက်နှင့် ဇနီး ဒေါ်သာယုတို့က သွားရောက်ပင့်ဆောင်ရာ ဆရာဝန်ကြီး စောမြအောင်သည် လိုအပ်မည့် ဆေးကိရိယာ အစုံအလင်တို့ကို ယူဆောင်လျက် ကျောင်းတိုက်သို့ လိုက်လာပြီး ဒေါက်တာဆိုနီနှင့် ညှိနှိုင်းတိုင်ပင်ပြီး ဆက်လက် ကုသကြပါသည်၊ ရှမ်းကလေးကျွန်းမှ လက်နှိပ်ဆရာကြီး ဦးထူးသည် ဝေဒနာအဆင့်မှာ လက်နှိပ်ဖြင့်ကုစားရန် မဖြစ်သောကြောင့် ဘေးကသာ ဝေယျာဝစ္စကိုသာ ဆောင်ရွက်ရပါတော့သည်၊ ထိုအချိန်က ဆရာတော်ဘုရားကြီးထံ လာရောက်ပြုစုကြသော သံဃာတော်များ၊ ယောဂီများနှင့် တကာရင်း တပည့်ရင်း တို့မှာ အောက်ပါ အတိုင်းဖြစ်ပါသည်။

သံဃာတော်များမှာ ဦးပဏ္ဍိတ, ဦးဇောတိကကြီး, ဦးဇောတိကလေး, ဦးကုဏ္ဍလနှင့် မဂ်လာတိုက်ဟောင်းအတွင်းမှ သံဃာတော် အရှင်မြတ်များဖြစ်ကြပါသည်။

ယောဂီများနှင့် တကာရင်း တပည့်ရင်းတို့မှာ ဝန်ကြီးဟောင်း ဦးအောင်ဇံဝေ၊ ဝန်ကြီးဟောင်း (မြန်အောင်) ဦးတင်၊ (ကျားပျံ) ဆေးလိပ်ခုံပိုင်ရှင် ဦးသန်းမောင်၊ အမရပူရဦးကြွယ်၊ ဦးသာဆိုင်၊ ဦးအောင်မြင့်၊ ဒေါ်သိန်း၊ (စမ်းကပေး) ဦးစောမောင်၊ ဦးဘတုတ်၊ ဦးအဝမ်၊ ဦးချစ်စိန်၊ ကိုအေးမောင်၊ ကိုတင်ငွေနှင့်အခြားတကာရင်း တပည့်ရင်းများ၊ မန္တလေးမြို့မှ ဦးချစ်ဆွေ-ဒေါ်ဒေါ်မ၊ စာရေးသူနှင့် ဒေါ်တင်လှ ဒေါ်စန်း၊ဒေါ်တင်တင်၊ ပါမောက္ခ ဦးနက်-ဒေါ်သာယု၊ ဦးသစ်နှင့် အခြားတကာရင်း တပည့်ရင်းများ ဖြစ်ကြပါသည်။

ဆရာတော်ဘုရားကြီးသည် အနီးရှိ ဝတ်ပြုနေကြသော အထက် “ဒါ တကာ–တကာမတို့အား(ခန္ဓာရတဲ့လူတိုင်း ခံစားရတဲ့ ဝေဒနာကို ကြည့်ထားကြ)ဟု ဆုံးမဩဝါဒ ပေးတော်မူရင်း အနီးရှိ ဦးသစ်အား ‘တရားဟောရန်အတွက် ပြင်ဆင်ပြီးပြီလား”ဟု မေးရာ ဦးသစ်က

"ပြင်ဆင်ပြီးပါပြီဘုရား၊ ဆရာတော်ဘုရားကြီး တရားဟောရန် မသင့် လျော်ကြောင်းပါဘုရား" ဟု လျှောက်ထားပါသည်၊ ဒီတော့မှ ဆရာတော်ဘုရားကြီးက အနီးရှိဦးပဏ္ဍိတအား "မင်း ငါ့ကိုယ်စား ဓမ္မာရုံသို့ သွားပြီး တရားဟောချေ၊ လျှော်တော်တော်မလုပ်နဲ့" ဟု ခိုင်းတော်မူလေသည်၊ ဦးကုဏ္ဍလကိုလည်း "မင်းကတော့ သွားပြီး ရေစက်ချချေ" ဟု ခိုင်းတော်မူလေသည်။

ထို့နောက် ဆရာဝန်ကြီးများဘက်သို့ လှည့်၍ နောက်ထပ် ဆေးထိုးရန် ရှိသေးလျှင် မြန်မြန်ထိုးပေးကြ၊ အချိန်မရှိဘူး၊ မင်းတို့ ဆေးလဲ ဘာမှ တတ်နိုင်မှာ မဟုတ်ပါဘူးဟု မိန့်တော်မုချိန်တွင် အချိန်မှာ နေ့(၁)နာရီ ရှိခဲ့လေပြီ၊ နောက် ဦးချစ်ဆွေ ဒေါ်ဒေါ်မတို့ ရောက်ရှိလာရာ ဆရာတော်ဘုရားကြီးက မောင်ချစ်ဆွေ့, ဒီတစ်ခါ တော့ မရတော့ဘူးဟု မိန့်တော်မူပြီးနောက် အနီးရှိ ကိုတင်ငွေအား ဟေ့— တင်ငွေကြီး, ငါ့မျက်စိတွေ ပြာလာပြီဟု အမိန့်ရှိပြီး အနီးရှိ တကာ တကာမတို့အား "ခန္ဓာရှိသူတိုင်း ခံစားရမည့် ဝေဒနာကို ကျော်လွန်အောင် ရှုကြ၊ မမေ့မလျော့ နေရစ်ကြ" ဟု ဆုံးမဩဝါဒ ပေးတော်မူပြီးနောက် တရားနှလုံးသွင်းတော်မူလျက် နေ့ (၁) နာရီ (၂၀)မိနစ်တွင် ခန္ဓာဝန် ချတော်မူလေသည်။

**မှတ်ချက်။** ဦးပဏ္ဍိတအား တရားဟောစေရန် ခိုင်းခြင်းမှာရှေးယခင် ဆရာတော်ဘုရားကြီး မအားလပ်၍ တရားမဟောနိုင်သော အချိန်တွင် တပည့်ရင်းဖြစ်သူ ဦးပဏ္ဍိတအား တရားဟော ခိုင်းလေ့ရှိပါသဖြင့် ယခုအချိန်၌လည်း ဦးပဏ္ဍိတအား တရားဟောခိုင်းစေတော်မူသည်၊ ဦးကုဏ္ဍလအား တရား ရေစက်ချခိုင်းစေခြင်းမှာဦးကုဏ္ဍလသည် ရိပ်သာအတွင်းရှိ မင်္ဂလာ ကျောင်းတိုက်၌ ဆရာတော်ဘုရားကြီး ကိုယ်တိုင် သက္ကရာဇ် ၁၃၂၄—ခုနှစ်တွင် ဝါဆိုခိုင်းထားသဖြင့် ဝါဆိုသောကြောင့် ဆရာတော်ဘုရားကြီးကိုယ်စား ရေစက် ချခိုင်းစေခြင်း ဖြစ်ပါသည်။

ဆရာတော်ဘုရားကြီး၏ တပည့်အရင်းဖြစ်သူ ဦးဇောတိကလေး မှာ မန္တလေးမြို့ မစိုးရိမ်တိုက်တွင် စာဝါလိုက်၍ စာချတန်း၌ စာမေးပွဲ

ဖြေဆိုမည့်ဆဲဆဲတွင် ဆရာတော်ဘုရားကြီးက မင်း ၈၁၀ ါလိုက်မနေနဲ့တော့၊ ငါ့အား လာရောက်ဝတ်ပြုလှည့်ဟု အမိန့်ရှိတော်မူသဖြင့် မြန်မာသက္ကရာဇ် ၁၃၂၃–ခုနှစ်၊သီတင်းကျွတ်လမှစ၍ ဆရာတော်ဘုရားကြီးအား ဝတ်ပြုလျက် သီတင်းသုံးလေသည်၊ ၁၃၂၄–ခုနှစ်တွင် ဆရာတော်ဘုရားကြီးက မင်္ဂလာကျောင်းတိုက်၌ ဝါဆိုခိုင်းသော်လည်း အကြောင်းမညီညွတ်၍ ဝါမဆိုဖြစ်ပါ၊ ထိုနှစ် သီတင်းကျွတ်လပြည့်နေ့မှစ၍ ဝတ်ပြုရန် လာရောက်ရာ ဆရာတော်ဘုရားကြီးက မင်္ဂလာကျောင်းတိုက်တွင်သီတင်းသုံးရန် အခန်းကို ပေးအပ်တော်မူလေသည်။ ဆရာတော်ဘုရားကြီး သက်တော်ထင်ရှား ရှိစဉ်ကတည်းက ဝတ်ပြုပြီး ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချသည့် အချိန်မှာလည်း ဝတ်ပြုလျက်ရှိပါသည်၊ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်နှင့် ဓာတ်တော်များကို စောင့်ရှောက် ထိန်းသိမ်းခဲ့ရသော ရဟန်းများအနက် တစ်ပါးအပါအဝင်ဖြစ်ပြီး ယခုတိုင် မင်္ဂလာတိုက်တောင်း၌ သီတင်းသုံးလျက်ရှိပါသည်။

ဆရာတော်ဘုရားကြီးသည် ခန္ဓာဝန် ချမည့် အကြောင်းကို ၁၃၂၄–ခု၊ ဝါဆိုလဆန်းမှစ၍ သီတင်းကျွတ်လပြည့်ကျော် (၄)ရက် ၁၁ နာရီအချိန်ထိ တရားဟောရာ၌ လည်းကောင်း၊ တပည့်ရင်းများအား ဝတ်ပြုခ်ချိန်၌လည်းကောင်း အကြိမ်ကြိမ် အမိန့်ရှိခဲ့ပါသော်လည်းမည်သူမျှ ကျန်းမာလျက် သီတင်းသုံးနေသော ဆရာတော်ဘုရားအား မရိပ်မိခဲ့ကြပါ၊ ၎င်းလပြည့်ကျော် (၄)ရက်နေ့ (၁၁)နာရီတွင် ဆရာတော်ဘုရားကြီးနှင့်တကွ သံဃာတော်အရှင်မြတ်ကြီးများ လက်ဘက်ရည်ဘုဥ်းပေးစဉ် ဓာတ်ပုံရိုက်ခဲ့တော်မူပါသေးသည်။ ၎င်းဓာတ်ပုံကို တင်ပြပါသည်။



## ကြုံကြိုက်ခဲ့သော ဆရာတော်ဘုရားကြီး၏ ဇာတာခွင်

| | | |
|---|---|---|
| လ | | |
| | ၄ | ၆ |
| | ၂ | ၁၃၀ ၄၅၈ |

### (၁) ဖွားတော်မူချိန်

၁၂၆၁—ခု၊ နတ်တော်လပြည့်ကျော် ၁၁ရက် ဗုဒ္ဓဟူးနေ့၊ နေ့လယ် စက် ၂ နာရီ ၃၀ မိနစ် (၂၇—၁၂—၁၈၉၉)တွင် ဖွားမြင်သည်။

| | | |
|---|---|---|
| ၂ | | ၅ |
| ၃ ၈ | ၄ | ၀လ |
| ၁၄ | ၆ | |

### (၂) ခန္ဓာဝန် ချတော်မူချိန်

၁၃၂၄—ခု၊ သီတင်းကျွတ်လပြည့်ကျော် (၄) ရက်၊ ဗုဒ္ဓဟူးနေ့၊ နေ့လယ် စက် ၁ နာရီ ၂၀ မိနစ် (၁၇—၁၀—၁၉၆၂) တွင် ခန္ဓာဝန် ချတော်မူသည်။

| | | |
|---|---|---|
| လ ၂လ | | ၅ |
| ၈ | ၄ | ၄၀ |
| ၃ | | ၁ ၆ |

### (၃) အဂ္ဂိစျာပန ကျင်းပတော်မူချိန်

၁၃၂၄—ခု၊ ပြာသိုလဆန်း (၁၅) ရက် ဗုဒ္ဓဟူးနေ့၊ ညနေ စက် ၂ နာရီ ၃၀ မိနစ်မှ စ၍ ညနေ ၅ နာရီအထိ (၉—၁—၁၉၆၃) တွင် အဂ္ဂိစျာပန ကျင်းပသည်။

အထက် ဖော်ပြပါ ဇာတာခွင်များအရ ဆရာတော်ဘုရားကြီး ဖွားမြင်တော်မူချိန်၊ ခန္ဓာဝန် ချတော်မူချိန်နှင့် အဂ္ဂိစျာပန ကျင်းပတော်မူချိန်တို့မှာ ဗုဒ္ဓဟူးနေ့ မွန်းလွဲပိုင်းများသာ ဖြစ်ပြီး အဆိုပါ ဇာတာခွင် ၁ နှင့် ၂ ကို ကြည့်သဖြင့် သာမန်ပုဂ္ဂိုလ် မဟုတ်နိုင်ဘဲ သစ္စာလောကကြီးမှ လွန်မြောက်နိုင်သော ပုဂ္ဂိုလ်ဖြစ်ကြောင်း စာရှုသူတို့ သိမြင်နိုင်ပါသည်။

*

## ဆရာတော်ဘုရားကြီးသည် ခန္ဓာဝန်ချသင့်သော အချိန် ဖြစ်ခြင်းကြောင့် ခန္ဓာဝန်ချခြင်းသာဖြစ်ခြင်း

ယခင်နှစ်က ဆရာတော်ဘုရားကြီး၌ စွဲကပ်သော သွေးတိုး ရောဂါမှာ သွေးကြောထဲ၌ သွေးခဲသောကြောင့်ဟင် ဖြစ်သည်ဟု သိရပါသည်။ ရင်းသွေးခဲမှာ လုံးဝ သွေးကြောကို ပိတ်မသွားသဖြင့်သာ ယခင်အချိန်က ပါးရွဲ့ခြင်းသာဖြစ်ရပြီး ယခုမှ ခန္ဓာဝန်ချရသည်မှာ ရင်းသွေးခဲများက သွေးကြောမကြီးကို အပြီးပိတ်ဆို့သွားမှုကြောင့် ဖြစ်ရသည်ဟု ရှုပ်ကလာပ် ဆေးသွင်းသော ဆရာများက ပြောပြပါ သည်။

အကယ်၍ သွေးတိုး အီးချိ ရောဂါတို့ကြောင့်ဖြစ်ခဲ့လျှင် အာရုံကြောများက အရင်ပျက်စီးသဖြင့် တရားဟောပြော ဆုံးမနိုင်ဖို့ရန် မလွယ်ကူသည့်ပြင် သတိပင်မရနိုင်ပါ၊ ယခုသော် ခန္ဓာ ဝန်ချခါနီး အထိ တပည့်များအား နဂိုပကတိ အသံတော်ဖြင့် ဆုံးမဩဝါဒကို ပေးတော်မူနိုင်ခဲ့ပါသည်။

ရောဂါအမည် အမျိုးမျိုးပေးကြသော်လည်း အကြောင်းရင်းမှာ ကံကဖြတ်လိုက်လို့ သွေးကြောမကြီးကို သွေးခဲပိတ်ဆို့ခြင်း အကြောင်းကြောင့် ခန္ဓာဝန်ချရခြင်း တည်းဟူသော အကျိုးတရား လာရောက်ဆုံစည်းခြင်း သာဖြစ်သည်ဟု သာကာ တကာမ အပေါင်းတို့ သိရှိနားလည်ရပါသည်။

ဤသို့ သွေးခဲပြီး ပိတ်ဆို့သည်ဖြစ်စေ, မပိတ်ဆို့သည်ဖြစ်စေ ဆရာတော်ဘုရားကြီး၏ ကြိုတင်သတိပေး အမိန့်ရှိချက်များ အရ ခန္ဓာဝန်ချရမည်သာတည်း၊ အဘယ်ကြောင့်ဆိုသော် ဤထေရုပ္ပတ္တိ ရှေ့ပိုင်းတွင် ဖော်ပြထားသော ဆရာတော်ဘုရားကြီး ဆုံးမချက်များ နှင့် ဇာတာခွင် သုံးခုကို ကြည့်ရှုလေ့လာခြင်း အားဖြင့် ဤအချိန် ဤ အခါသမယ၌ ခန္ဓာဝန်ချမည်သာဘည်း။

*

### အံ့ဩဖွယ်ကောင်းလှသော
### ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏
### ရုပ်ကလာပ်တော်

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီးမှာ အချို့သော ပုဂ္ဂိုလ်များက မည်သည့်ရောဂါကြောင့် (ခန္ဓာဝန်ချရသည်)ဟု တပ်အပ်သေချာ မပြောနိုင်ကြချေ၊ ဆီးချိုရောဂါကြောင့် ဟူ၍ လည်းကောင်း, သွေးတိုးရောဂါကြောင့် ဟူ၍ လည်းကောင်း, လေငန်းရောဂါကြောင့် ဟူ၍လည်းကောင်း, သွေးခဲ၍ သွေးကြောပိတ်သောကြောင့် လည်းကောင်း အမျိုးမျိုး ထင်ကြေးပေးကြပါသည်။

ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချသည်မှာ နာရီပိုင်းအချိန်တွင် ဖြစ်သဖြင့် တချို့ကလည်း မယုံကြည်လောက်အောင်ပင် ဖြစ်ပါသည်၊ တချို့ကလည်း ဆရာတော်အား နီးနီးကပ်ကပ်ပြုစုသူများကိုပင် အပြုအစုလိုသောကြောင့် ယခုလိုဖြစ်ရသည်ဟု ကရုနာဒေါသောဖြင့် ပြစ်တင်ပြောဆိုကြပါသည်၊အမှန်က ဆရာတော်ဘုရားကြီးသည်ခန္ဓာဝန်၏ အဖြစ်ကို ဟောရိုးယောစဉ်ထက် ထူးခြားစွာ ၁၃၂၄-ခု၊ ဝါဆိုလကပင် တပည့်အပေါင်းအား တစ်ဦးစီတစ်ဦးစီကို သွယ်ဝိုက်ကာ အမိန့်ရှိထားပြီးဖြစ်သော်လည်း မည်သူမျှ ဆရာတော်ဘုရားကြီးက ခန္ဓာဝန်ချလိမ့်မည်ဟု မတွေးမိကြပါ၊ ဆရာတော်ဘုရားကြီး ရန်ကုန်သွားရန် ရည်ရွယ်၍သာ ထိုသို့အမိန့်ရှိသည်ဟု ထင်မှတ် သဘော ပေါက်ကြပါသည်။

ထိုအချိန်က ဆရာတော်ဘုရားကြီး၏ သွေးတိုးရောဂါနှင့် ဆီးချိုရောဂါများမှာလည်း ဆရာဝန်ကြီးများနှင့် အမြဲတမ်း စမ်းသပ်စစ်ဆေး ကုသနေချက်အရ အဆိုပါ ရောဂါများမှာ ပျောက်ကင်းသလောက် ရှိပြီးဖြစ်ကြောင်း သိထားကြသည့်အပြင်, ဆရာတော်ဘုရားကြီး၏ ဥပဓိရုပ်မှာလည်း ခန္ဓာဝန်ချသည့်နေ့အထိ ကောင်းမွန်ခြင်း, ဆရာတော်ဘုရားကြီး နေ့စဉ်ဆောင်ရွက်မြဲဖြစ်သော တရားဓမ္မ ဟော

ခြင်း, ကြော်ငြာချက်ခြင်း, စသည့် အလုပ်များကိုလည်း ပြုလုပ်နေခြင်းကြောင့် ခန္ဓာဝန်ချမည့်အတွက် ကြိုတင် သတိပေးသည်ဟု မည်သူကမျှ သဘောမပေါက်ကြပါ။

ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချသည့် အချိန်အခါ၌ ရန်ကုန်မြို့၊ မန္တလေးမြို့၊ မိုးကုတ်မြို့များမှ တကာရင်း တကာမရင်းများလည်း စုံစုံညီညီ ဆရာတော်ဘုရားကြီး ထံမှောက်သို့ ရောက်ရှိနေကြပါသည်၊ မိုးကုတ်မြို့မှ ကျောက်တွင်း ပိုင်ရှင် ဦးချစ်လှနှင့် ဇနီး ဒေါ်သောင်းတို့လည်း ၁၃၂၄ ခု၊ သီတင်းကျွတ် လပြည့်ကျော် (၃) ရက်နေ့တွင် ၎င်းတို့၏ရင်၌ဖြစ်သော သားအား ရှင်သာမဏေအဖြစ် ချီးမြှင့်ပြီး, လပြည့်ကျော် ၄ ရက်နေ့တွင် ကထိန် ခင်းကျင်းနေခိုက် ဆရာတော်ဘုရားကြီးမှာ ရုတ်တရက် ခန္ဓာဝန်ချမည့်ဝေဒနာ စွဲကပ်လာ၍ နေ့(၁၂)နာရီတိတိတွင် ဆရာတော်ဘုရားကြီးကိုယ်တိုင် ကထိန်တရား ချီးမြှင့်ဟောပြောရန် စီစဉ်ထားပါသော်လည်း ဦးသစ်နှင့်တကွ အနားတွင် ဝတ်ပြုကြသော တကာ–တကာမတို့က တရားမဟောရန် လျှောက်ထားပါသဖြင့် အနီးရှိ တပည့်ရင်း ဦးပဏ္ဍိတအား တရားဟောရန် ခိုင်းစေတော်မူခဲ့ပါသည်။

ညနေပိုင်း တကာ–တကာမတို့ အများအပြား စုဝေးစုံလင်ချိန်တွင် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်ကို အချို့က ဆေးထိုး ဆေးစိမ်ထားလိုပါသည်၊ အချို့ကလည်း ဒီဆရာတော်ကို ဆေးထိုး ဆေးစိမ်ရန်မလို၊ ဒီအတိုင်းပင် ထားသည့်တိုင်အောင် ပုပ်ပွန်စော်ခြင်းရှိမည်မဟုတ်၊ ရုပ်ကလာပ် ပျက်စီး ချွတ်ယွင်းမှုရှိမည်မဟုတ်ဟု အခိုင်အမာ ပြောဆို တားမြစ်ကြပါသည်၊ ည(၈)နာရီရောက်မှ ဆေးထိုးခြင်းသည် ပိုသည်မရှိ၊ဆေးထိုးရန်အများသဘောတူချက်အရ မန္တလေးတက္ကသိုလ်မှ ပါမောက္ခ ဦးနက်နှင့် ဇနီး ဒေါ်သာယုတို့က ဆေးထိုးရန်အတွက် ဆောင်ရွက်ကြပြီး ည (၉) နာရီအချိန်တွင် ဆရာတော်၏ ရုပ်ကလာပ် အတွင်းသို့ ဆေး စ၍ သွင်းပါတော့သည်၊ ယင်းသို့ ဆေးသွင်းရာ ရုတ်တရက် သွင်းမရပါ၊ ဆရာတော် ရုပ်ကလာပ်၏ ပေါင်ရင်းမှ သွေးကြောကို ခွဲစိတ်ရာ လူကောင်းပကတိကဲ့သို့ သွေးစိမ်းရှင်ရှင် သွေးများသည် အထက်သို့ လေးလက်မခန့် ထောင်၍ ပန်းထွက်လာပါသည်၊ သို့

အတွက် အချို့သော ပုဂ္ဂိုလ်တို့က ဆရာတော်သည် ခန္ဓာဝန်ချတော်မမူ သေးဟု အတင်ရောက်ကြကာ ထပ်မံ၍ ဆရာဝန်များအား စမ်းသပ် စစ်ဆေးခိုင်းကြပါသည်၊ ဆရာဝန်များ စမ်းသပ်ရာ ခန္ဓာဝန်ချကြောင်း အသေအချာသိမှ ဆေးသွင်းခြင်းအလုပ်ကို ဆက်လက် ဆောင်ရွက်ကြ ပါသည်၊ သွေးကြောအတွင်းသို့ ဆေးသွင်းရာတွင် ဆေးများ မဝင် သဖြင့် ၎င်းသွေးကြောအား ခွဲစိတ်စစ်ဆေး ရှာဖွေရာ ညိုပုပ်၍ ခဲနေ သော သွေးခဲများကို တွေ့ရှိ၍ ဖယ်ရှားလိုက်ပြီးမှ ဆေးသွင်း၍ ရပါ သည်။

ဆရာတော်ဘုရားကြီးသည် သွေးတိုးနှင့် ဆီးချိုရောဂါ အတက် မရှိဘဲ မှန်တမ်း (Normal) ဖြစ်ကြောင်း ဆရာဝန်ကြီးများ၏ စမ်းသပ် စစ်ဆေးမှုကြောင့် သိရှိရပါသော်လည်း နေ့ (၁၁)နာရီခွဲမှစ၍ သွေး ကြောထဲတွင် သွေးခဲပိတ်ဆို့သည့် ဝေဒနာ ကပ်ရောက်လာသည့်တိုင် အောင် ခန္ဓာကိုယ် မငဲ့ညှာဘဲ လုပ်ဆောင်ရန် တာဝန်များကို ခွဲဝေ ပေးလျက် တရားများကို ဟောပြောဆုံးမရင်း ခန္ဓာဝန် ချခဲ့တော်မူ လေသည်။

*

## ရုပ်ကလာပ်တော်၏ ထူးခြားချက် (၁၅) ချက်မှာ

၁။ ရုပ်ကလာပ်တော် ဆေးသွင်းရာတွင် သွေးစိမ်းများ အထက်သို့ ၄ လက်မခန့် လောင်၍ ပန်းထွက်ခြင်း၊ ထိုနောက် ရုပ်ကလာပ်တော်ကို ၇ ရက်တိုင်တိုင် နေ့စဉ် ဆေးထိုးတိုင်း သွေးစိမ်းများ ထွက်ခြင်း။

၂။ ရုပ်ကလာပ်တော်မှာ ဆေးသွင်းစက ညိုမည်းသွား သော်လည်း တဖြည်းဖြည်းအသားတော်မှာ သက်တော် ရှိစဉ်ကကဲ့သို့ ဝင်းထိန် တောက်ပလာခြင်း။

၃။ ရုပ်ကလာပ်တော်၏ အသားတော်များမှာ သက်တော် ရှိစဉ်ကကဲ့သို့ ပျော့ပျောင်း၍ နေခြင်း။

၄။ သက်တော်ရှိစဉ်က ချခဲ့သော ဆံတော်များ ခေတ်တော် ကဲ့သို့ လုံးသွားခြင်း။

၅။ ရုပ်ကလာပ်တော်မှ ခြေသည်း၊ လက်သည်းများ ရှည် ထွက်လာခြင်း။

၆။ ရုပ်ကလာပ်တော်မှ ဆံတော်များ ရှည်ထွက်ခြင်း။

၇။ ရုပ်ကလာပ်တော်ကို ဗဟို စံ ကျောင်း မဏ္ဍပ်မှ ဦးကျော်သိန်း ဒေါ်တင်လှတို့၏ မဏ္ဍပ်သို့ ပင့်ဆောင် လာစဉ် များလှစွာသော လူအုပ်ကြီးအပေါ်မှ မြောက် မြားစွာသော ပျားကောင်များသည် ဤရုပ်ကလာပ် တော်ကို ပူဇော် ဖူးမြော်လျက် ပင့်ဆောင်လာသော လမ်းစဉ်အတိုင်း ပျံသန်းလိုက်လာပြီး ရုပ်ကလာပ်တော် ထားရှိသည့် မဏ္ဍပ်မုခ်ထိပ်တွင် ဝင်ရောက်စွဲအုံကြခြင်း။

၈။ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ရာ အချိန်ကြာမြင့်စွာ မီးမစွဲဘဲ ကျိန်းစက်ဘိသကဲ့သို့ ဆင်းစင်းပင် တည်ရှိခြင်း။

၉။ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ရာ မီးစွဲလောင်သော်လည်း ရှုံ့ခြင်း၊ ကွေးခြင်း မရှိဘဲ ပကတိ ကျိန်းစက်သကဲ့သို့ တည်ရှိခြင်း။

၁၀။ မီးသင်္ဂြိုဟ်စဉ် ရုပ်ကလာပ်တော်မှ မကောင်းသော အနံ့များ မထွက်ခြင်း။

၁၁။ မီးသင်္ဂြိုဟ်စဉ်က ကောက်ယူထားသော အရိုးတော်များမှာ တဖြည်းဖြည်း ဓာတ်တော်များ ဖြစ်လာခြင်း။

၁၂။ မီးသင်္ဂြိုဟ်ပြီးနောက် အုတ်ပလ္လင်မှ အရိုးတော်တစ်ပိုင်း ဓာတ်တော်တစ်ပိုင်း ရရှိခြင်း။

၁၃။ မီးသင်္ဂြိုဟ်ပြီးနောက် အုတ်ပလ္လင်ဖျက်ပြီးမှ အရောင်စုံ အရွယ်စုံ ဓာတ်တော်များ ရရှိခြင်း။

၁၄။ မီးသင်္ဂြိုဟ်ပြီးနောက် သက်တော်ရှိစဉ်ကကဲ့သို့ အကြည်ဓာတ် မပျက် မီးမခဲ မျက်လုံးတော် ကျန်ရှိခြင်း။

၁၅။ မီးသင်္ဂြိုဟ်ပြီးနောက် ချိတ်ဆက်ဖြစ်သော လက်ဆစ်ရိုးတော်များ ရရှိခြင်း။

**မှတ်ချက်။** ဆရာတော်ဘုရားကြီး၏ သွေးကြောများအတွင်းသို့ ဆေးသွင်းစဉ်က ရရှိသောသွေးခဲနှင့် သွေးစိမ်းရှင်ရှင် သွေးအချို့ကို ပုလင်းထဲတွင်ထည့်ကာ အများဖူးမြော်ကြည်ညိုနိုင်ရန် ထားရှိပြီး မင်္ဂလာဓာတုမှေစေတီ တည်သောအခါမှ စေတီ၌ ဌာပနာလိုက်ပါသည်၊ ဆေးသွင်းခြင်းကိစ္စကို ညဉ့်သန်းခေါင်ကျော် ၁ နာရီခန့်တွင်ပြီးစီး၍ (၇)ရက်ဆက်ခါ ဆေးများကို ထိုးပေးပါသည်၊ ၇-ရက်လုံးပုံး ဆေးထိုးတိုင်း သွေးစိမ်းများပန်းထွက်သည်ကို အားလုံးဖူးမြင်ကြရပါသည်။ ဆေးထိုးချိန်တွင် လာရောက်ဖူးမြေ

ကြည်ညိုကြသော တကာ–တကာမတွေ များလှန်း၍ တာဝန်ကျ သံဃာတော်များက တစ်လှည့်စီ ဖူးမြော်နိုင်ကြရန် စောင့်ရှောက် ပေးရပါသည်။ ဆရာတော်ရုပ်ကလာပ်သည်ဆေးများသွင်းပြီးသောအခါ တစ်ကိုယ်လုံး အနည်းငယ် တောင့်တင်းနေသော်လည်း ဘယ်ဘက်လက်မောင်းရင်းတွင် လူကောင်းများကဲ့သို့ ပျော့ပျောင်းနေပြီး ကြွက်သား များကိုပင် လှုပ်၍ရသည်ကို အံ့သြစွာ စမ်းသပ်ကိုင်တွယ် ဖူးတွေ့ကြရပါသည်။ ပထမ ရက်ပိုင်းတွင် ဆေးသွင်းသောဒဏ်ကြောင့် အညိုကွက်များ ပေါ်လာသော်လည်း နောက်ရက်များတွင် အသားတော်မှာ ဝါဝင်းလာပြီး ဆရာတော်ဘုရားကြီး ကျိန်းစက်နေဘိသကဲ့သို့ ဖူးတွေ့ကြရပါသည်။



## နိဗ္ဗာန်ကျောင်းချ အခမ်းအနား

၁၃၂၄-ခုသီတင်းကျွတ်လပြည့်ကျော်(၁၀)ရက်နေ့တွင်သံဃာတော် အပါး ၅၀၅ ပါးတို့အား သပိတ်နှင့် ဒံပေါက်ဆွမ်းများ ကပ်လှူပြီး ပေါပလင်သက်န်းဒွိစုံ(၅၀၅)၊ထီးအလက် (၅၀၅)၊ ဖိနပ် အရန် (၅၀၅)၊မျက်နှာသုတ်တဘက်(၅၀၅)၊ သံသပိတ် သပိတ်ဖုံး သပိတ်ခြေ(၅၀၅)၊ပန်းကန်အစုံ(၅၀၅)စီဖြင့် လှူဒါန်း ဆက်ကပ်၍ ဆရာတော်ခန္ဓာဝန်ချတော်မူသော ရိပ်သာကျောင်းပေါ်မှာ များပြား လှစွာသောတပည့်ရဟန်းသံဃာ ယောဂီပုဂ္ဂိုလ်များပါ လာရောက်၍ တပည့်သံဃာတော်များကိုယ်တိုင် ကျေးဇူးရှင်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်ကို ပခုံးထက်၌ ထမ်းပိုးပင့်ဆောင်ကြပြီး မင်္ဂလာရိပ်သာ အတွင်းရှိ ဦးချစ်ဆွေ–ဒေါ်ဒေါ်မတို့၏ ဓမ္မာရုံပေါ်၌နိဗ္ဗာန်ကျောင်း အဖြစ် သတ်မှတ်ကာ (ယခင် သီတင်းကျွတ်လဆန်း ၁၃ ရက် နေ့က ဆရာတော်ဘုရားကြီးကိုယ်တိုင်စာရေးသူ၊ပန်းရန်ဆရာလှ၊ လက်သမား ဆရာ ဦးလှဒင်တို့အား နိမိတ်ပြမိန့်ခွန်း မိန့်တော်မူခဲ့သည့်အတိုင်း) ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကိုတင်၍ အပူဇော်ခံရန် စင်ရှင် ပန်းပြာသာဒ်စင်များကို ယခင်က အကျွေးရုံဆောက်လုပ်ရန် ဓမ္မာရုံတောင်ဘက်ဘေး၌ စုပုံထားသောအသားများဖြင့် ဆောက်လုပ် ပူဇော်ကာ နောက်နတ်တော်လကုန်တွင် တပည့်များစုပေါင်းလှူဒါန်း သော ဘော်ပြာသာဒ်ဖြင့် ခမ်းနား သိုက်မြိုက်စွာ ပူဇော်ထားရှိ၍ ရပ်ဝေးရပ်နီးမှ တကာ–တကာမ အပေါင်း လာရောက်ဖူးမြော် ကန်တော့ခြင်းကို ၁၃၂၄–ခု၊ပြာသိုလဆန်း(၉)ရက်နေ့အထိ ဖူးမြော် ခွင့်ပြုထားလေသည်။

ထိုသို့ ဖူးမြော်ခံစဉ် ညချမ်းအခါ၌ ရုပ်ကလာပ်တော်မှဓာ. ခြည်တော်များ ဖူးမြင်ရကြောင်းကို သီလရှင်ယောဂီများနှင့်စောင့် အိပ်ကြသော အလှည့်ကျ ပုဂ္ဂိုလ်များက ပြောပြသဖြင့် သိရပ သည်။

## ရုပ်ကလာပ် ပင့်ဆောင်ခြင်း

မြန်မာပြည်အရပ်ရပ်ရှိဆရာတော်ဘုရားကြီး၏တပည့်ရင်းများဖွဲ့စည်းထားသော ဈာပနဖြစ်မြောက်ရေး ကော်မတီ၏ တညီတညွတ်တည်းသော ဆုံးဖြတ်ချက်အရ ဆရာတော်ဘုရားကြီး၏ ကြွင်းကျန်ရစ်သော ဥတုဇရုပ်ကလာပ်တော်ကို မင်္ဂလာရိပ်သာဓမ္မာရုံနိဗ္ဗာန်ကျောင်းတော်မှ ၁၃၂၄—ခု၊ ပြာသိုလဆန်း (၉)ရက်နေ့ (၁၂)နာရီ အချိန်တွင် အမရပူရမြို့ တရုတ်တန်းမြောက်ဖျားမှ မြို့ကိုပတ်၍ပင့်ဆောင်ပြီး အမရပူရမြို့ အိုးတော်ရပ်ရှိ ပွဲတော်အင်း ကွင်းပြင်တွင် (၇)ရက်တိုင်တိုင် စည်ကားသိုက်မြိုက်စွာ ပူဇော်ကန်တော့ကြပြီး ၁၃၂၄—ခု၊ ပြာသိုလပြည့်နေ့တွင် အန္တိမဈာပန မီးသင်္ဂြိုဟ်ခြင်းပြုလုပ်ရန်အများသဘောတူညီကြပြီး ရိပ်သာအတွင်း၌လည်း ဓမ္မသဘင် တရားပွဲများဆင်ယင်ကျင်းပပြီး အောက်ပါ ဆရာတော်ကြီးများက တရားဓမ္မများကို ဟောကြားတော်မူကြလေသည်။

၁၃၂၄-ခု၊ ပြာသိုလဆန်း (၇)ရက်နေ့ညတွင် အမရပူရမြို့ ဂန္ဓာရုံကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော်အရှင်ဇနကာဘိဝံသက (၆)နာရီ အချိန်တွင်လည်းကောင်း၊ ပြာသိုလဆန်း(၈)ရက်နေ့တွင် အနီးစခန်းဆရာတော်ဘုရားကြီးက လည်းကောင်း၊ နိဗ္ဗာန်ရောက်ကြောင်းတရားများကို ဟောကြားဆုံးမတော်မူ၍၊ ၁၃၂၄-ခု၊ ပြာသိုလဆန်း(၉)ရက်နေ့၊ နေ့ (၁၂)နာရီအချိန်တွင် မြန်မာပြည်အရပ်ရပ် တိုက်နယ်အသီးသီးတို့မှ အဖွဲ့အစည်းပေါင်း ရှစ်ဆယ့်တစ်ဖွဲ့ဖြင့်၊ လူထု သိန်းပေါင်းများစွာတို့က ဆရာတော်ကြီး၏ ကြွင်းကျန်ရစ်သောရုပ်ကလာပ်တော်ကို ဆရာတော် အရှင်ဦးနရိန္ဒပူဇော်သော နတ်မြင်းပျံယာဉ်ကြီးပေါ်သို့ မိုးကုတ်မြို့မှ လှူဒါန်းသော (ပတ္တမြားခေါင်းတော်)နှင့် ပင့်ဆောင်ရာတွင် မကြုံစဘူးလောက်အောင်ပင် စည်ကားသိုက်မြိုက် တင့်တယ်လှပစွာ ပင့်ဆောင်ကြပါသည်။

ယင်းသို့ ပင့်ဆောင်ရာတွင် ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးများသာမက ယူနန်တရုတ် အမျိုးသားအဖွဲ့မှလည်း တရုတ်နဂါးအက၊ ဟိန္ဒူလူမျိုးများကလည်း တုတ်သိုင်းအကအဖွဲ့ဖြင့် လည်းကောင်း၊ ရှမ်းအမျိုးသားများကလည်း ရှမ်းသိုင်း အကဖြင့် လည်းကောင်း၊

အာရုံတော်ဝတ်အသင်းများကလည်း ဈေးမှုဈေးဟန် နန်းဆန်စွာဖြင့် ရွှေဝင်း နောက်ဝင်းများ ခင်းကျင်းလျက်လည်းကောင်း၊ ဓမ္မစကြာ အမျိုးသမီး အဖွဲ့များကလည်း ဓမ္မစကြာတရားများ ရွတ်ဖတ်လျက် လည်းကောင်း၊ အသီးသီး လိုက်ပါပို့ဆောင်ကြရာတွင် လူအင်အား များလှကာ ပင့်ဆောင်ရေးအဖွဲ့ တစ်ဝက်မှ မကျိုးမိကပင် လှည့် လည်သောလမ်း စီစဉ်ရုံမျှနှင့် ပွဲတော်အင်း ကွင်းပြင်သို့ ရောက်ရှိ ကာ နေစရာမရှိလောက်အောင်ပင် များပြားလှပေသည်၊ မန္တလေး, အမရပူရ, မြစ်ငယ်, စစ်ကိုင်းမြို့နယ်များမှ အသွားအလာ ယာဉ်များ လည်း ၎ားရမ်းမရအောင် ပြတ်တောက်သွားသဖြင့် အချို့လူများမှာ ပင့်ဆောင်ပွဲသို့ ခြေလျင်သွားလာကြရာ မန္တလေးနှင့် အမရပူရ၊ စစ်ကိုင်းနှင့် အမရပူရမှာ လူတန်းကြီးဖြင့် တစ်ဆက်တည်းပင် ဖြစ်နေ ပါသည်၊ အမရပူရ ကားသင်းမှ ဆရာတော်ဘုရားကြီးကို ပူဇော်သော အားဖြင့် ချာပနကျင်းပသော (၇) ရက်လုံး ကားခတစ်ဝက်နှုန်းဖြင့် ပို့ဆောင်ပေးလေသည်၊ ရုပ်ကလာပ်တော် ပင့်ဆောင်ရာတွင် လိုက်ပါ ပို့ဆောင်ကြမည့် ကြိုတင်စာရင်းပေးထားကြသော အဖွဲ့အစည်းများ မှာ အောက်ဖော်ပြပါ အဖွဲ့များဖြစ်၍, စာရင်းမပေးဘဲ လိုက်ပါကြ သော အသင်းအပင်း ပရိသတ်များမှာလည်း အလွန်များပြားလှ ပေသည်။

## စာရင်းပေးသော အသင်းအဖွဲ့များ

၁။ ရဲမော်တော်ဆိုင်ကယ်။
၂။ အရုပ်မော်တော်ဆိုင်ကယ်။
၃။ လှုံ့ဆော်ရေး အသံချဲ့စက်တင် ကားအဖွဲ့။
၄။ ဓမ္မစကြာ အမျိုးသမီးအဖွဲ့။
၅။ ဆရာတော်ဘုရားကြီး၏ ပုံတော်တင်ကား။
၆။ ဆရာတော်ပင့်ဆောင်ခန်း, ပြဟ္မာ-နတ်ကားအဖွဲ့။
၇။ စည်တော်ကြီးအဖွဲ့။
၈။ အာရုံတော်အဖွဲ့။
၉။ အမျိုးသား ဝင်းအဖွဲ့။
၁၀။ ဗုံတောင်အဖွဲ့။

မှတ်ချက် (၇—၈—၉—၁၀) အမှတ်စဉ်တို့မှာ ဗုဒ္ဓဝင်တော် အစီအစဉ်တွင် ပါဝင်သည်။

၁၁။ ဆင်ဖြူတော်နှင့် အဆောင်အယောင်။
၁၂။ လက်သုံးတော် အမျိုးသမီးများ။
၁၃။ ရှင်ဘုရင် မိဖုရား အဆောင်အယောင်။ (အမျိုးသမီးများ)
(၁၁—၁၂—၁၃)အမှတ်စဉ်တို့မှာ ရာဇဝင်တွင် ပါဝင်ကြသည်။
၁၄။ မန္တလေး ကြည်တင်ဆေးလိပ်ရုံ အမျိုးသမီးများ။
၁၅။ ဗျောအဖွဲ့။
၁၆။ တီးဝိုင်းနှင့် အကအဖွဲ့။
၁၇။ ဗျောနှင့် မင်းသား။
၁၈။ တီးဝိုင်းနှင့် အက။
၁၉။ အမျိုးသားများအဖွဲ့။
၂၀။ အမျိုးသမီးများအဖွဲ့။
၂၁။ မန္တလေး ဆင်ဆေးလိပ်ရုံ အမျိုးသမီးများ။
၂၂။ ဆင်ဆေးလိပ်ရုံ အမျိုးသားများ။
၂၃။ တရုတ်အမျိုးသားများ ကင်းထောက်နှင့် သူနာပြု။
၂၄။ သာချိုဗျောအဖွဲ့ စစ်ကိုင်း။
၂၅။ အိန္ဒိယ ကုလားသိုင်းအဖွဲ့။
၂၆။ ရှမ်းအိုးစည်သားအဖွဲ့။
၂၇။ ယူနန် တရုတ်အမျိုးသားများ နဂါးအကအဖွဲ့။
၂၈။ အာရုံတော်စောင့်ရှောက်ရေး အမျိုးသမီးအဖွဲ့။
၂၉။ ၎င်း အမျိုးသားအဖွဲ့။
၃၀။ အုပ်ချုပ်ရေး အောင်မြန်မာနှင့် မီးသတ်လူငယ်အဖွဲ့။
၃၁။ ဗုဒ္ဓဝင်တော် စောင့်ရှောက်ရေးလူကြီးများ။
၃၂။ ဝိဇ္ဇောဒရ သံဝေဂလက်ာ အသံသွင်းတိပ်ခွေဖွင့်ကားနှင့် အဖွဲ့။။
၃၃။ လူဖွယ်သက်နိုးကိုင် အမျိုးသမီးများ ဝဲယာ တစ်ဘက်လျှင် (၁၀၀၀)စီ။
၃၄။ စန္ဒာရမြားကြိုးကိုင် သီလရှင်အဖွဲ့၊ ဦးပေါက်ကျော်-ဒေါ်စီ ဦးဆောင်သော ယောဂီမယ်များ၊ အိုးတော်ရပ်အဖွဲ့၊မမ္မစကြာ အဖွဲ့များ။

၃၅။ ရုပ်ကလာပ်တော်တင် နတ်မြင်းယာဉ်ရထား။
၃၆။ သံဃာတော်များ။
၃၇။ ဦးကျော်ငြိမ်းဝတ်အသင်း။
၃၈။ ရွှေကြက်ယက်ဝတ်အသင်း။
၃၉။ ဆင်ရွာ ဓမ္မစကြာအမျိုးသမီးအဖွဲ့။
၄၀။ အိုးတော် ဓမ္မစကြာဝတ်အသင်း။
၄၁။ ၎င်း ပဋ္ဌာန်းဝတ်အသင်း။
၄၂။ ဥယျာဉ်တော် ဓမ္မစကြာဝတ်အသင်း။
၄၃။ ငယ်တိုး ဆွမ်းတော်ကြီးအဖွဲ့။
၄၄။ မိုးကုတ်မြို့ ဒါယကာ ဒါယိကာမများ။
၄၅။ ရန်ကုန်မြို့မှ ဒါယကာ ဒါယိကာမများ။
၄၆။ မန္တလေးမြို့မှ ဒါယကာ ဒါယိကာမများ။
၄၇။ ရွှေကြက်ယက်တိုက်နယ် အတီးအဖွဲ့များ။
၄၈။ ၎င်း အမျိုးသားများ။
၄၉။ ၎င်း အတီးအဖွဲ့။
၅၀။ အမျိုးသမီးများနှင့် လူဖွယ်။
၅၁။ ၎င်း အတီးအဖွဲ့။
၅၂။ ဟသ်ာတိုက်နယ် အတီးအဖွဲ့။
၅၃။ ဟသ်ာတိုက်နယ် အမျိုးသားများ။
၅၄။ ၎င်း အတီးအဖွဲ့။
၅၅။ ပန်းချီတိုက်နယ်အဖွဲ့။
၅၆။ ဆင်ရွာတိုက်နယ်အဖွဲ့။
၅၇။ ကြံတန်းတိုက်နယ် တီးဝိုင်းအဖွဲ့။
၅၈။ ၎င်း အမျိုးသားများ။
၅၉။ ဆင်စွယ်ပွတ်တိုက်နယ် တီးဝိုင်းအဖွဲ့။
၆၀။ ၎င်း အမျိုးသား အမျိုးသမီးများ။
၆၁။ အိုးတော်ရပ် စိန်နန်းမြင့် ရက်ကန်းရုံ အမျိုးသား အမျိုးသမီး
များ။
၆၂။ အိုးတော်တိုက်နယ် ဆင်နှင့် တီးဝိုင်းအဖွဲ့။
၆၃။ ၎င်း အမျိုးသားများ။
၆၄။ ၎င်း လူရိုင်းအကနှင့် အတီးအဖွဲ့။

၆၅။ ရှင်း လှူဖွယ်ဝတ္ထု ဆပ်ပြာကတ် (၁၀၀၀)။
၆၆။ ယင်းတော်တိုက်နယ် အမျိုးသား အမျိုးသမီးများ။
၆၇။ လေးစုတိုက်နယ် အမျိုးသားများ။
၆၈။ ၎င်း အတီးအကအဖွဲ့။
၆၉။ ၎င်း အမျိုးသမီးများနှင့် လှူဖွယ်များ။
၇၀။ ၎င်းအတီးအဖွဲ့။
၇၁။ ငယ်တိုးတိုက်နယ် တီးဝိုင်းအဖွဲ့။
၇၂။ ၎င်းအမျိုးသားများ။
၇၃။ ၎င်းတီးဝိုင်းအဖွဲ့။
၇၄။ ၎င်းအမျိုးသမီးများ။
၇၅။ ၎င်းတီးဝိုင်း။
၇၆။ တောင်ကြီးတိုက်နယ် အမျိုးသား အမျိုးသမီးများ။
၇၇။ ၎င်းတီးဝိုင်း အိုးစည်ဝိုင်း။
၇၈။ ဥယျာဉ်တော်တိုက်နယ် အမျိုးသား အမျိုးသမီးများ။
၇၉။ သူငယ်တော်တိုက်နယ် အမျိုးသား အမျိုးသမီးများ ဗျော အဖွဲ့။
၈၀။ ရွှေကြူပေါက် အမျိုးသား အမျိုးသမီးများ။
၈၁။ ဗဟို ဈေးပနကော်မီတီအဖွဲ့၊ ကျောင်း အသီးသီးမှ ကျောင်းသူ ကျောင်းသားများ၊ ရက်ကန်းရုံများမှ အလုပ်သမားအဖွဲ့များ၊ ဆေးလိပ်ရုံ အသီးသီးမှ အမျိုးသမီး အဖွဲ့များမှာ စာရင်းမပို့ဘဲ လိုက်ပါ ပို့ဆောင်ကြသဖြင့် စာရင်းမသွင်းနိုင်တော့ပေ၊ ယင်းသို့ပင့်ဆောင်ရာတွင် လိုက်ပါကြသူ အသင်းအဖွဲ့များအား ဒါးတန်းရေခဲစက်ပိုင် ကျောင်း ဒါယကာမကြီး ဒေါ်သန်းက နှမ်းမနဲ့ ကျွေးမွေး၍ တောင်သူကြီးဟောင်း ဦးတင်မောင် ဒေါ်ခင်ညွန့်တို့က ဇီးဖြူသီးပေါင်းဖြင့် ၎င်းကလည်း ချိုချဉ် သီးမွှေးငှက်ပျောသီးလိမ္မော်သီး ဖျော်ရေ အစရှိသဖြင့်တစ်လမ်းလုံး ကျွေးမွေး လှူဒါန်းကြပါသည်။

*

## ဈေးပန အခမ်းအနား

ဈေးပနပွဲကျင်းပရာ ဧက ၅၀ ကျော် ကျယ်ဝန်းသော ပွဲခင်းအတွင်း ကြီးကျယ် ခမ်းနားလှစွာသော ၂၄ ခန်း ပတ်လည်ရှိ ဗဟိုစံကျောင်းတော်ကြီး အပါအဝင် ဝဲယာ မဏ္ဍပ်ကြီး ၇လုံး၊ မဏ္ဍပ်ကြီးတစ်လုံးလျှင် ၁၄ ခန်းပတ်လည်ရှိပြီး လခြမ်းပုံသဏ္ဌာန် ဝိုင်း၍ လည်းကောင်း၊ ထို ကွင်းအလယ်တွင် လောင်တိုက်ကြီး၊ ၎င်း၏ ရှေ့တဲ့တဲ့တွင် ၄က်ချေးခံ မဏ္ဍပ် (မီးသင်္ဂြိုဟ်ရန် အုတ်ပလ္လင်) မြင်းပျံသုံးကောင်တပ်ရုပ်လုံးဖော် နတ်မြင်းပျံ နတ်ရထားကြီး၊ မဏ္ဍပ်ကြီးများမှ ရွှေရောင်ငွေရောင်များမှာလည်း တပြောင်ပြောင် တလိန့်လိန့်ဖြင့် နတ်ဘုံ နတ်နန်းတမျှ ခမ်းနားလှပါပေသည်။

ထို့ပြင် လောင်တိုက်ကြီး၏ ဝဲ့ဘက်မှ ပေ(၁၀၀) ခန့် အမြင့်ရှိသော လည်ပတ်နေသည့် ကမ္ဘာလုံးနှင့် ဒုံးပျံယာဉ်၊ ၎င်းတစ်ဖက်မှ နတ်လမ်းမှာလည်း ရုပ်ကလာပ်တော်ကို နတ်ပြည်သို့ နတ်မြင်းပျံဖြင့် ပင့်ဆောင် ပူဇော်ထားသည်မှာ အမှတ်တရပင် ဖြစ်ပါတော့သည်။

ညဥ့်အချိန်မှာလည်း ဆလိုက်မီးရောင်စုံ၊ မီးချောင်း-မီးလုံးများ၊ မီးရှူး-မီးပန်း အဖုံဖုံဖြင့်လည်း ဝေဝေဆာဆာ ထွန်းညှိပူဇော်ကြလျက်၊ နေ့ပွဲ-ညပွဲ၊ အတီးအမှုတ် အက-အခုန် စုံလင်စွာဖြင့် ကြွရောက်လာသူ ပရိသတ်များကို ဖြေဖျော်ကြသည့်အပြင်၊ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်အား ပူဇော်ရန် အလှူညဲ့ကျသော မဏ္ဍပ်သို့ ပင့်ဆောင်ရာတွင် ဦးကျော်သိန်း-ဒေါ်တင်လှတို့၏ကောင်းမှုဖြစ်သော ကရဝိက်ဖောင်ယာဉ်ပေါ်၌တင်၍ အခမ်းအနား အတီးအမှုတ်တို့ဖြင့် တစ်မဏ္ဍပ်မှ တစ်မဏ္ဍပ်သို့ ပင့်ဆောင်ကြသောအခါ အလှူညဲ့ကျသော မဏ္ဍပ်မှ တပည့်သံဃာတော်များ ဦးဆောင်ကာ တကာ-တကာမများ၊ အာရုံတော် ဝတ်အသင်း၊ ဓမ္မစကြာအဖွဲ့များနှင့် လာရောက်ဖူးမြော် ကြည်ညိုကြသူများပါ၊ ပါဝင်ပင့်ဆောင်ကြရာ အထူး စည်

ကားလှရကား၊ တစ်နေရာနှင့်တစ်နေရာ ကူးသန်းသွားလာရာပင် အလွန် ခဲယဉ်းလှပါပေသည်။

**မှတ်ချက်။** အန္တိမ အဂ္ဂိဈျာပနပွဲတော်ကြီးအပြီး ကမ္ဘာလုံးနှင့် ဒိုးပုံယာဉ် သရုပ်ဖော်ထားသော အဆောက်အဦမှ သစ်မာတိုင်နှင့် အသားတန် (၃၀)ကျော်အပြင်, နောက်ထပ် ကျွန်းတိုင်များနှင့် သစ်မာ တန်(၃၀)ကို ထပ်မံဝယ်ယူပြီး, တန်(၆၀)ဖြင့် ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်က စင်္ကြံလျှောက်လေ့ရှိသော တစ်မိုင်နီးပါးခန့်ရှိ ဦးပိန်တံတားကြီးတွင် ပျက်စီးချို့ယွင်းနေရာများကို စင်္ကြံ ကြွလေ့ရှိသည့် နေရာ အထိမ်းအမှတ်ဖြစ်စေခြင်းငှါ ပြုပြင်ဆောက်လုပ် လှူဒါန်းခဲ့ပါသည်။

ယင်းသို့ ပင့်ဆောင်ရာတွင် (၇)ရက်စလုံးပင် မိုးကုတ်မြို့မှ တကာတကာမများ၊ ရန်ကုန်မြို့မှ ကျားဖျံဆေးလိပ်ရုံပိုင်ရှင် ဦးသန်းမောင် ဇနီး ဒေါ်ကောက်၊ မန္တလေးမြို့ သစ်ဘုရားသား ဦးသစ်၊ဦးကျော်သိန်း—ဒေါ်တင်လှတို့က ပိုက်ဆံများ ကြဲကြရာ, စေတနာထက်သန်လှန်းသဖြင့် အနုပ်အကြွေများသာမက, ကျပ်တန်, ငါးကျပ်တန်, ဆယ်တန်များပင် ပါဝင်လေသည်၊ အနုပ်အကြွေများကို ငွေဖလားများဖြင့် ထည့်မနေနိုင်တော့ဘဲ ထန်းခေါက်တောင်းဖြင့် ထည့်ကာ ကြဲချ လှူဒါန်းနေကြပုံမှာ အားရဝမ်းမြောက်ဖွယ်ပင် ဖြစ်ပါတော့သည်၊ (ကျွန်တော်ပင် မှတ်တမ်းတင် ရုပ်ရှင်ကား၌ ရိုက်ကူး ဖော်ပြထားပါသည်။)

ဆရာတော်ဘုရားကြီး ရုပ်ကလာပ် အပူဇော်ခံရသောမဏ္ဍပ်၌ အပူဇော်ခံနေချိန်တွင် ဆရာတော်ဘုရားကြီး ဟောကြားတော် မူခဲ့သော တရားတော်တိတ်ခွေများဖွင့်၍ တရားနာကြပါသည်၊ ထိုအချိန်တွင် အခြားသော မဏ္ဍပ်များတွင်လည်း ကြွရောက်လာကြသော ဧည့်ပရိသတ်ကြီးအား ချိုချဉ် ခဲဖွယ် အဖျော်ယမကာများဖြင့် ကျွေးမွေးဧည့်ခံခြင်း, အတီးအမှုတ် အကအခုန်များဖြင့် ဖြေဖျော်ခြင်းများ ပြုကြပါသည်။

ဈာပနပွဲ (၇)ရက်ပတ်လုံး နီးဝေးရပ်ရွာ မြို့တကာမှ လာရောက်ကြည်ညိုပူဇော်ကြသူများအား မဏ္ဍပ်အသီးသီးမှ လက်ဖက်ရည်မုန့်ပဲ သရေစာများသာမက, ထမင်းဟင်း စားရေးသောက်ရေးနှင့် တည်းခို နေထိုင်ရေးပါ တာဝန်ယူကြလျက် ဈာပနပွဲကြီးကို ခြိမ့်ခြိမ့်သဲမျှ ဆင်ယင် ကျင်းပပူဇော်ကြလေသည်။

၎င်း(၇)ရက်နေ့တွင် သံဃာတော် အရှင်မြတ်များအား ဆွမ်းကပ် တာဝန်ယူ လှူဒါန်းသူများနှင့် ကြွရောက်လာကြသော လူထုပရိသတ်ကြီးအား အကျွေးအမွေးများဖြင့် ဧည့်ခံကြသော ကုသိုလ်ရှင်အသင်းအဖွဲ့နှင့် မဏ္ဍပ်များကို မှတ်မိသမျှ အနည်းငယ်ဖော်ပြရလျှင် ပြာသိုလဆန်း(၈)ရက်နေ့တွင် မန္တလေးမြို့ကျောင်းဒါယကာပွဲစားကြီး ဦးပေါက်ကျော်, ကျောင်းဒါယိကာမကြီး ဒေါ်စီတို့က သံဃာတော်အရှင်မြတ်များအား ဒံပေါက်ဆွမ်း, ကွမ်း, မုန့်, လက်ဖက်ရည်တို့ဖြင့် ဆက်ကပ်လှူဒါန်း၍ ကြွရောက်လာကြသော ဓမ္မမိတ်ဆွေများအား နံနက်စာများ ကျွေးမွေးဧည့်ခံပါသည်၊ ပြာသိုလဆန်း (၉) ရက်နေ့တွင် ရန်ကုန်မြို့မှ ကျောင်းဒါယကာ ဦးအောင်ချို, ကျောင်း ဒါယိကာမ ဒေါ်လှညွန့်တို့က သံဃာတော်အရှင်မြတ်တို့အား ဒံပေါက်ဆွမ်းခဲဖွယ်များ ကပ်လှူပါသည်၊ ပြာသိုလဆန်း (၁၀) ရက်နေ့တွင် မိတ္ထီလာမြို့မှ ဒါယကာ ဒါယိကာမအပေါင်းတို့နှင့် မန္တလေးမြို့ (သစ်ဘရားသား) ဦးသစ်တို့က ထောပတ်ဆွမ်းခဲဖွယ်များ ကပ်လှူ၍ ဖိတ်ကြားအပ်သော မိတ်ဆွေသင်္ဂဟများပါ ကျွေးမွေးဧည့်ခံပါသည်။

ပြာသိုလဆန်း(၁၁)ရက်နေ့တွင် မန္တလေးမြို့ ဒါးတန်း ရေခဲစက်ပိုင်ရှင် ကျောင်းအမကြီး ဒေါ်ဒေါ်သန်းနှင့် သားသမီးတစ်စုက သံဃာတော် အရှင်မြတ်တို့အား ဆွမ်း-ခဲဖွယ် ဘောဇဉ် တို့ဖြင့် ဆက်ကပ်၍ ဓမ္မမိတ်ဆွေများအား နံနက်စာဖြင့် ကျွေးမွေးပါသည်။

ပြာသိုလဆန်း(၁၂)ရက်နေ့တွင် ရန်ကုန်မြို့ ကျောင်းဒါယကာ (ကျားပျံ)ဦးသန်းမောင်, ကျောင်းဒါယိကာမ ဒေါ်ကောက်တို့က သံဃာတော်များအား အုန်းဆွမ်းခဲဖွယ်များ ကပ်လှူ၍ ကြွရောက်လာကြသော ဓမ္မမိတ်ဆွေများအား နံနက်စာဖြင့် ဧည့်ခံပါသည်။

ပြာသိုလဆန်း (၁၃) ရက်နေ့တွင် ရန်ကုန်မြို့မှ ဆရာတော်ဘုရားကြီး၏ ဒါယကာ-ဒါယိကာမ အပေါင်းတို့နှင့် မန္တလေးမြို့မှ စက်ပိုင်ဦးသာဌေး—ဒေါ်သန်း, သားသမီးတစ်စုတို့က သံဃာတော်အရှင်မြတ်တို့အား ဆွမ်းခဲဖွယ်ဘောဇဉ်တို့ဖြင့် ကပ်လှူ၍ ကြွရောက်လာကြသော ပရိသတ်အား နံနက်စာဖြင့် ကျွေးမွေး ညွှေ့ခံပါသည်။

ပြာသိုလဆန်း(၁၄)ရက်နေ့တွင် မိုးကုတ်မြို့မှ ဦးဘလှိုင် ဇနီး ဒေါ်ဦးတို့က သံဃာတော်အရှင်မြတ်တို့အား ဆွမ်းခဲဖွယ် ဘောဇဉ်တို့ဖြင့် ဆက်ကပ်လှူဒါန်းပါသည်။

ပြာသိုလဆန်း (၁၅) ရက်နေ့တွင် ဆရာတော်ဘုရားကြီး၏ တပည့် မိုးကုတ်မြို့မှ ဒါယကာ—ဒါယိကာမ အပေါင်းတို့က သံဃာတော်အပါး(၁၀၀၀)တို့အား ဆွမ်းခဲဖွယ် ဘောဇဉ်များဖြင့် အသီးသီး ဆက်ကပ်လှူဒါန်းကြပြီး မဏ္ဍပ်အသီးသီးမှလည်း အောက်ပါအတိုင်း ကျွေးမွေးညွှေ့ခံခြင်းများ ပြုကြပါသည်။

ဗဟိုမဏ္ဍပ်ကြီး၏ ဝဲဘက်ရှိ ဦးကျော်သိန်း—ဒေါ်တင်လှတို့၏ ကောင်းမှုဖြစ်သော အမှတ်(၁) မဏ္ဍပ်တွင် ဝင်းတိုကပင် မုန့်, လက်ဖက်ရည်တို့ဖြင့် ကျွေးမွေးပြီး အဝေးအနီးမှ ညွှေ့ပရိသတ် များအား ထမင်း စတုဒိသာဖြင့် (၇)ရက်တိုင်တိုင် ကျွေးမွေး ညွှေ့ခံပါသည်၊ မဏ္ဍပ်အတွင်း၌ ဆရာတော်ဘုရားကြီး တရားဟောဟန် ပုံတော်ဖြင့် တရားဖွင့်ခြင်း၊ တက်နေလင်းပုံနှိပ်တိုက်နှင့် အောင်မြန်မာ စက္ကူဆိုင် အဖွဲ့သားများက ဆရာတော်ဘုရားကြီး၏ ပုံတော် ၅၀၀၀ ကို ဒါန လက်ဆောင်အဖြစ် ဝေငှခြင်းပြုကြပါသည်၊ ထို့ပြင် နေ့စဉ် ပွဲလမ်းသဘင် အတီးအမှုတ်တို့ဖြင့် စုံလင်စွာ ပူဇော်ပါသည်။

(သစ်ဘုရားသား)ဦးသစ်၏ ကောင်းမှုဖြစ်သော ဝဲဘက် အမှတ် ၂ မဏ္ဍပ်တွင် ဝင်းတိုကပင် ၁၀ ရက်နေ့တွင် ဘူးသီးကြော် စတုဒိသာဖြင့်လည်းကောင်း၊ ၁၁-၁၃-၁၄ ရက်နေ့များတွင် မုန့်၊ လက်ဖက်ရည်တို့ဖြင့်လည်းကောင်း၊(၁၂)ရက်နေ့တွင် ၎င်းမဏ္ဍပ်၌ရန်ကုန်မြို့ ကျောင်းဒါယကာ (ကျားပျံ)ဦးသန်းမောင်—ဒေါ်ကောက်တို့က မုန့် လက်ဖက်ရည်များဖြင့် ညွှေ့ခံကျွေးမွေး၍ ရန်ကုန် အငြိမ့်ဖြင့် ညွှေ့ခံဖြေ

ဖျော်ပါသည်၊(၁၅)ရက်နေ့တွင်လည်း ရန်ကုန်မြို့မှ ဆရာတော်ဘုရားကြီး၏ ဒါယကာ ဒါယိကာမများက ကြာဇံဟင်း စတုဒိသာဖြင့် ကျွေးမွေး ညှော်ခံပါသည်။

ဝဲဘက် အမှတ် (၃) မဏ္ဍပ်တွင် (၁၀)ရက်နေ့၌ အမရပူရမြို့ တောင်ကြီးရပ်မှ ဇီးဖြူသီး ငပိကြော်၊ လက်ဖက်သုတ်ဖြင့် ကျွေးမွေး၍ ထိန်ကုန်းရွာ ကြံခိုင်ရေးပြဇာတ်ဖြင့်လည်းကောင်း၊ (၁၁)ရက်နေ့တွင် အုန်းပေါင်း အကြော်တို့ဖြင့် ကျွေးမွေး၍ ဒိုးပတ်ဝိုင်းဖြင့် လည်းကောင်း၊ (၁၂)ရက်နေ့တွင် အုန်းပေါင်း အကြော်ဖြင့် ကျွေးမွေး၍ (စစ်ကိုင်းမြို့ သာချိုဗျော အဖွဲ့)ညတွင် ဥက္ကလာကြည် အငြိမ့်ဖြင့် လည်းကောင်း၊ (၁၃)ရက်နေ့ညတွင် ကြာဇံဟင်းဖြင့် ကျွေးမွေး၍ ဥက္ကလာကြည် အငြိမ့်၊မဲတူတူ အငြိမ့်တို့ဖြင့် လည်းကောင်း၊ (၁၄)ရက်နေ့တွင် မုန့်ဟင်းခါးဖြင့် ကျွေးမွေး၍ (ပွင့်သစ်စ စိန်စိန် အငြိမ့်ဖြင့် လည်းကောင်း)၊(၁၅)ရက်နေ့တွင် ကြာဇံဟင်းဖြင့် ကျွေးမွေး၍ ခေတ်သစ် စည်တော်ကြီးတို့ဖြင့် (၆)ရက်တိုင်တိုင် နေ့ပွဲညပွဲများဖြင့် ညှော်ခံ ဖျော်ဖြေကြပါသည်။

ဗဟိုမဏ္ဍပ်၏ (ယာဘက်) မိုးကုတ်မြို့မှ ကောင်းမှု ဖြစ်သော အမှတ်(၁)နှင့်(၂)မဏ္ဍပ်များတွင် မိုးကုတ်အဖွဲ့ကြီးမှ (၇) ရက် တိုင်တိုင် မုန့် လက်ဖက်ရည်များဖြင့် ကျွေးမွေး၍ အငြိမ့်၊ ရုပ်ရှင်၊ ဂီတ အဖွဲ့များဖြင့် နေ့ညမပြတ် ဖျော်ဖြေပါသည်၊ ယာဘက် အမှတ်(၁) မဏ္ဍပ်တွင် (၁၀) ရက်နေ့မှာ အိုးတော်တိုက်နယ်မှ မုန့် လက်ဖက်ရည် တို့ဖြင့် ကျွေးမွေး၍ စိန်နက်ကြီးဆိုင်းအဖွဲ့၊ မြို့မတူရိယာအဖွဲ့နှင့် မင်းသမီး ညွန့်ပေါင်းဖြင့်လည်းကောင်း၊ ၁၁ ရက်နေ့တွင် ဆင်စွယ်ပွတ် တိုက်နယ်မှ မုန့် လက်ဖက်ရည်တို့ဖြင့်လည်းကောင်း၊ ၁၂ ရက်နေ့တွင် ရွှေဂူမ်းထုတ်တိုက်နယ်မှ မုန့် လက်ဖက်ရည်တို့ဖြင့် ကျွေးမွေး၍ မဇေဒါ အငြိမ့်အဖွဲ့ဖြင့်လည်းကောင်း၊ ၁၃ ရက်နေ့တွင် ကြံတန်း တိုက်နယ်မှ မုန့် လက်ဖက်ရည်တို့ဖြင့် ကျွေးမွေး၍လှထိပ်တင်အငြိမ့်ဖြင့်နေ့ရောညပါ ညှော်ခံ၍ ၁၄ ရက်နေ့တွင် ငယ်တိုးတိုက်နယ်မှ မုန့် လက်ဖက်ရည် တို့ဖြင့် တိုက်ကျွေး၍ ညပိုင်းတွင် မြို့တော် အငြိမ့်ဖြင့် လည်းကောင်း၊ ၁၅ရက်နေ့တွင်လေးစုံတိုက်နယ်မှ မုန့် လက်ဖက်ရည်တို့ဖြင့်ကျွေးမွေး၍

နေ့ပိုင်းတွင် မဲတူကူအမြို့ဖြင့်လည်းကောင်း၊ ညပိုင်းတွင် မာယာတင် အငြိမ့်ဖြင့်လည်းကောင်း၊ အကျေးအမွေး သိုက်မြိုက်စုံလင်စွာဖြင့် ကြွရောက်လာကြကုန်သော ပရိသတ်ကြီးအား ဧည့်ခံပြုစုကြပါသည်။

အထက်ပါ ပွဲလမ်းသဘင်များနှင့် ပူဇော်ခြင်းကို ဆရာတော်ဘုရားကြီး ရုပ်ကလာပ်တော်ကို အလှည့်ကျ ပူဇော်ဧည့်ခံရာမဏ္ဍပ်၌ လုံးဝမပြုလုပ်ရဘဲ ဆရာတော်ဘုရားကြီး ဟောကြားခဲ့သော တရားတော်များကိုသာ တိတ်ရီကော်တာများဖြင့်ဖွင့်၍ တရားပွဲများကို ကျင်းပကြပါသည်။ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ပူဇော်ရန် အလှည့်မကျသေးသော မဏ္ဍပ်များ၌သာ ပွဲလမ်းသဘင်များဖြင့် ပူဇော်ခွင့် ရကြပါသည်။ အမှန်မှာ ထိုအချိန်က ပွဲလမ်းသဘင်အသံများထက် ဆရာတော်ဘုရားကြီး၏ တရားတော်အသံများကသာ လွှမ်းမိုးလျက် ရှိခဲ့ပါသည်။



## အဂ္ဂိစျာပနတွင်လှူဒါန်းကြသော
## အလှူရှင်များနှင့် လှူဖွယ်ပစ္စည်းများ

၁။ မန္တလေးမြို့ ကျောင်းတကာ ဦးကျော်သိန်း-ဇနီးဒေါ်တင်လှတို့က ပန်းပြာသာဒ်ကို လှူဒါန်းပါသည်။

၂။ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် ထည့်သွင်းရန် အဘိုးအနဂ္ဃ ထိုက်သော ပတ္တမြားခေါင်းကို မိုးကုတ်မြို့မှ ဒါယကာ ဒါယိကာမများက လှူဒါန်း ပါသည်။

၃။ ဆရာတော်၏ စံကျောင်းတော် ဘော်ပြာသာဒ်နှင့် သံဃာတော်များအား လှူဒါန်းရန် ပေါ်ပလင် သင်္ကန်းဒွိစုံ (၁၀၀၀)ကို စျာပနရန်ပုံငွေမှ လှူဒါန်းပါသည်။

၄။ ရုပ်ကလာပ်တော် ပင့်ဆောင်ရန်အတွက် နတ်မြင်းပျံ ပြာသာဒ်ယာဉ်ကို ဆရာတော်ဘုရား၏ တပည့်ရင်း အရှင်ဦးနရိန္ဒက လှူဒါန်းပါသည်။

၅။ ရုပ်ကလာပ်တော် မီးသင်္ဂြိုဟ်ရန် ဖြစ်သော ငှက်ခြေးခံ အုတ်ပလ္လင်ကို မင်္ဂလာတိုက်ဟောင်းမှ သံဃာတော်များက လှူဒါန်းပါသည်။

၆။ စျာပနကွင်းအတွင်း ရုပ်ကလာပ်တော် ပင့်ဆောင်ရန် ကရဝိက်ဖောင်တော်နှင့်ကမ္ဘာလုံးယာဉ်ကြီးအပြင်, လောင်တိုက်ကြီးများကို မန္တလေးမြို့ ကျောင်းဒါယကာ ဦးကျော်သိန်း- ကျောင်းဒါယိကာမ ဒေါ်တင်လှ တို့က လှူဒါန်းပါသည်။

၇။ မိုးကုတ်ဝိပဿနာစာအုပ် ပထမတွဲ အုပ်ရေ (၁၀၀၀)ကို မိုးကုတ်မြို့ မြို့မရပ် ကျောင်းအမကြီး ဒေါ်အုံ၊ ဒေါ်ဖုံ၊ သားသမီးမြေးတစ်စုတို့က လှူဒါန်းပါသည်။

၈။ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ စာအုပ် အုပ်ရေ (၁၀၀၀)ကို မန္တလေးမြို့ အောင်မြေ့မြန်မာ စက္ကူဆိုင်ပိုင်ရှင် ဦးကျော်သိန်း-ဒေါ်တင်လှတို့က လှူဒါန်းပါသည်။

၉။ မိုးကုတ်ဝိပဿနာစာအုပ် တတိယတွဲ အုပ်ရေ (၁၀၀၀)ကို မိုးကုတ်မြို့ မြို့မရပ် ဦးမြင့်—ဒေါ်သန်းသန်း သားသမီး တစ်စုတို့က လှူဒါန်းပါသည်။

၁၀။ မိုးကုတ်ဝိပဿနာစာအုပ် တတိယတွဲ အုပ်ရေ (၁၀၀၀)ကို မိုးကုတ်မြို့ မြို့မရပ် ဦးအုန်းခိုင်—ဒေါ်ပိုက်ပိုက် သားသမီး မြေးတစ်စုတို့က လှူဒါန်းပါသည်။

၁၁။ ဆန်းလိုက်ဆပ်ပြာကပ်(၁၀၀၀)နှင့် နံ့သာထင်း(၁၀၀၀) ကို အမရပူရမြို့ အိုးတော်တိုက်နယ်, တကာ တကာမတို့က လှူဒါန်းပါသည်။

၁၂။ သံဃာတော်များပင့်ဆောင်ရန် ပြာသိုလဆန်း ၁၅ ရက် နေ့တွင် ဘတ်(စ်)ကားကြီး အစီး ၂၀။

ရုပ်ကလာပ်တော်ပင့်ဆောင်ရာတွင် အသုံးပြုရန် ဂျစ်ကား ၅ စီးကို အမရပူရမြို့ မော်တော်ယာဉ် အသင်းကြီးမှ လှူဒါန်းပါသည်။

၁၃။ မျက်နှာသုတ်တဘက် ၅၀၀ ကို အမရပူရမြို့ မင်္ဂလာဝိပဿ နာရိပ်သာမှ လှူဒါန်းပါသည်။

ထိုသို့ လှူဒါန်းကြရာတွင် အလှူငွေများနှင့်အလှူပစ္စည်းများ လှူဒါန်းကြသော အလှူရှင်အချို့မှာ အချိန်မီမပေးနိုင်၍ ဖော်ပြခြင်း မပြုရပါ။

**မှတ်ချက်။** အထက်ပါ အလှူရှင်များနှင့် လှူဖွယ်ပစ္စည်းများအပြင် အဂ္ဂိစျာပန နောက်ဆုံးနေ့ ကျင်းပသောအချိန်တွင် လာ ရောက်လှူဒါန်းကြသော ဝတ္ထုငွေများနှင့် လှူဖွယ် ပစ္စည်းများ၏ ကုသိုလ်ရှင်စာရင်းကို အတိအကျ မရရှိနိုင် ပါ၍ ကုသိုလ်ရှင်များ၏ အမည်နှင့် လှူဖွယ်ပစ္စည်း အမျိုးအမည်များကိုဖော်ပြနိုင်ခြင်းမပြုနိုင်ပါကြောင်း။



## တတိယအကြိမ် ပျားစွဲခြင်း

၁၃၂၄–ခု၊ ပြာသိုလဆန်း ၁၄ ရက်နေ့ ညနေ ၃ နာရီအချိန် ခန့်တွင် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ဗဟိုစံကျောင်း မဏ္ဍပ်မှ လောင်တိုက်ကြီး ဒိုးပျံစင်နှင့် မီးသင်္ဂြိုဟ်ရာ အုတ်ပလ္လင်များ ကို လက်ယာရစ် လှည့်ပတ်၍, ဦးကျော်သိန်း–ဒေါ်တင်လှတို့၏ မဏ္ဍပ်သို့ ပင့်ဆောင်လာစဉ် များလှစွာသော လူအုပ်ကြီးအပေါ်မှ မြောက်မြားစွာသော ပျားကောင်များသည် တဝီဝီမြည်လျက် ပင့် ဆောင်လာသော လမ်းစဉ်အတိုင်း ပျံသန်းလိုက်လာပြီး ဆရာတော်၏ ရုပ်ကလာပ်တော် ကိန်းဝပ်မည့် ဦးကျော်သိန်း–ဒေါ်တင်လှတို့၏ မဏ္ဍပ် ဘယ်ဘက်ယွန်းအဆောင်အတွင်း မဏ္ဍပ်မုတ်ဆိတ်တွင် ဆရာ တော်၏ ရုပ်ကလာပ်မရောက်လာမီ မိနစ်အနည်းငယ်အတွင်း ဝင်ရောက် စွဲအုံဖွဲ့နေကြပါတော့သည်။ ၎င်းအချိန်တွင် မဏ္ဍပ်အတွင်း၌လည်း ပင့်ဆောင်ရာတွင်ပါကြသော ဗုဒ္ဓဝင်အဖွဲ့၊ မဇ္ဈိမကြာအမျိုးသမီးအဖွဲ့၊ တရုတ်အမျိုးသားအဖွဲ့၊ ကုလားအမျိုးသားအဖွဲ့ပါ လူပေါင်း မြောက် မြားစွာဖြင့် ဆူညံနေသောအချိန် ဖြစ်ပါသည်၊ နောက် ၂ မိနစ်ခန့် အကြာတွင် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် မဏ္ဍပ်အတွင်း သို့ ပူဇော်ဖူးမြော်ခံ ရောက်ချိန်၌ ပျားများလည်း သိုက်အုံဖွဲ့ပြီးချိန်နှင့် တစ်ချိန်တည်း တိုက်ဆိုင်လျက်ရှိပါသည်။

၎င်းပျားစွဲခြင်းမှာ ဆရာတော်ဘုရားကြီး၏ ထူးခြားသော နိမိတ်လက္ခဏာတစ်ရပ်အဖြစ် တတိယအကြိမ် ပျားစွဲခြင်းပင်တည်း၊ ၎င်းညမှာပင် အင်းဝမြို့ လက်သစ်ရပ်ရွာမှ အမည်မဖော်လိုသူ ပန်းချီ ဆရာတစ်ဦး၏ ဇနီးမှာ ပဋိသန္ဓေ အရင့်အမာနှင့် ဆရာတော်၏ ဈာပန သို့ လှည်းဖြင့် ညအိပ်ရင်း အဖူးအမြော်လာကြပြီး စာရေးသူ၏ မဏ္ဍပ် ထမင်းချက်ရုံအနီး၌ လှည်းချွတ်၍ ဆရာတော်၏ ရုပ်ကလာပ်တော် အား ဖူးမြော်ခြင်း၊ ပွဲလမ်းသဘင်များ ကြည့်ရှုခြင်းများပြုပြီး မဏ္ဍပ် အတွင်း၌ တည်းခိုစဉ် ပဋိသန္ဓေမှာ ရုတ်တရက် မမျှော်လင့်ဘဲ နံနက် ပိုင်း ၃ နာရီအချိန်ခန့်တွင် သားယောကျ်ားကလေးကို မွေးဖွားပါ သည်၊ ၎င်းကလေးမှာ ယခုတိုင် အသက်ရှင်လျက်ရှိပါသည်။

*

## မီးသင်္ဂြိုဟ်ခြင်း

၁၃၂၄–ခု၊ ပြာသိုလဆန်း (၁၅) ရက်နေ့တွင် နောက်ဆုံးအကြိမ် အပူဇော်ခံခြင်းဖြင့် မဏ္ဍပ်တိုင်းအား လှည့်လည်အပူဇော်ခံရာတွင် ကွင်းကြီးတစ်ခုလုံး ကြိတ်ကြိတ်တိုး စည်ကားလှပါသည်၊ တစ်နေရာနှင့် တစ်နေရာ ကူးသန်းသွားလာရာတွင် အလွန်ပင် ခဲယဉ်းလှပါပေသည်။

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်ကို ညနေ တစ်နာရီအချိန်ခန့်တွင် ဦးကျော်သိန်း–ဒေါ်တင်လှတို့၏ ဒိုးဖျံနှင့် ကမ္ဘာလုံးစင်ပေါ်သို့ နတ်မြင်းပျံရထားများဖြင့် ပင့်ဆောင်အဖူးမြော်ခံပြီး (၂)နာရီအချိန်တွင် ဦးကျော်သိန်း–ဒေါ်တင်လှတို့၏ မဏ္ဍပ်မှ တစ်ဆင့် လောင်တိုက်ပေါ်တွင် ပင့်ဆောင် အပူဇော်ခံတော်မူသည်၊ ထိုအချိန်တွင် နောက်ဆုံးနေ့ဖြစ်သဖြင့် ပူပြင်းလှသော နေပူချိန်ဖြစ်သောကြောင့် နေ၏အပူဒဏ်ကိုပင် အမှုမထားဘဲ လာရောက်ကြသောပရိသတ်များမှာ တအားပင် တိုးဝှေ့နေကြပါတော့သည်၊ စေတနာထက်သန်ကြသော တပည့်တပန်းများကလည်းဆန်ပန်းပေါက်ပေါက်နှင့်ပိုက်ဆံများကြဲချ လှူဒါန်းရာ ငါးကျပ်တန် တစ်ဆယ်တန်များပါ တစ်ဖွေးဖွေး ရှိပါတော့သည်။

ညနေ ၂ နာရီခွဲ အချိန်တွင် လောင်တိုက်မှ တစ်ဆင့် ယောဂီပုဂ္ဂိုလ်များကိုယ်တိုင် ပခုံးထက်တွင် ထမ်း၍မီးသင်္ဂြိုဟ်ရာ အုတ်ပလ္လင်သို့ ပင့်ဆောင်လာကြကာ နံ့သာဖြူ နံ့သာနီ ကရမက် ထင်းများဖြင့် ဆရာတော်ဘုရား၏ ဥတုဇရုပ်ကလာပ်ကို မီးသင်္ဂြိုဟ်ရန် တင်ကြပါသည်၊ ထိုအခါ ရုပ်တော်မှာ ပကတိ ကျိန်းစက်နေဘိသကဲ့သို့ အသားအရေများ ဝါဝင်းပျော့ပျောင်းနေပြီး မျက်လုံးတော်မှာလည်း လူကောင်းများကဲ့သို့ပင် အကြည်ဓာတ်မပျက် တည်ရှိနေသည်ကို ဖူးတွေ့ရပါသောကြောင့် ဤ ရုပ်ကလာပ်တော်ကို ဓာတ်ပုံရုပ်သေ ရုပ်ရှင်များ ရိုက်ယူကြပါသည်။

မီးသင်္ဂြိုဟ်ရန်ပင် မသင်္ဂြိုဟ်ရက်ကြသဖြင့် မီးမသင်္ဂြိုဟ်နိုင်ဘဲ ဖူးမြော်နေကြရာ မီးသင်္ဂြိုဟ်ရန်အချိန်ပင် ကြန့်ကြာနေပါတော့သည်၊

သို့သော်လည်း မီးမသင်္ဂြိုဟ်ဘဲ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ပကတိအတိုင်း ပြတိုက်တွင်ထားလိုသော ထပည့် တကာ–တကာမ အချို့က ရုပ်ကလာပ်တော်ကို လုယူရန်ကြံစည်နေသဖြင့် ဤရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ရန် အုတ်ပလ္လင်ကို သံဃာတော်များ တစ်ထပ်၊ မီးသတ်ရဲဘော်များ တစ်ထပ်၊ ပြည်သူ့ရဲများတစ်ထပ်၊ အထပ်ထပ်တို့ဖြင့် ဝိုင်းရံစောင့်ကြပ်ပြီး အမြန်ဆုံး မီးသင်္ဂြိုဟ်ခြင်းကိစ္စကို ဆောင်ရွက်ကြသော်လည်း ရုပ်ကလာပ်တော်မှာ ပကတိ လူကောင်းကျန်းစက်နေသကဲ့သို့ ဖူးတွေ့ကြရသဖြင့် မီးသင်္ဂြိုဟ်ရန်ပင် မေ့လျော့နေကြပါသည်၊ အတန်ကြာမှ မီးသင်္ဂြိုဟ်ရာ နံ့သာထင်းများကို လုံးဝမီးမစွဲဘဲရှိသဖြင့် အမျိုးမျိုး ကြိုးစားရာ မအောင်မြင်သောကြောင့် သံဃာတော်တစ်ပါးက ခေတ်သံများပက်ဖျန်းပြီး မီးရှို့လိုက်ရာ မီးမတောက်ဘဲ ရုန်းကနဲ မှိုင်းလုံးကြီးများသာ ထွက်ကာထွက်ကာ တက်သွားပြီး နောက်မှ ကန့်တော့နေကြသော ပရိသတ်ရှေ့တွင် မီးတောက်ကြီး ဖြုန်းကနဲထတောက်သဖြင့် မီးသင်္ဂြိုဟ်ကြသော သံဃာတော်အချို့ပင် အုတ်ပလ္လင်မှ ဆင်းပြေးရပါသည်။

အချို့ သံဃာတော်များ မီးအဟပ်ခံရသဖြင့် ရက်ပေါင်းအတော်ကြာအောင်ပင်ဆေးဝါးများကုသရလေသည်၊ထူးဆန်းအံ့သြဖွယ်ကောင်းသည်မှာ နံ့သာထင်းများကို မီးစွဲလောင်သော်လည်း ရုပ်ကလာပ်တော်မှာ စင်းစင်းကြီးပင် ဖူးတွေ့ရသည်မှာ နာရီဝက်ကျော်ကျော်ပင် ကြာပါသည်၊ နောက်မှပင် အလိုအလျောက် မီးစွဲလောင်ပါသည်၊ ရုပ်ကလာပ်တော်ကို မီးစွဲလောင်သော်လည်း မကောင်းသော အနံ့အသက်များ လုံးဝမထွက်ဘဲချွာပနက္ခင်းတစ်ခုလုံး မွှေးကြိုင်နေပါတော့သည်။

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်မှ အပုပ်နံ့ မနံကြောင်းကို လာရောက် ဖူးမြော်ကန်တော့ကြသော တစ်သိန်းကျော်နှစ်သိန်းခန့်ရှိ လူထုပရိသတ်ကြီး အသိပင်ဖြစ်ပါသည်။

"နိက္ကိလေသာနံ မတံသရီရံပိ ဒုဂ္ဂန္ဓံ န ဟောတိ"ဟု သုတ္တန်နိပါတ် အဋ္ဌကထာ အာမဂန္ဓသုတ်အရ အာသဝေါ ကင်းကွာသော ရဟန္တာပုဂ္ဂိုလ်တို့သည် သေသောအခါ ထိုပုဂ္ဂိုလ်၏ကိုယ်မှ အပုပ်နံ့ မထွက်ပါ။

## ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်မှ မီးသင်္ဂြိုဟ်ရာတွင် ဓာတ်တော်များကျခြင်း

ကျေးဇူးရှင် မိုးကုတ်ဆရာတော် ဘုရားကြီး၏ ဥတုဇ ရုပ်ကလာပ်တော်မှာ နံ့သာထင်းပုံပေါ်၌ မီးသင်္ဂြိုဟ်ရာ မီးတောက်ပေါ်မှာ ပကတိ အသက်တော်ရှင်စဉ်က ကျိန်းစက် နေဘိအလား ဖူးမြော်ကန်တော့ကြသော ပရိသတ်များမှာ ထိုင်ကန်တော့စရာပင် နေရာမရှိလောက်အောင် ဖြစ်ပါသည်၊ သို့အတွက် မှတ်ဘမ်းတင်ရန် ရုပ်ရှင်ရိုက်သူနှင့် ဓာတ်ပုံရိုက်သူများ တစ်နေရာနှင့် တစ်နေရာ မသွားလာနိုင်သည့်အတွက် ဓာတ်ပုံ ရုပ်ရှင်ရိုက်သူများ စုံလင်စွာ မရိုက်နိုင်ခဲ့ကြပါ။

နာရီဝက်ကျော်မှ ရုပ်ကလာပ်တော်ကို မီးစွဲလောင်ပါသည်၊ ထို့နောက် မီးသင်္ဂြိုဟ်ကြသော နံ့သာထင်များမှာ များပြားလွန်းသဖြင့် မနိုင်မနင်းဖြစ်လာပြီး မီးအားမှာ အဆမတန်ကြီးမားလာရာ မီးသတ်ကားကိုပင်ခေါ်၍ မီးအရှိန်လျော့စေရန် ဆောင်ရွက်ရပါသည်၊ လူထုမှာလည်း မီးအားနည်းသည်နှင့်တစ်ပြိုင်နက် ကိုးကွယ်ကြရန် ဆရာတော်၏ မီးသင်္ဂြိုဟ်ရာနေရာမှ ရရာပစ္စည်းများကို ဝင်ရောက်ယူငင်ကြသဖြင့် 'ပြည်သူ့ရဲအကူအညီဖြင့် ၎င်းနေရာကို တားဆီးပြီး ည ၉ နာရီအချိန်လောက် အပူချိန်လျော့ချိန်တွင် အုတ်ပလ္လင်မှ တွေ့ရှိသမျှပစ္စည်းများကို သိမ်းကျုံး၍ အိတ်ကြီးအိတ်ငယ်နှင့်ထည့်ပြီး လုံခြုံရာ မင်္ဂလာရိပ်သာကျောင်းတိုက်သို့ အမြန်ပို့ရလေသည်။

၎င်းည၌ အုတ်ပလ္လင်ကို အထူးကြပ်မတ်၍ အစောင့်များချထားပြီး၊ တကာ-တကာမများကလည်း မိမိတို့တည်းခိုရာဌာနသို့ ပြန်ကြပါသည်။ နံနက်လင်းသောအခါ အစောင့်များ မနိုင်တော့ဘဲ ဆရာတော်ရုပ်ကလာပ် မီးသင်္ဂြိုဟ်ရာ အုတ်ပလ္လင်မှ ဓာတ်တော်

များ တွေ့ရှိသဖြင့် အလုအယက် လှန်လှောရှာဖွေကြရာ,ထိန်းသိမ်း မရဘဲ အုတ်ပလ္လင်ကြီးပါ ပျက်စီးသွားရလေသည်။

နောက်မှ အစောင့်အရှောက်များကို ထပ်မံ ဖြည့်တင်း၍ အုတ်ပလ္လင်နေရာကို စနစ်တကျ ရှာဖွေရာ, အုတ်အင်္ဂတေ ကြားမှ အစားစားသော ဓာတ်တော်များနှင့် အရိုးတစ်ပိုင်း ဖြစ်ဆဲဓာတ် တော်တစ်ပိုင်း အတွဲလိုက် အပြွတ်လိုက် ဖူးမြော် တွေ့ရှိရပါသည်၊ အချို့နားမလည်သော ပုဂ္ဂိုလ်များက အုတ်ပလ္လင်မှ တွေ့ရှိရသော လုံးဝိုင်းသော ကျောက်ခဲကလေးများ အစအနများကို ဓာတ်တော် ထင်မှတ်၍ ယူဆောင်သွားကြရာ, နားလည်သော ပုဂ္ဂိုလ်များက ဓာတ်တော်မဟုတ်ကြောင်း ရှင်းလင်းပြောဆိုသော်လည်းမရဘဲ မီး သင်္ဂြိုဟ်ရာမှရသော ပစ္စည်းဖြစ်၍ ဘာဘဲဖြစ်ဖြစ် ကိုးကွယ်မည်ဟု ဆိုကာ ပုလင်းများ ဗူးများ၌ထည့်၍ ကိုးကွယ်သည်ကို တွေ့ရှိရ လေသည်။

ဆရာတော်ရုပ်ကလာပ်မှရသော ဓာတ်တော်များမှာ ယခင်က ဖူးတွေ့ခဲ့ရခြင်း မရှိဘူးသေးသော များစွာလတ်ဆတ်ပြီး အရိုးတစ် ပိုင်း ဓာတ်တော် ဖြစ်တုန်းဖြစ်ဆဲ, နှီးရောင်အဖြူကတစ်ပိုင်း အစ အနများနှင့် အရိုးတော်တွင် သီတွဲနေသော ဓာတ်တော်များ၊ တေဇောဓာတ်လွန်ကဲသည့်အတွက် အဝါရောင်လွန်ကဲသော ဓာတ် တော်အချို့ကို ဖူးတွေ့ရပါသည်၊ ဤကဲ့သို့တွေ့ရှိရသည်ကို ရှေးမီ နောက်မီ ထေရ်ကြီးဝါကြီး ပုဂ္ဂိုလ်များက မီးသင်္ဂြိုဟ်စဉ်က စနစ် မမှန်သောကြောင့် ဤကဲ့သို့ဖြစ်ရသည်ဟု ပြောပြပါသည်။

နောက် လပြည့်ကျော် ၃ ရက်နေ့တွင် ရိပ်သာကျောင်း တိုက်သို့ပို့ထားသော မီးသင်္ဂြိုဟ်စဉ်က ရရှိသောပစ္စည်းများကို ရင်းနှီး သော တပည့်ရင်းများအားစုဝေးခေါ်ယူ၍ ရှာဖွေကြရာ, မီးမစွဲဘဲ သူငယ်အိမ်မပျက် တည်ရှိသော မျက်လုံးတော်တစ်စုံနှင့် ချိတ်ဆက် နေသော လက်ဆစ်ရိုးတော်များ အရိုးတော်တွင် ဓာတ်တော် ကြွင်းရန်ဆဲဆဲ အဖုအလုံး အရာလေးများပါရှိသော အရိုးတော် များမှ ဖြစ်ပြီးသောအရွယ်အစားစားအရောင်အမျိုးမျိုးသောဓာတ် တော်များ သွားတော်များကို များပြားစွာ ဖူးမြင်တွေ့ရှိရပါသည်။

အရိုးတော်များကို ကိုးကွယ်ကြရန် ယူထားကြသော အချို့သော တကာ–တကာမများ အိမ်၌ ၎င်းအရိုးတော်များမှ တဖြည်းဖြည်း ဓာတ်တော်ကလေးများကဲ့သို့ အလုံးအဖုကလေးများ ဖြစ်လာပြီး တစ်ပိုင်းကအရိုး, တစ်ပိုင်းက ဓာတ်တော်များ တဖြည်းဖြည်းဖြစ်လာသည်ကို ထူးဆန်းစွာ ဖူးတွေ့ကြရပါသည်။ ဆင်ဆေးလိပ် ကုမ္ပဏီ ဦးသောင်းအိမ်၌ ယခုအချိန်တိုင် အရိုးတော်များက ဓာတ်တော်ဖြစ်လျက် ရံဖန်ရံခါ ရောင်ခြည်တော် ကွန့်မြူးနေသည်ကို ဖူးတွေ့နိုင်ပါသည်။

ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်က ဆံတော်ချတိုင်း တပည့်အပေါင်းက ဆံတော်များကိုသိမ်းဆည်းကာ ပုလင်းများတွင် ထည့်၍ တစ်ချိန်က ကိုးကွယ်ကြသည်၊ ၎င်းအချိန် ဆံတော်များမှာ တကွဲတပြားစီ တည်နေသော်လည်း ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချပြီး နောက်ပိုင်းအချိန်များ၌ ထိုဆံတော်များမှာ အလိုအလျောက်စုပေါင်းပြီး လုံးဝန်းသော အစုအဝေးဖြင့် ဓာတ်တော်ကဲ့သို့ အံ့ဩဖွယ်ပြောင်းလဲနေသည်ကို ဖူးတွေ့ရပါသည်၊ ၎င်းဓာတ်တော်များကို မင်္ဂလာ ဝိပဿနာရိပ်သာကျောင်းတိုက်ပေါ်တွင် အများဖူးမြော်နိုင်ကြရန် တစ်နှစ်တိတိ အပူဇော်ခံထားပြီး ထို့နောက် စေတီတော်၌ ဌာပနာခဲ့ပါသည်။

ဒါကြောင့် ဆရာတော်ဘုရားကြီးသည် ၁၃၂၄–ခု၊ သီတင်းကျွတ် လပြည့်နေ့က (ငါသေရင် သပိတ်မသွတ်နဲ့ဟေ့)ဟု တရားနာပရိသတ်များအား ဟောပြောဆုံးမခဲ့လေသည်။



## စေတီတော်တည်ခြင်း

ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီး၏ အဆုံးအမ သြဝါဒကထာ ဟောကြားတော်မူခဲ့သော တရားတော် ဒေသနာများကို တည်တံ့ကာ မပျက်ပြားစေဘဲ တပည့် ဒါယကာ ဒါယိကာမများ, ဝေနေယျအစားစားတို့သည် ဆက်လက်ကာ တရားအားထုတ်နေစေရန် ရည်သန်ရင်းစေတနာဖြင့် တရားတော်များကို မိတ္ထီလာအဖွဲ့မှ ကျောက်ထက်အက္ခရာတင်၍ လည်းကောင်း၊ ရန်ကုန် ဦးအောင်ဇံဝေ သားသမီးတစ်စုက ပေထက်အက္ခရာတင်၍ လည်းကောင်း၊ ရန်ကုန်၊ မန္တလေး၊ မိတ္ထီလာ အဖွဲ့များမှ ဟောကြားတော်မူခဲ့သော တရားတော်များကို ပုံနှိပ်ထုတ်ဝေ၍လည်းကောင်း၊ ယခု တစ်ဖန် အားလုံးသော တပည့် တကာ တကာမ အပေါင်းက ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်၍ ပူဇော်ရာ သရီရဓာတ်နှင့် ဥတုဇရုပ်ကလာပ် အရိုးတော် ဓာတ်တော်ကို ကျရောက်သက်ဆင်း ကိန်းဝပ်တော်မူသည့်နေရာကို ကြီးကျယ်ခိုင်ခံ့ သံထုပ် သံဘင်း သံလုံးတို့ဖြင့် ခက်၍ ကျောက်သေး ကွန်ကရစ်တိုင် ကြီးပေါင်း ၁၂ တိုင်နှင့် ကျောက်သေးကွန်ကရစ် ကုဗပေ ၇၉၁·ပေ၊ မြေအောက်တွင် ကွန်ကရစ်ချနိုင်ရန် အဆိုပါ အုတ်ပလ္လင်က ဝိုင်းရံ ဗဟိုပြုလျက် ၁၃၂၄—ခု၊ ပြာသိုလဆုတ် (၁၅)ရက်၊ ကြာသပတေး နေ့ နံနက် (၁၀)နာရီ မင်္ဂလာအချိန်တွင် ပန္နက်ချတည်ဆောက်ခဲ့ရာ အောင်မြင်ပြီးစီးပါသဖြင့် ၁၃၂၆-ခု၊ ပထမဝါဆိုလဆုတ် (၄)ရက်၊ တနင်္ဂနွေနေ့ နံနက် (၁၀) နာရီအချိန်တွင် ပထမ ဌာပနာတိုက်ကို ခိုင်ခံ့စွာ ပိတ်၍ တစ်ဖန် ဒုတိယဌာပနာတိုက်ကို ရင်းလကွယ် (၁၅) ရက်၊ ကြာသပတေးနေ့ နံနက် ၁၀ နာရီအချိန်တွင် သံလုံး သံဘင်း ကျောက်သေးကွန်ကရစ်များဖြင့် အခိုင်အမာ ဒုတိယ ဌာပနာတိုက်ကို ပိတ်လိုက်ကြပါသည်။

ဒုတိယဝါဆိုလပြည့် သောကြာနေ့ ၁၂ နာရီတိတိ အခ တွင် ထီးတော်ကို ရေကြောင်းမှ ကရဝိက်ဖောင်တော်ဖြင့်ပင့်ဆော ကာ ကြီးကျယ်ခမ်းနားစွာ တင်ကြပါသည်။

ဝင်းစေတီတော်မှာ ပွဲတော်အင်းအလယ်တွင် တည်ဆောက်ခဲ့ရပါသောကြောင့် မိုးတွင်းအခါ မြစ်ရေတက်ချိန်၌ ရေစီးဒဏ် ခံနိုင်အောင် ခိုင်ခံ့စွာ မြေအောက်၊ ရေတား၊ မြေကြောဖြတ်ရန် စေတီတော်ပတ်လည်ကို အနက် ၇-ပေ ဝိုင်းရံတူးကာ သံဘင်း၊ သံချောင်း၊ ကျောက်သေး ကွန်ကရစ်များဖြင့် ဝိုင်းရံမြုပ်နှံ ကျား ကန်လျက် စေတီတော်ကို အခိုင်အမာ ထပ်၍တည်ပြီးနောက် စေတီတော်တစ်ဆူ အားလုံးမှန်စီရွှေချ လှပတင့်တယ်စွာ မွမ်းမံ၍ ပြီးစီးအောင်မြင်ပါသဖြင့် ၁၃၂၆—ခု၊သီတင်းကျွတ်လပြည့်ကျော် ၄-ရက် တနင်္ဂနွေနေ့ နံနက် ၇ နာရီ အချိန်တွင် အနေကဇာတင်ပြီးမင်္ဂလာ ဓာတုစမ္မစေတီတော်အဖြစ် ရောက်ရှိပါကြောင်း။

ဝင်းနေ့ နံနက် ၇ နာရီခွဲအချိန်တွင် သံဃာတော် အပါး ၅၀၀ကို သင်္ကန်းလှူဖွယ်ဝတ္ထု အစုံဖြင့် ဆွမ်းတော်ကြီးလောင်းလျက် လှူဒါန်းဆက်ကပ်ပြီး နေ့ ၁-နာရီ မိနစ် ၂၀ အချိန်တွင် ဆရာတော်ဘုရားကြီး၏ ၂ ကြိမ်မြောက် နှစ်ပတ်လည် ပူဇော်ပွဲ ကျင်းပခဲ့ပါသည်။

ထိုကဲ့သို့ လုပ်ဆောင်ချက်များသည် ဆရာတော်ဘုရားကြီး၏ ဟောပြော ဆုံးမချက်များကို အစွန့်ရှည်စွာ တည်တံ့ နိုင်စေရန် ဖြစ်ပါသည်။



## မင်္ဂလာ ဓာတုမ္မစေတီတော်
## အတိုင်းအထွာ

| | | |
|---|---|---|
| ၁။ | အုတ်ပလ္လင်တော်အရပ်(မြေပေါ်) | ၁၁ ပေ၊ |
| ၂။ | ကျောက်စာတိုက် အမိုးအဝိုင်းအထိ အမြင့် | ၁၉ ပေ၊ |
| ၃။ | အမိုးဝိုင်းအထက် ဖိနပ်တော်မှ စိန်ဖူးတော်အထိ | ၃၃ ပေ၊ |
| ၄။ | မြေပြင်မှ စိန်ဖူးတော်အထိ | ၆၁ ပေ၊ |
| ၅။ | စေတီတော် ထီးအချင်း | ၂၇ လက်မခွဲ၊ |
| ၆။ | အုတ်ပလ္လင်အချင်း | ၄၆ ပေ၊ |
| ၇။ | အမိုးအဝိုင်းအချင်း | ၃၂ ပေ၊ |
| ၈။ | စေတီဖိနပ်တော်အချင်း | ၁၅ ပေ၊ ၆ လက်မ၊ |
| ၉။ | အခြေခံအုတ်ပလ္လင်တော်(မြေအောက်) | ၅ ပေ၊ ၁၁ လက်မ၊ |
| ၁၀။ | ကျောက်စာတိုက်ပလ္လင် | ၃ ပေ၊ ၆ လက်မ၊ |
| ၁၁။ | ဝတ္တကမြေနယ်နိမိတ်(ပတ်လည်) | ၉၆ ပေ၊ |

## မင်္ဂလာ ဓာတုစေတီ တည်ဆောက်ရာ ကုန်ကျငွေစာရင်း

မင်္ဂလာ ဓာတုစေတီတော် တည်ထားကိုးကွယ်ရသည့်အဓိက အကြောင်းရင်းအချက်မှာ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ခန္ဓာဝန် ချပြီးနောက် ရုပ်ကလာပ်တော်၏ ထူးခြားချက် (၁၅) ချက်အနက် အရေးကြီးသော အချက် တစ်ချက်မှာ ရုပ်ကလာပ်တော်အား ဆေး သွင်း ဆေးထိုးရာမှ ပန်းထွက်လာသော သွေးစိမ်းများကို ခံယူပြီး သိမ်းဆည်းထားရာ မသမာလူတစ်စုက အဆိုပါ သွေးများကိုခိုးယူပြီး လောကီရေးရာနှင့် ပတ်သက်သော တုတ်ပီးဓားပီးဆေး, ပီယဆေး စသည်များအတွက် သုံးစွဲကြသည်ကို စာရေးသူနှင့်တကွ အချို့ ဓမ္မ မိတ်ဆွေများ ကြားသိကြသည့်အပြင် မင်္ဂလာရိပ်သာ ကျောင်းတိုက် အတွင်း မှန်ဗီရိုတွင်ထားရှိသောဆရာတော်ဘုရား၏ရုပ်ကလာပ်တော်မှ ကြွင်းကျန်ရစ်သော မျက်လုံးတော်ကိုလည်း ညအချိန်စောင့်ရှောက်သူ များအလစ်တွင် ပင့်ဆောင်ရန် ကြံစည်သည်ကို သိရှိရခြင်းကြောင့် ဖြစ်ပါသည်။

သို့ပါ၍ မင်္ဂလာဓာတုစေတီတော်ကို အရေးတကြီး တည် ထားပြီး မျက်လုံးတော်၊ ဓာတ်တော်တစ်ပိုင်း အရိုးတော် တစ်ပိုင်း များ၊ ဆံတော်မှဖြစ်သော ဓာတ်တော်များ၊ ချိတ်ဆက် ဖြစ်သော လက်ဆစ် အရိုးတော်များ၊ သွေးမှဖြစ်သော ဓာတ်တော်များ စသည် တို့ကို ဆောလျင်စွာ ဌာပနာလိုက်ရပါသည်။

အဆိုပါ စေတီတော် ဖြစ်မြောက်ရေးအတွက် မ,တည် ရင်းနှီး ငွေများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်။

(ကျယ်အံ့မည်စိုး၍ အလှူခံဖြတ်ပိုင်းတွင် ပါရှိသော အလှူရှင် များအမည်နှင့် အလှူငွေများကို အသေးစိတ် ဖော်ပြခြင်း မပြု တော့ပါ)။

ဂုဏ်စေတီတည်စဉ်က ရန်ကုန်မြို့ ဦးသံဒိုင်က အမြန် ပြီးမြောက်အောင် ငွေအား အကြံဉာဏ်အား ကူညီပါသည်၊ ထို့ပြင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဝိပဿနာတရားစဉ်နှင့် လုပ်ငန်းစဉ် ပြန့်ပွားရေးအဖွဲ့များဖွဲ့၍ အနယ်နယ်တွင် အဖွဲ့ခွဲများ များစွာဖြင့် ယောစဉ်တရားများကို ပြန့်ပွားအောင် ဆောင်ရွက်သည်မှာ မြန်မာပြည်တစ်ခွင်သာမက နိုင်ငံခြားသို့ပင် ပြန့်ပွားအောင်မြင်လျက်ရှိပါသည်၊ မိုးကုတ်မြို့မှ ပြန့်ပွားရေးအဖွဲ့က ယောစဉ်များကို ယောဂီပေါင်းများစွာအား နေ့စဉ်နာကြားစေလျက် ဓာတ်တော် မွေတော်တို့အား စေတီတော် တည်ထားလျက်ရှိပါသည်။

| | | |
|---|---|---|
| ၁။ | ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး အစိုးရလှူငွေ | ၁၅၀၀-၀၀ |
| ၂။ | အင်္ဂလိပ်ပြာပန ရန်ပုံငွေမှ ဦးကျော်သိန်း ပြန်အပ်သော ပိုငွေ | ၁၀၀၇-၀၀ |
| ၃။ | ဆရာကော် ဦးနေရိန်လှူငွေ | ၁၀၀၀-၀၀ |
| ၄။ | ဘဏ်မှ လက်ကျန်ငွေ | ၆၃၄-၅၅ |
| ၅။ | ငွေထိန်းထံမှ လက်ကျန်ငွေ | ၂၀၆-၅၀ |
| ၆။ | အလှူခံဖြတ်ပိုင်းဖြင့် ကောက်ခံရရှိငွေနှင့် ပိုသောပစ္စည်းများ ပြန်ရောင်းရငွေ | ၂၁၆၉၁-၉၅ |
| ၇။ | ဦးပေါက်ကျော်–ဒေါ်စီတို့လှူဒါန်းသော မှန်စီရွှေချ ကုန်ကျစရိတ် | ၂၅၀၀၀၊၀၀ |
| ၈။ | ရန်ကုန်မြို့ဦးသံဒိုင်–ဒေါ်တင်တင်လှူငွေ | ၃၀၀၀-၀၀ |
| ၉။ | မန္တလေး ဟာသံပြဒါးဝင်းနေ ဦးအုန်းမောင်–ဒေါ်အမ လှူဒါန်းသော ထီးတော်နှင့် မီးရောင်စုံ | ၁၅၀၀-၀၀ |
| ၁၀။ | ရန်ကုန်မြို့ ဦးအောင်ချို လှူဒါန်းသော ဆလိုက်မီး (၄)ခု | ၈၀၀–၀၀ |
| ၁၁။ | ဦးကျော်သိန်း–ဒေါ်တင်လှတို့ လှူငွေ | ၆၇၇၀၀-၀၀ |
| | စုစုပေါင်း | ၁၂၅၀၀၀-၀၀ |

**မင်္ဂလာ ဓာတုစမ္မစေတီတော်အတွက်**
**နောက် ထပ်မံဖြည့်စွက်၍ လှူဒါန်းကြသော အလှူရှင်များနှင့်**
**အလှူငွေများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်**

၁။ မိုးကုတ်ဆရာတော်ဘုရားကြီး၏ အစ်မရင်းဖြစ်သူ ပဲခူးမြို့ သီလရှင်ဆရာကြီး ဒေါ်သုစာရီက စေတီတော်လေးထောင့်ရှိ နယားရုပ် လေးရုပ်အတွက် အလှူငွေ ၁၀၀၀-၀၀

၂။ မန္တလေးမြို့ ဦးကျော်သိန်း-ဒေါ်တင်လှ တို့က စေတီတော်တွင် ထားရှိသော အလှူခံသေတ္တာ တစ်လုံးအတွက် အလှူငွေ ၂၅၀-၀၀

၃။ မိတ္ထီလာမြို့ မိုးကုတ်ဝိပဿနာအဖွဲ့က စေတီတော် လေးဖက် လေးတန်ရှိ ကျောက်စာ ၄ ချပ် အတွက် အလှူငွေ ၁၄၀၀-၀၀

စုစုပေါင်း....၂၆၅၀-၀၀

မင်္ဂလာ ဓာတုစေတီတော် တည်ထား ကိုးကွယ်ရေး အတွက် အစုစုကုန်ကျငွေပေါင်းမှာ (၁၂၇၆၅၀)ဖြစ်ပါသည်။

## မင်္ဂလာ ဓာတုစေတီတော် ဌာပနာတိုက်တွင် လှူဒါန်းကြသော အလှူရှင်များနှင့် လှူဘွယ်ဝတ္ထုပစ္စည်းများစာရင်း

၁။ အမရပူရမြို့ ဒေါ်ခင်နှင့် သားသမီးတစ်စု ကောင်းမှု ငွေခေါင်းပတ် ၃ ခု၊ (ဘော်ပြာသာဒ်ပစ္စည်း) နီလာ ရွှေလက်စွပ်တစ်ကွင်း၊ ငွေဒင်္ဂါးပြား ၃၀၊ ငွေငါးမူးစေ့ ဆယ်စေ့၊ ငွေမတ်စေ့ ၁၅-စေ့၊ ကြေးနီပြား ၁၁၀ စေ့ နံ့သာပုတီးတစ်ကုံး၊ ဂိုက်ပေတံ တစ်ချောင်း။

၂။ အမရပူရမြို့ အမာကုန်းရပ်, ဒေါ်က ကောင်းမှု.... ကျောက်နီ ရွှေလက်စွပ်တစ်ကွင်း။

၃။ အမရပူရမြို့ ဒေါ်သိန်းနု—ဒေါ်သိန်းရင် ကောင်းမှု.... ကျောက်စိမ်းရွှေလက်စွပ် တစ်ကွင်း၊ မဟူရာ ရွှေလက် စွပ်တစ်ကွင်း။

၄။ အမရပူရမြို့ ဦးလှမောင်-ဒေါ်ရင် ကောင်းမှု.... ဘော်ထီးတစ်ဆူ၊ ဘော်ဗုဒ္ဓဝင် ၂ ဆူ၊ ဘော်ပေါက် ပေါက်၂၇ ခု၊ ဘော်တောင့်ပြေ တစ်ခု၊ ၎င်း လေးမျိုး စလုံးမှာ ဘော်ပြာသာဒ် ပစ္စည်း၊ ဘုရားဓါတ်တော် ၃ဆူ။ ၆ လက်မ ကျောက်ဆင်းတု ၂ ဆူ။

၅။ အမရပူရမြို့ ဦးချစ်စိန်—ဒေါ်ချစ်မေ ကောင်းမှု.... ဘော်ဗုဒ္ဓဝင်တစ်ခု၊ ဘော်ပြာသာဒ်ပစ္စည်း။

၆။ အမရပူရမြို့ ဒေါ်ရင်မြ၏သား, မောင်ညွန့်၊ သမီး မမြသန်း ကောင်းမှု .. ဘော်ဗုဒ္ဓဝင်တစ်ခု၊ ဘော်ပြာသာဒ်ပစ္စည်း။

၇။ အမရပူရမြို့ မင်္ဂလာရိပ်သာ ဦးဖေါ့ကောင်းမှု... ဘော်ဗုဒ္ဓဝင်တစ်ခု၊ ဘော်ပြာသာဒ်ပစ္စည်း။

၈။ အမရပူရမြို့ ဒေါ်စိန့်, ဒေါ်သိန့် ကောင်းမှု....
ယွန်းအုပ်နှင့် အတွင်းပါပစ္စည်း ချိတ်ပိတ်ထားသည်။

၉။ ဦးသောင်းဖေ–ဒေါ်မြခင် ကောင်းမှု....
ပုလဲအစစ် ၁၅ လုံး။

၁၀။ အမရပူရမြို့ ဒေါ်အေးသိင်္ဂီ ကောင်းမှု....
ခေတ်လုံးရွှေလက်စွပ်တစ်ကွင်း၊ နီလာ ကျောက်တစ်လုံး၊ခေတ်လုံးတစ်လုံး။

၁၁။ ဦးကြွယ်-ဒေါ်တွေး ကောင်းမှု....
ဘော်ခေါင်း ပတ်ခေါင်းတစ်ခု၊ ဘော်ပြာသာဒ်ပစ္စည်း၊ ငွေဒင်္ဂါး ၃ ကျပ်၊ ကြေးနီပြား ၂၀ ပြား၊ ဥဿဖယားကျောက် ၁၀ လုံး၊ ဆံစု တစ်ခု။

၁၂။ ကိုအေးမောင်-မသန်းရွှေ ကောင်းမှု...
အိန္ဒနီလာကျောက်ကြီးတစ်လုံး၊ဥဿဖယား ကျောက်တစ်လုံး၊ ပတ္တမြားကျောက် တစ်လုံး၊ မြကျောက်တစ်လုံး၊

၁၃။ ဦးဝင်းမောင်-ဒေါ်ချစ်မေကောင်းမှု....ပတ္တမြား ရုပ်ပွားတော်တစ်ဆူ၊ဘော်ပေါက်ပေါက် ၂ခု၊(ဘော်ပြာသာဒ်ပစ္စည်း)

၁၄။ အိုးတော်ရပ် ဦးဘဆင်–ဒေါ်အုန်း ကောင်းမှု....
ငွေဖလား ၁၊ မဟူရာဆွဲသီး ၁ ခု၊ ဆံစု ၁ ခု၊

၁၅။ အမရပူရမြို့ ဦးကျော်ဇံ-ဒေါ်ဆု ကောင်းမှု....
ဥဿဖယားကျောက် ၂ လုံး။

၁၆။ ဦးလှစိန်–ဒေါ်ကြည်ကြည် သားသမီးတစု ကောင်းမှု....
ဥဿဖယား ရွှေနားကပ်တစ်ရံ၊ ဘော်ပေါက်ပေါက် ၂ ခု၊ (ဘော်ပြာသာဒ်ပစ္စည်း)။

၁၇။ အမရပူရမြို့ ဒေါ်သိန်း သားသမီးတစ်စု.... ငွေမတ်စေ့ ၁ စေ့၊ မဟူရာကျောက်တစ်လုံး၊ ကျောက်နီတစ်လုံး၊ စလင်းရွှေဆွဲသီး ၁ ခု။

၁၈။ အမရပူရမြို့ ပွဲတော်ရပ် ဒေါ်ချော.... ကျောက်နီ တစ်လုံး၊ ကျောက်စိမ်း တစ်လုံး၊ ငါးမူးစေ့တစ်စေ့၊ငွေထုံးဘူးတစ်ခု။

၁၉။ အမရပူရမြို့ ဦးညွန့်လေး....ကျောက်စိမ်း ၂လုံး၊အိန္ဒနီလာ တစ်လုံး၊ နီလာလုံးချော ၆ လုံး၊

၂၀။ အမရပူရမြို့ ဦးအောင်ကြီး—ဒေါ်ဟန်....ငွေဘယားအိတ် ၁ အိတ်၊ငွေဒင်္ဂါးတစ်ကျပ်၊ပတ္တမြားကျောက်တစ်လုံး။

၂၁။ အမရပူရ ရိပ်သာအတွင်း ဦးအဝမ်.... ပတ္တမြားလုံးချော အကြီး ၇၉ လုံး၊ ပတ္တမြားလုံးချော အသေး ၄၉ လုံး၊ ရွှေရုပ်ကြယ်သီးကြိုး ၁ ကုံး၊ နီလာ ရွှေလက်စွပ် ၂ ကွင်း၊ မြကျောက် ၂ လုံး၊ ကျောက်စိမ်း ၄ ခု၊ ပုလဲ အစစ် ၁၄ လုံး၊ အင်္ကျီရွှေကြယ်သီးအဆွဲ ၂ ခု၊နီလာ လုံးချော အသေး ၃၁ လုံး၊ ပတ္တမြား တာပတာ အကြီး ၁၁ ပွင့်၊ မဟူရာကျောက် ၂ လုံး၊နီလာ တာပတာ ၃ ပွင့်၊ ငွေမူးစေ့ ၁၁ စေ့၊ အမေရိကန် ကျပ်ပြား၊ပြင်သစ်ဥဿဖယား ကျောက်အသေး ၂၃၆ပွင့်၊ ပြင်သစ် ဥဿဖယား ကျောက် အကြီး ၂၅ ပွင့်၊ ကျောက်ဆင်းတုတစ်ဆူ၊ဆင်စွယ်တူ တစ်စုံ၊ လက်ဖက်ရည်ကရားတစ်လုံး၊ ဘုရားကျောင်းဆောင်နှင့် အတွင်းပါ ပစ္စည်း၊ ရတနာဿရ ရွှေအိမ်နှင့် ဘော်ပေါက်ပေါက် ၄ ခု၊ (ဘော်ပြာသာဒ်ပစ္စည်း)။

၂၂။ အမရပူရမြို့ လက်ဖက်ရည်ဆိုင်ရှင် ဦးခင်မောင်....ငွေမတ်စေ့ တစ်စေ့၊ ပတ္တမြားလုံးချော တစ်လုံး၊ ဆံတော် တစ်ဘူး။

၂၃။ ဦးဝင်းဖေ—ဒေါ်မြိုင်.... ကျောက်စိမ်း တစ်လုံး၊ နီလာ ၃ ပွင့်၊

၂၄။ ဆရာတော် ဦးနေရိန္ဒ (မိုးကုတ်).... မြေ ဆင်းတုတော် တစ်ဆူ၊ စလင်းဆင်းတုတော် တစ်ဆူ။

၂၅။ ကိုတင်ညွန့်–မဝက်.... နီလာတစ်ပွင့်။

၂၆။ ဒေါ်ဥတ္တရ၊ ဒေါ်စိန်...ဥဿဖယားကျောက် ၅ ပွင့်။

၂၇။ မန္တလေးမြို့ ဥပုသ်တော်ကုန်း မသန်းတင်.... ရေမွှေး ၂ ပုလင်း၊ ဘော်ပေါက်ပေါက် ၅ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း။

၂၈။ မစိန်မြ၊ မစိန်ကြည်...ကျောက်နီ ၁၀ ပွင့်၊နီလာ ၄ ပွင့်။

၂၉။ မန္တလေးမြို့ ဒေါ်တင်တင်နှင့် အိမ်သားများ–ပတ္တမြား ၄ ပွင့်၊ နီလာလုံးချော ၁၇၊ နတ်သွေးကျောက်နီ ၁၀၅ ပွင့်၊ အိန္ဒနီလာတစ်ပွင့်၊ ပတ္တမြား အသေး ၁၁ ပွင့်၊ ကျောက်စိမ်း ၁၁ ပွင့်၊ပုလဲ ၁၁ ပွင့်၊ဥဿဖယား ၁၅ ပွင့်၊ ကြောင်ကျောက်တစ်ပွင့်၊ ကျောက်စိမ်းရင်ထိုး တစ်ချောင်း၊ သွေးမှုဖြစ်သော ဓာတ်တော်၊ အရိုးတော်၊ ဆံတော်၊ ဘော်ပေါက်ပေါက် တစ်ဘူး၊ (ဘော်ပြာသာဒ် ပစ္စည်း)။

၃၀။ မငြိမ်းငြိမ်း–ဓာတ်တော် ၂ ပုလင်း။

၃၁။ ဒေါ်အေးရင်နှင့် သားသမီးတစ်စု–ပယင်းဆွဲသီး ၁၊

ကျောက်စိမ်း ၁၊ ကျောက်နီ ၃ ပွင့်။

၃၂။ ဒေါ်တင်နှင့် သားသမီးတစ်စု၊ ဥဿဖယား ၂ နှင့်, သန္တာ ၂ ပွင့်။

၃၃။ ဦးအောင်မြင့်–ဒေါ်အေး၊.... ဘုရား ၅ ဆူ၊ ဘော်ပေါက်ပေါက် ၂ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း၊

၃၄။ ဦးမြ.... သစ်ကနက် ဘုရားတစ်ဆူ၊

၃၅။ အမရပူရမြို့၊ ဦးချမ်း–ဒေါ်ခန့်.... ဓာတ်ပေါင်းစုံ တစ်ပုလင်း၊ ကြေးဖယားကြီးတစ်လုံး။

၃၆။ ဒေါ်သောင်းစိန်၊ အမရပူရမြို့....ကျောက်နီလက်စွပ် တစ်ကွင်း။

၃၇။ ဦးလှ—ဒေါ်မြည့်နု၊ ကျောက်နီလက်စွပ် တစ်ကွင်း၊ ဥဿဖယား ရွှေလက်စွပ် တစ်ကွင်း၊ ဥဿဖယား ကျောက် ၂ ပွင့်၊ ကျောက်ရောင်စုံ ၇ ပွင့်။

၃၈။ မတင်၊ ပလိုင်းစုရပ်၊ အမရပူရမြို့၊ ငွေမတ်စေ့ ၃ စေ့၊ ဥဿဖယားကျောက်ဖြူ ၅ ပွင့်၊ ပြင်သစ်ကျောက်နီ တစ်ပွင့်။

၃၉။ ကိုတင်အောင်—မသန်း၊ မန္တလေးမြို့၊ နီလာ ၂ ပွင့်၊ ဥဿဖယား ၂ ပွင့်၊ နီလာဖြူ ၄ ပွင့်၊ နဝရတ် ၉ ပါးတစ်စုံ။

၄၀။ ဒေါ်သန်းရင် မန္တလေးမြို့—ငွေဒင်္ဂါး ၅ ကျပ်၊ ဥဿဖယား ကျောက် ၂ ပွင့်။

၄၁။ အမရပူရမြို့ သိမ်ကြီးဈေး၊ ဦးသောင်း အမှူးပြု၍ ဈေးသူဈေးသားများ....ဘော်ထီးကြီး ၁ လက်၊ (တော်ပြာသာဒ်ပစ္စည်း)

၄၂။ ဒေါ်ထွေး၊ သမီး မသန်းရင်— ကြောင်ကျောက် လုံးချော ၂ လုံး။

၄၃။ ဒေါ်စီမေ၊ တံကောင်းကြာညှပ်— ရွှေနားကပ်တရံ၊ ကျောက်စိမ်းရွှေကြယ်သီး ၄လုံး။

၄၄။ ဦးစုရ.... ကျောက်နီ ရွှေလက်စွပ်တစ်ကွင်း၊ ဓာတ်တော် ၂ ပုလင်း။

၄၅။ မောင်လှိုင်, အိုးတော်ရပ် အမရပူရမြို့.... ငွေဒင်္ဂါး တစ်ကျပ်၊ ငွေ ငါးမူးစေ့ ၃ စေ့၊ ငွေမတ်စေ့ ၁၀ စေ့။

၄၆။ ဦးညို မန္တလေးမြို့....ပယင်းပုတီး တစ်ကုံး၊ ကျောက်နီ အကြီးတစ်ပွင့်၊ ကျောက်နီ အသေး ၃ ပွင့်၊ ဘော် ပန်းခိုင် ၂ ခိုင်၊ ဘော်ပြာသာဒ်ပစ္စည်း။

၄၇။ ကျောင်းအမ ဒေါ်တင်လှ, မန္တလေးမြို့— (၁၂ ရတ္တီ)စိန်နားကပ်တစ်ရံ၊ စိန်ကြယ်သီးတစ်စုံ၊

ရွှေဘီး တစ်ချောင်း၊ စိန်ချယ်ကျောက်စိမ်းရင်ထိုး တစ်ချောင်း၊ ဘော်ပေါက်ပေါက် ၄၂ ပွင့်၊ ဆံစု တစ်ခု၊ နေရာထိုင် ၁။

၄၈။ ကျောင်းတဘာ ဦးကျော်သိန်း--ဒေါ်တင်လှ....

ပုလဲပြာရှင်ဥပဂုတ် ၁ ဆူ၊ ကျောက်နီဆင်းတု ၁ ဆူ၊ ဓာတ်ပေါင်း စေတီတော် တစ်ဆူ၊ စလင်းဆင်းတု တော်တစ်ဆူ၊ အိန္ဒနီလာ နဂါးရုံဘုရား တစ်ဆူ၊ ကျောက်နီနဂါးရုံဘုရားတစ်ဆူ၊ ဓာတ်တော်ကြုပ် ၁၊ ဓာတ်ပေါင်းစေတီတစ်ဆူ၊ နီလာရုပ်တော်မူ (ရွှေကြုပ်နှင့်တစ်ဆူ၊) နီလာ ရှင်သီဝလိ (ကြေးကြုပ်နှင့်တစ်ဆူ၊)အိန္ဒနီလာခြသ့်ရုပ်တစ်စုံ၊ နဝရတ် ကျောက် ၂ စုံ၊ ခွန့်ဘိ မိန်းမကြယ်သီး တစ်စုံ၊ ဥဿဖယားကျောက်ဖြူအပွင့်သေး ၂၂ ပွင့်၊ ဥဿ ဖယားကျောက်ဖြူ အကြီး ၅ ပွင့်၊ပုလဲပြာလုံး ချောကြီး ၁၊ နီလာလုံးချော အကြီးတစ်လုံး၊ နီလာ အကြီး ၄ ပွင့်၊ နီလာ အသေး ၉၀ ပွင့်၊ ကျောက် စိမ်းခွန့်ဘိ ၂၀ လုံး၊ ကျောက်စိမ်း ၁၆ ပွင့်၊ မြ တစ်ပွင့်၊ပုလဲအစစ် ၃၅လုံး၊ ပတ္တမြား(ဂ)ရတီတစ် ပွင့်၊ ကျောက်နီလုံးချော၅၀လုံး၊ကြောင်ကျောက် ၁၅ လုံး၊နီလာဂေါ်ကြိုးတစ်ပွင့်၊ ကျောက်စိမ်း မြရေ အကြီး ၂ ပွင့်၊ ကျောက်နီရွှေလက်စွပ် တစ် ကွင်း၊ နီလာလက်စွပ် တစ်ကွင်း၊ ကျောက်နီ လုံး ချော ရင် ထိုး တစ် ခု၊ ပန်း ငွေ လက် စွပ် ၂ ကွင်း၊ ခရမ်းပြာ ငွေရင်ထိုးတစ်ခု၊ ငွေဒင်္ဂါး ၂ ကျပ်၊ ငွေ ငါးမူးစေ့ ၃ စေ့၊ ငွေမတ်စေ့ ၄ စေ့၊ ငွေမူးစေ့ ၁ စေ့၊ ငွေကြေးစည်တစ်ခု၊ ခရမ်း လောကယ်သီး ၁၊ ဥဿဖယားရင်ထိုး ၁၊ပတ္တမြား ကျောက်ဖြုန်း ၂ ဘူး၊ ပုဂံမှန်စီရွှေချ ယွန်းကွမ်း အစ်တစ်လုံး၊နို့သာယပ်တောင်တစ်ခု၊ ကျောက်စိမ်း

ဆင်ရုပ်တစ်ခု၊ ကျောက်စိမ်းကျားရုပ်တစ်ခု၊ ကြေးကလာပ်တစ်ခု၊ မြင်သစ် ကျောက်အပွင့်သေး ၁၊ ဆင်စွယ် ရှင်သီဝလိတစ်ဆူ၊ ငွေဖလားစုံတစ်စုံ၊ ဘော်ကလာပ်နှင့် ပန်းတစ်ခု၊ ဘော်ပေါက်ပေါက် ၄၆ ပွင့်၊ (ဘော်ပြာသာဒ်ပစ္စည်း) ငွေဖလားကြီး တစ်စုံ၊ ငွေဖလားလတ်တစ်စုံ၊ ငွေလင်ပန်းတစ်ချပ်။

၄၉။ ဦးဘတုတ်—ဒေါ်ခင်ငြိမ်း, အိုးတော်ရပ် အမရပူရ… မြဘုရားတစ်ဆူ၊ အရိုးတော် တစ်ပုလင်း၊ ပတ္တမြား ကျောက်ဖြူနှံး တစ်ပုလင်း၊ ဘော် ပေါက်ပေါက် ၇ ပွင့်(ဘော်ပြာသာဒ်ပစ္စည်း)။

၅၀။ ဒေါ်မာလာ.... ဘော်ပေါက်ပေါက် ၂ ပွင့်၊ ဘော်ပစ္စည်း။

၅၁။ ဦးဘတင်—ဒေါ်ချစ်ချစ်, သားသမီးများ ဖလ်ဘူးနှင့် အတွင်းပါပစ္စည်းများ။

၅၂။ ကိုဝင်းဖေ-မမြိုင် သံဖြူတန်း မန္တလေး၊ ကျောက်စိမ်း ၂ ပွင့်၊ နီလာ ၇ ပွင့်။

၅၃။ ဦးပေါက်ကျော်-ဒေါ်စီ မန္တလေး—ငွေပဒေသာပင် ၁၊ ငွေဖလားတစ်လုံး၊ ဆံစုံ တစ်ခု။

၅၄။ မတင်လှိုင်, မလှပု, မမှုံ, တမာကုန်း မန္တလေး၊ ဆံစု တစ်ခု။

၅၅။ ဒေါ်မယ် ဓာတ်တော်တစ်ပုလင်း၊ဘော်ညောင်ရေတံကောင်း (ဘော်ပြာသာဒ်ပစ္စည်း)။

၅၆။ ဦးသိန်းတန်—ဒေါ်ချစ်ချစ် ကျောက်စိမ်း ဆင်းတုတစ်ဆူ၊ ဘော်ပေါက်ပေါက် ၃ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း။

၅၇။ ဦးထွန်းတင်နှင့် ဇနီး ကျောက်နီ ရွှေလက်စွပ် တစ်ကွင်း၊ ဆံစု တစ်ခု။

၅၈။ ဒေါ်သိန်းရင် ငွေထိုးဘူး တစ်ဘူး။

၅၉။ မဟေမာ ဂန္ဓာရုံကျောင်း အမရပူရ၊ ငွေပေါင်ဒါဘူး တစ်ဘူး။

၆၀။ မရီ, မကြည်, မတင့် ဆံစုတစ်ခု၊ ဘော်ပန်းဆိုင် တစ်ခု၊ (ဘော်ပြာသာဒ်ပစ္စည်း)

၆၁။ မမြသင်းနှင့် သားသမီးတစ်စု ဆံစု တစ်ခု၊ ဘော် ပေါက်ပေါက် ၃ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း။

၆၂။ ကိုခင်မောင်မြင့် တောင်ကြီး ဓာတ်တော် တစ်ပုလင်း၊ ဘော်ပန်းခိုင် တစ်ခိုင်၊ ဘော်ပြာသာဒ်ပစ္စည်း။

၆၃။ ဦးညွန့်မောင်—ဒေါ်ဘီ, သမီး လှလှရီ ဆံစုတစ်ခု၊ ဘော်ပေါက်ပေါက် ၂ ပွင့်။

၆၄။ ဦးကျော်မောင် အနောက် ဆင်တိုင်ရပ် ဓာတ်တော် တစ်ပုလင်း။

၆၅။ ဒေါ်မြကြည် အိုးတော်ရပ် အမရပူရ ဆံစုတစ်ခု၊ ကျောက်စိမ်း ၁၊ ကျောက်ဖြူနှင်း တစ်ပုလင်း။

၆၆။ ညိုညိုတင် အိုးတော်ရပ် အမရပူရမြို့ ဆံတော်တစ်ဘူး။

၆၇။ ဒေါ်ငြိမ်း, ဒေါ်အေးချို တမာကုန်း အမရပူရမြို့ ဆံစုတစ်ခု။

၆၈။ ဒေါ်လှကြည် အမရပူရမြို့ ဆံစုတစ်ခု။

၆၉။ ဒေါ်တုန ဂန္ဓာရုံကျောင်းတိုက် အမရပူရမြို့ ငွေဖလား ၂ လုံး၊ ငွေဒင်္ဂါး ၃ ကျပ်၊ ငွေငါးမူးစေ့ တစ်စေ့၊ ပတ္တမြားတစ်လုံး၊ ကနုကမာလင်ပန်း တစ်ခု၊ လက်ကိုင် ကနုကမာဒါး၊ ကနုကမာဇွန်း။

၇၀။ မတင်မြ ကိုင်းစုရပ် ဆံစုတစ်ခု၊ ဘော်ပေါက်ပေါက် ၇ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း။

၇၁။ ဒေါ်အေးတင် ကန်တော်ရပ် ငွေမတ်စေ့ ၈ စေ့။

၇၂။ မတင်လှ ကိုင်းစုရပ် ငွေမတ်စေ့ ၂စေ့၊ ကျောက်စိမ်း ၆ လုံး၊ ဘော်ပေါက်ပေါက် ၇ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း။

၇၃။ ဒေါ်ခင်ကြီးနှင့် သားသမီးတစ်စု ပတ္တမြား ၂ လုံး။

၇၄။ ဦးရေဝရ ဟံဇားမြို့ ပန်းပုလင်းတစ်ခု။

၇၅။ ကိုချစ် တောင်ကြီးမြို့ ဘော်နယားရုပ် ၁၀ ခု၊ ဘော်ပြာသာဒ်ပစ္စည်း၊ အရိုးတော်တစ်ဘူး။

၇၆။ ဒေါ်သိန်းတင် ကျောက်မျိုးစုံ တစ်ပုလင်း။

၇၇။ ကိုခင်မောင်ဒွေး ပွဲတော်ရပ် အမရပူရမြို့၊ ပတ္တမြားတစ်လုံး၊ ဥဿဖယားအဖြူ ၄ လုံး၊ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ (ဘော်ပြာသာဒ်ပစ္စည်း)။

၇၈။ ဒေါ်သီရိမာ မင်္ဂလာရိပ်သာ အမရပူရမြို့၊ ရွှေအပ်တစ်ချောင်း၊ ဘော်ပေါက်ပေါက်တစ်ပွင့်၊(ဘော်ပြာသာဒ်ပစ္စည်း)။

၇၉။ ဦးလှ—ဒေါ်မြညွန့် သားသမီးတစ်စု ငွေငါးမူးစေ့၊ မတ်စေ့၊ ကျပ်ပြားများပါဝင်သော ဖလ်ဘူးတစ်ဘူး။

၈၀။ ဒေါ်သိန်း (ပန်းချီ)ငွေဒင်္ဂါးတစ်ကျပ်၊ငွေငါးမူးစေ့ ၅စေ့၊ ငွေမတ်စေ့ ၄ စေ့။

၈၁။ ဦးတင်ရွှေ—ဒေါ်ကြည်ကြည် ပတ္တမြား ဆီစက်ပိုင်ရှင် .... မှန်စီရွှေချ ကလာပ်နှင့် ဖလ်အုပ်ပါသော ပတ္တမြား ဆင်းတုတစ်ဆူ၊ ကျောက်စိမ်းဆင်းတုတစ်ဆူ၊ ပတ္တမြား ကျောက်ဖြုန်းတစ်ပုလင်း။

၈၂။ ဒေါ်စိန်ဥ၊ မညို သားသမီးများ ငွေဒင်္ဂါး ၂ ပြား၊ ငွေငါးမူးစေ့တစ်စေ့၊ ငွေမတ်စေ့တစ်စေ့။

၈၃။ ဒေါ်တင် ပွဲတော်ရပ် အမရပူရမြို့၊ ငွေဖလားတစ်လုံး၊ ဘော်နယား ၁၊ ဘော်ပြာသာဒ်ပစ္စည်း။

၈၄။ ဒေါ်ဆင့် လမ်းငါးခွ အမရပူရမြို့၊ ပယင်းပုတီး တစ်ကုံး မိုးကုတ်ကျောက်နီ အကြီး ၁၊ မိုးကုတ် ကျောက်နီ အသေး ၃။

၈၅။ ဦးခင်မောင်နှင့် နှမများ အမရပူရမြို့၊ ရွှေဆိုင်းတစ်ဆိုင်း၊ ခေတ်တော် တစ်ပုလင်း၊ ဘော်ကမ္ဗည်း ၁၊ ဘော် ပြာသာဒ်ပစ္စည်း။

၈၆။ ဦးသန်းဖေ-ဒေါ်အေး ကျောက်နီ ၁၊ ကျောက်စိမ်း ၂၊ နီလာ ၁၊

၈၇။ ဒေါ်မြရွှေ ဘော်ပန်းခိုင် အသေး ၁၊ ဘော်ပြာသာဒ် ပစ္စည်း။

၈၈။ ဒေါ်ကြွယ်....လော်ကယ်သီး ၂။

၈၉။ ဒေါ်စိန်ရင် မန္တလေး....ဒေါင့်ဖြေ ၁၀၊ ဘော်ပေါက်ပေါက် ၂၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း။

၉၀။ ဦးဇောတိက.... ဘုရားဓာတ်တော် ၂ ပုလင်း၊ ဘော်ကမ္ဗည်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း။

၉၁။ မအေး တမာကုန်း ၂ ပ် အမရပူရ....ငွေငါးမူးစေ့များ ပါဝင်သော ဖလ်ဘူးတစ်ဘူး။

၉၂။ ဦးလှဖေ အမရပူရ.... အရိုးတော် တစ်ပုလင်း။

၉၃။ ကိုစံတင်-မညွန့်စိန် လေးစုရပ် အမရပူရမြို့.... ကနုတ်မာခွက် ၁၊ ဘော်ပန်းခိုင် ၁၊ ဘော်ရှပ်စုံ ၁၊ ဘော်ထီး ၁၊ ဘော်ပြာသာဒ်ပစ္စည်း။

၉၄။ ကိုဘတင်.... ဓာတ်တော် တစ်ပုလင်း၊ ဘော်ပြားကမ္ဗည်း ၃၊ (ဘော်ပြာသာဒ်ပစ္စည်း)၊

၉၅။ ဒေါ်သိန်းမြ အမရပူရမြို့ ကြံတန်းရပ် .... ဓာတ်တော် ၃ ပုလင်း၊ ဆံစုတစ်ခု၊ ဘော်ပေါက်ပေါက် တစ်ပွင့်၊ (ဘော်ပြာသာဒ်ပစ္စည်း)

၉၆။ ကိုစန်းမောင်-မသိန်းရင် သားသမီးတစ်စု ပွဲတော်ရပ် အမရပူရ... ဥဿဖယားကျောက် ၁၂ ပွင့်၊ ပတ္တမြားနီ ၂ ပွင့်၊ ဘော်ပန်းစိုက် ၁၊ (ဘော်ပြာသာဒ်ပစ္စည်း)။

၉၇။ ဒေါ်စိန်ဥ ဒေါ်ညို ရွှေကြက်ယက်.... ဖလ်ကလာပ်နှင့် ဆံစု ၃ ခု၊ ဘော် ပေါက် ပေါက် ၂၀ ပွင့်၊ (ဘော်ပြာသာဒ် ပစ္စည်း)။

၉၈။ ဦးအောင်မြင့်—ဒေါ်သိန်းမြ အမရပူရဈေးအနီး.... ဘော်ထီး ၁၊ ဘော်ပြားကမ္ပည်း ၁၊ (ဘော်ပြားသာဒ်ပစ္စည်း)။

၉၉။ အမည်မဖော်လိုသူ ကောင်းမှု...သတ္တုရုပ်ရှုပ် ၁၊ရှင်သီဝလိ တစ်ဆူ၊ ဆင်စွယ်ဆံတိုး တစ်ချောင်း၊ ပုတီးတစ်ကုံး။

၁၀၀။ ဦးတင်ရွှေ- ဒေါ်လှရင် .... ဆံစုတစ်ခု၊ ငွေဒင်္ဂါးများပါ ဖလ်ဘူး ၁။

၁၀၁။ မောင်မြင့်စိန် မန္တလေး ဘော်ပန်းခိုင် ၁၊ ဘော်ပြားသာဒ် ပစ္စည်း။

၁၀၂။ ဒေါ်သိန်းခင် လက်ဆည်ကန် မန္တလေးမြို့.... ဘော်ပန်းခိုင် ၁၉၊ ဘော်ပြားသာဒ်ပစ္စည်း။

၁၀၃။ ဦးပြုံး တောင်မြင့်ရပ် မန္တလေးမြို့....ပြင်သစ်ကျောက် ၉ ပွင့်၊ ပတ္တမြားတစ်ပွင့်၊ ပြားစေ့ ၂၅ စေ့။

၁၀၄။ ဦးဘကွန့်-ဒေါ်သောင်း သိမ်း မခင်မြ .... ဘော်ပေါက်ပေါက် ၁၀၀ ပွင့်၊ ဘော်ပြားသာဒ်ပစ္စည်း။

၁၀၅။ မောင်တင်လှ....အရိုးတော်တစ်ပုလင်း၊ ဆံတော်တစ်ပုလင်း။

၁၀၆။ ကိုဝင်းဖေ-မခင်မြိုင် မန္တလေးမြို့.... ဓာတ်တော် တစ်ပုလင်း။

၁၀၇။ ဦးသာဆိုင် အမရပူရမြို့.... ဆံတော်တစ်ပုလင်း၊ ဘော်ပြား ကမ္ပည်း ၁၊ ဘော်ပြားသာဒ်ပစ္စည်း။

၁၀၈။ ဦးကျန်-ဒေါ်သန်း မန္တလေးမြို့.... ကျားခံ ရှင်သီဝလိတစ်ဆူ၊ ရွှေချကပ်ကျောက်ဘုရား ဆင်းတု တစ်ဆူ၊ ဆင်စွယ် ရှင်သီဝလိ တစ်ဆူ၊ ရေမွှေးတစ်ပုလင်း၊ ဥဿဖယားစွယ် ၄၆၊ နီလာစွယ် ၁၅၊ ပုလဲ ၆ လုံး၊ ကျောက်စိမ်း ဆွဲကြိုးစိး ၂၀၊ မဟူရာ ၆၊ နီလာလုံးချော ၃၊ပတ္တမြား ၃ ပွင့်၊ ဘော်ပေါက်ပေါက် ၂၀ပွင့်၊ ဘော်ပြားသာဒ် ပစ္စည်း။

၁၀၉။ ဦးချမ်း—ဒေါ်ခန့် အမရပူရမြို့....ကြေးဖလားကြီး ၁။

၁၁၀။ ဦးထွန်းရင် မဂ်လာလမ်း အမရပူရမြို့ .... ခေါက်တော် ၃ ပုလင်း၊ ဘော်ပေါက်ပေါက် ၂ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း။

၁၁၁။ ဦးဘသန်း—ဒေါ်မြင့် သားသမီး တစ်စု....ငွေဖလား ပန်းစိုက် ၁၊ ခေါက်တော် ၂ ဘူး၊ ဘော်ကမ္ဗည်း ၁၊ (ဘော် ပြာသာဒ်ပစ္စည်း)

၁၁၂။ ဒေါ်ကြည်, သား ကိုညွန့်....ကတ္တီပါ နေရာထိုင် ၁၊ ဘော် ပန်းခိုင် ၆ ခု၊ ဘော်ပြာသာဒ်ပစ္စည်း။

၁၁၃။ ဒေါ်ငွေရီ အိုးတော်ရပ် အမရပူရမြို့... ခေါက်တော် တစ်ပု လင်း၊ ဆံစုတစ်ခု၊ ဘော်ပြားကြီး တစ်ခု၊ ဘော် ပြာသာဒ်ပစ္စည်း။

၁၁၄။ ကိုတင်အောင် မန္တလေးမြို့.... မိုးကုတ်ရောင်စုံ ကျောက် တစ် ကပ်၊ သင်္ကန်းတော်တစ်စုံ။

၁၁၅။ ဒေါ်ရုံ.... ခေါက်တော်တစ်ပုလင်း၊ ဘော်ပြား ကမ္ဗည်းတစ်ခု၊ ဘော်ပြာသာဒ်ပစ္စည်း။

| | | |
|---|---|---|
| ၁၁၆။ မဒေါန | သတ္တုဌာန | ၁ |
| ၁၁၇။ ဦးအဝမ် အမရပူရမြို့ | ။ | ၁ |
| ၁၁၈။ ဦးမောင်ကြီး ဒေါ်ဟန် အမရပူရ | ။ | ၁ |
| ၁၁၉။ မညာဏသိင်္ဂီ အမရပူရ | ။ | ၁ |
| ၁၂၀။ ဒေါ်အေးသီ | ။ | ၁ |
| ၁၂၁။ ဦးအောင်သိန်း ဒေါ်မြခင် | ။ | ၁ |
| ၁၂၂။ ဒေါ်ဒါဒါမသီ အမရပူရ | ။ | ၁ |
| ၁၂၃။ မစောရီ လမ်း(၃၀)မန္တလေး | ။ | ၁ |
| ၁၂၄။ ဦးသိန်းမောင် ဒေါ်စော်လှ | ။ | ၁ |
| ၁၂၅။ ဒေါ်ဂုဏ | ။ | ၁ |
| ၁၂၆။ ဒေါ်ခေမာ | ။ | ၁ |

| | | | |
|---|---|---|---|
| ၁၂၇။ | ငွေဇင် | သတ္တဌာန | ၁ |
| ၁၂၈။ | ဒေါ်သက်ရင် အိုးတော်ရပ် | 〃 | ၁ |
| ၁၂၉။ | ဦးအောင်မြင့်-ဒေါ်သိန်းမြ အမရပူရမြို့ | 〃 | ၁ |
| ၁၃၀။ | ဒေါ်သက်ရင် အမရပူရ | 〃 | ၁ |
| ၁၃၁။ | ဦးရေဝတ ဟံဇာမြို့ | 〃 | ၁ |
| ၁၃၂။ | ဦးချစ်တီး-ဒေါ်ညို | 〃 | ၁ |
| ၁၃၃။ | ဦးသိန်းမောင်-ဒေါ်စန်းစန်း သားသမီးတစ်စု ပိန်းတန်းရပ် မန္တလေးမြို့ | 〃 | ၁ |
| ၁၃၄။ | မောင်ကံလှ ကြေးသွန်းခတ်တန်း | 〃 | ၁ |
| ၁၃၅။ | ဒေါ်အို မန္တလေးမြို့ | 〃 | ၁ |
| ၁၃၆။ | ဦးသာဆိုင် အမရပူရမြို့ | 〃 | ၁ |
| ၁၃၇။ | ဒေါ်ညွန့်, ဒေါ်တုတ်တုတ်, သိန်းသိန်းနု သန်းသန်းရီ ဆိုင်းတန်းရပ် မန္တလေးမြို့ | 〃 | ၂ |
| ၁၃၈။ | ဒေါ်ဖွားဇံ သားသမီးတစ်စု | 〃 | ၁ |
| ၁၃၉။ | ဦးဘသိန်း သားသမီးတစ်စု | 〃 | ၁ |
| ၁၄၀။ | ကွယ်လွန်သူ ဒေါ်ချစ်စု, ကြံတန်း အမရပူရမြို့ | 〃 | ၁ |
| ၁၄၁။ | ဒေါ်စန်းရီ | 〃 | ၁ |
| ၁၄၂။ | မညွန့်ညွန့် ပွဲတော်ရပ် အမရပူရမြို့ | 〃 | ၁ |
| ၁၄၃။ | ဒေါ်အေးရင် လေးစုရပ် အမရပူရမြို့ | 〃 | ၁ |
| ၁၄၄။ | ကို[illegible]ည်ရှင် မအေး, လေးစုရပ် အမရပူရမြို့ | 〃 | ၁ |
| ၁၄၅။ | ဒေါ်ချပ အမရပူရမြို့ | 〃 | ၁ |
| ၁၄၆။ | ဒေါ်စံရီ အမရပူရမြို့ | 〃 | ၁ |
| ၁၄၇။ | ဦးအောင်သိန်း အမရပူရမြို့ | ပရိသတ် (၁၀)ပါးပုံ | တစ်စုံ |
| ၁၄၈။ | မစောရီ, လမ်း (၃၀) မန္တလေး | 〃 | တစ်စုံ |
| ၁၄၉။ | ဒေါ်စောရင် | 〃 | တစ်စုံ |

၁၅၀။ ဒေါ်အုန်းခင် ။ တစ်စုံ
၁၅၁။ ဒေါ်စိန်ခင် ။ တစ်စုံ
၁၅၂။ ဦးညွန့်လေး ။ တစ်စုံ
၁၅၃။ ကိုညက်-မဝင်းစိန်၊ ၆ လက်မ ကျောက်ဆင်းတု တစ်ဆူ
၁၅၄။ ကိုလေး—မညို ။
၁၅၅။ ဒေါ်ဟန် သား ကိုစန်းမြင့် မအမာ ။
၁၅၆။ မိုလ်ကြီးမြတ်လေး ဒေါ်ခင်နုနု
သားသမီးများ ။
၁၅၇။ မပေါ် ကိုဘသောင်း ။
၁၅၈။ ဒေါ်စိန် ။
၁၅၉။ ဒေါ်ဥတ္တမ ။
၁၆၀။ ဒေါ်ကျင်ဥ မန္တလေးမြို့ ။
၁၆၁။ ဒေါ်မမကြီး မန္တလေးမြို့ ။
၁၆၂။ ဒေါ်စန်း မန္တလေး ။
၁၆၃။ ဒေါ်ဥတ္တရာ ။
၁၆၄။ ဒေါ်စန္ဒာရီ, သမီး မသုမာလာ ။
၁၆၅။ ဒေါ်အေးသာရီ ။
၁၆၆။ ဒေါ်လှဦး မြေး မညွန့်ညွန့်ရီ ။
၁၆၇။ ဦးညွန့်-ဒေါ်ခင်ညွန့် မန္တလေးမြို့ ကျောက်ဆင်းတု တစ်ဆူ
၁၆၈။ ဒေါ်ကုမ္မာရီ အမရပူရမြို့ ။
၁၆၉။ ကိုဘစော-မရွှေ အိုးတော်ရပ် အမရပူရမြို့။
၁၇၀။ ဦးဘလွင်
အမရပူရမြို့ ၅ လက်မကျောက်ဆင်းတုတစ်ဆူ
၁၇၁။ ဒေါ်သန်းရွှေ အမရပူရမြို့ ။

၁၇၂။ ဒေါ်စောရင်၊ ဒေါ်အုံးခင်၊ ၃ လက်မကျောက်ဆင်းတုတစ်ဆူ
ဒေါ်စိန်ဆင်၊ ဦးညွန့်လေး ။

၁၇၃။ ဒေါ်ကျင်မြ မောင်ကျော်နိုင် ။

၁၇၄။ ဒေါ်ချယ် အမရပူရမြို့ ။

၁၇၅။ ဒေါ်သုခ မင်္ဂလာရိပ်သာ အမရပူရမြို့ ။

၁၇၆။ ကိုညီ–မလှမေ အမရပူရမြို့ ။

၁၇၇။ ဦးမွဲ-ဒေါ်နု ကုက္ကိုရွာ ။

၁၇၈။ ဒေါ်အမာ အမရပူရမြို့ ။

၁၇၉။ ဦးအောင်သိန်း အမရပူရမြို့ ။

၁၈၀။ ဦးပြား-ဒေါ်လှရွှေအမရပူရမြို့ ။

၁၈၁။ ဒေါ်ညိမ်းရင် သမီး ရင်ရင်မြင့် ။

၁၈၂။ ကိုညီစုနှင့် နှမ မမှတ်ကြီး ။

၁၈၃။ ဦးဝင်းမောင်-ဒေါ်မြင့်မြင့် သား
မောင်မျိုးသန့် မျက်ဝင်း မန္တလေးမြို့ ။

၁၈၄။ မောင်မြင့်သိန်း-မန္တဲ့ဝင်း မန္တလေး ။

၁၈၅။ ကိုစောလွင် မန္တလေး ။

၁၈၆။ ဦးညွန့်-ဒေါ်စောရင် သမီး မခင်နွဲ့ ။

၁၈၇။ ဒေါ်ကံနှင့် သားများ တမာကုန်း
အမရပူရမြို့ ။

၁၈၈။ ဒေါ်ကျော့ အိုးတော်ရပ် ။
အမရပူရမြို့ ၄ လက်မ ကျောက်ဆင်းတု တစ်ဆူ

၁၈၉။ ဦးဂန္ဓမာ သီပေါမြို့ ။

၁၉၀။ ဒေါ်ရွှေ, မဝင်းစီ, မတင်တင်နွဲ့
နန်းမတော်ရပ် အမရပူရမြို့ ။

၁၉၁။ မမြသင်း သားသမီးတစ်စု အမရပူရမြို့ ။

၁၉၂။ ဒေါ်လွတ်နှင့် ဒေါ်စိန်ရင် အမရပူရမြို့ ။

၁၉၃။ ဒေါ်သုမန အမရပူရမြို့ ကျောက်ဆင်းတု တစ်ဆူ
၁၉၄။ ဒေါ်ခင်ကြီး သမီးတစ်စု အမရပူရမြို့ ။
၁၉၅။ ဒေါ်ဩဘာသီ အမရပူရမြို့ ။
၁၉၆။ ဒေါ်ဖွားသင် အမရပူရမြို့ ။
၁၉၇။ ကိုရွှေသောင်း-မစောရှင် ။
၁၉၈။ ကိုထွန်းရှိန် အမရပူရမြို့ ။
၁၉၉။ ဒေါ်ကေသာ အမရပူရမြို့ ။
၂၀၀။ ဒေါ်ကေသီ အမရပူရမြို့ ။
၂၀၁။ မသီလဇာရီ အမရပူရမြို့ ။
၂၀၂။ ဒေါ်အေးခင် သမီး မစန်းစန်း ။
၂၀၃။ ဒေါ်ဝဏ္ဏ ။
၂၀၄။ ဒေါ်သီလာစာရီနှင့် ဒေါ်သိန်း ။
၂၀၅။ ဒေါ်မမ ။
၂၀၆။ ဒေါ်အုံ ။
၂၀၇။ ဒေါ်ထုတ် ။
၂၀၈။ ဒေါ်နန္ဒစာရီ ။
၂၀၉။ ဒေါ်ချင်း ။
၂၁၀။ မသုစန္ဒာ ။
၂၁၁။ ဒေါ်ကုမ္ဗာရီ ညောင်တုန်းကျောင်း စစ်ကိုင်းတောင်ရိုး.... ဘော်သရဖူ ၁၊ဘော်ပြာသာဒ်ပစ္စည်း၊

၂၁၂။ မပု လမ်း ၃၀ မန္တလေး....ကျောက်စိမ်း ရွှေရင်ထိုး ၁၊
၂၁၃။ ဒေါ်အုန်းတင် လမ်း ၃၀ မန္တလေး.... ကျောက်စိမ်း ရွှေလက်ကောက်တစ်ဘက်၊ ကျောက်နီ ၅ လုံး၊ ကျောက်စိမ်း တစ်လုံး၊ဘော်ပေါက်ပေါက် ၃ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၂၁၄။ မန္တလေးမြို့ လမ်း ၃၀ ကုသိုလ်ရှင်များကောင်းမှု....ပတ္တမြား လုံးချော ၂၊ဥဿဖယားလုံးကြီး ၁၊နီလာလုံးချော ၃၊ ပတ္တ

မြားကြီးတစ်ပွင့်၊ နီလာကြီးတစ်ပွင့်၊ငွေဒင်္ဂါး၉ ပြား၊ငွေငါး မူးစေ့တစ်စေ့၊ ပိုင်စေ့ ၁၀ စေ့၊ဘော်ပေါက်ပေါက်၁၀၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၂၁၅။ ဒေါ်ခန့်....ကြေးလင်ပန်း ၁၊ ကြေးဖလား ၁၊

၂၁၆။ ဦးစံမြ မိသားစု.... ဘော်ဟင်္သာရုပ်ပုံ ၂၊ ဘော်ပြာသာဒ် ပစ္စည်း၊

၂၁၇။ ဦးကရင်....ဆံစုတစ်ခု၊

၂၁၈။ မညို အမရပူရမြို့ ပေါက်ပေါက်တန်းခတ်တော်တစ်ပုလင်း၊ ဘော်ပြားကမ္ဗည်း ၁၊ ဘော်ပြာသာဒ် ပစ္စည်း ၁၊

၂၁၉။ ဒေါ်တော် အမရပူရမြို့ ပေါက်ပေါက်တန်း.... ခတ်တော် တစ်ပုလင်း၊ ဘော်ပြား ကမ္ဗည်း ၁၊ ဘော် ပြာသာဒ်ပစ္စည်း၊

၂၂၀။ ဦးအန့်—ဒေါ်ချစ်မယ်.... မိုးကုတ်ကျောက်ကောင်း ၀၅ လုံး၊ ဘော်ပြားကမ္ဗည်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊

၂၂၁။ ကိုမြမောင်-မဝင်းမေ အရှေ့ဆင်တိုင်ရပ်၊ အမရပူရမြို့၊ နဝ ရတ် ၉ ပါး၊

၂၂၂။ ကိုပန်-မသန်း....ဘော်ဒိုင်းရုပ်စုံ ၁၊ ဘော်ပြာသာဒ် ပစ္စည်း၊

၂၂၃။ ဦးထွန်းမောင်-ဒေါ်ငွေစိန် သားသမီးတစ်စု၊ ကျောက်မျက် ရတနာ တစ်ပုလင်း၊ ဘော်ပြားကမ္ဗည်း ၁၊ ဘော်ပြာသာဒ် ပစ္စည်း၊

၂၂၄။ ကိုစံတင် ကြေးသွန်းရပ်....မိုးကုတ်ကျောက်အမာ ၂၃ လုံး၊

၂၂၅။ ကိုစိန်လေး အနောက် ဆင်တိုင်ရပ်.... ကြောင် ကျောက် တစ်လုံး၊ ကျောက်နီတစ်လုံး၊

၂၂၆။ ဦးထွန်းအောင် လမ်း ၃၀ မန္တလေး....ခတ်လုံး ရွှေသက် လက်စွပ် တစ်ကွင်း၊ ငွေဒင်္ဂါး ၁၀ ပြား၊

*

## ဒုတိယ ဌာပနာ တိုက်အတွက်
## ဒုတိယအကြိမ် ဌာပနာကြသောအလှူရှင်များနှင့် အလှူဝတ္ထုပစ္စည်းများစာရင်း

၁။ ဦးသစ် စက်ရက်ကန်းရှိပိုင်ရှင် ၂၉ လမ်း မန္တလေးမြို့ ... ငွေဖလားကြီးတစ်လုံး၊ ငွေအပ်တစ်ချောင်း၊ ပုလဲကြွယ်သီး ၅ လုံး၊ ရွှေလက်စွပ်တစ်ကွင်း၊ ကျောက်စိမ်း ရွှေလက်ကြွယ်သီး တစ်စုံ၊ ယောကျ်ား ရွှေရှပ်ကြွယ်သီး၊ ရွှေကြိုး ရွှေအဆွဲ တစ်စုံ၊ ကျောက်စိမ်း ၅ ပွင့်၊ ဥဿဖယားကျောက် ၅ ပွင့်၊ ကျောက်နီအသေး ၂ ပွင့်၊ ဥဿဖယားငယ် အသေး ၄ ပွင့်၊ ငွေဒင်္ဂါးတစ်ပြား။

၂။ အမည် မဖော်လိုသူကောင်းမှု၊ ကျောက်စိမ်းဆွဲပြား ၁၊မဟူရာ ၁၊ မိုးကုတ်မြ ၂၊ နီလာတစ်ပွင့်၊ ဥဿဖယားတစ်ပွင့်၊ ရွှေဒင်္ဂါး တစ်ပြား၊ ငွေငါးမူးစေ့ တစ်စေ့၊ငွေမတ်ခေ့ တစ်စေ့။

၃။ ဒေါ်သိန်းတင် ၃၀ လမ်း မန္တလေးမြို့....ငွေဒင်္ဂါး တစ်ပြား၊ ငွေမတ်စေ့၂စေ့၊ဘော်ပေါက်ပေါက် ၂၀၊ဘော်ပြာသာဒ်ပစ္စည်း။

၄။ ဦးဆိုင် ကန်တော်ရပ် အမရပူရမြို့ ပြင်သစ်ကျောက် ၄ ပွင့်၊ ဥဿဖယားတစ်ပွင့်၊ တွင်းထွက် ကျောက်တစ်ပွင့်။

၅။ ဒေါ်အုံ ယဉ်တော်ရပ် အမရပူရမြို့ ပတ္တမြား ၃ပွင့်၊ကျောက်စိမ်းတစ်ပွင့်၊ နီလာတစ်ပွင့်၊ ဥဿဖယားကျောက်တစ်ပွင့်၊ ငွေဒင်္ဂါးတစ်ပြား၊ ကြေးပြားကမ္ဗည်း ၅ ခု၊

၆။ အမည်မဖော်လိုသူ ဆံတော်ကြုတ် ၁။

၇။ ဒေါ်ဥက္ကံသီ မင်္ဂလာရိပ်သာ အမရပူရမြို့၊ ဆံတော်တစ်ဆူ၊ ဓာတ်လုံးတစ်ဆူ၊ ဘော်ကမ္ဗည်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊

၈။ မမှတ်ကြီး ဆင်ဖြူကျွန်း မိုးကုတ်နီလာ (၈) ပွင့်ပါ ရွှေရင်ထိုး တစ်ခု။

၉။ ဦးတင်ရွှေ-ဒေါ်တင်လှ စစ်ကိုင်းမြို့ ပတ္တမြား ၆ လုံး၊ပတ္တမြား နီလာ တစ်လုံး။

၁၀။ ကိုရီမောင်နှင့် နှမတစ်စု၊ အတီးစုရပ် အမရပူရမြို့၊ ငွေဖလားကြီးတစ်လုံး။

၁၁။ ဦးတင်ကြည်-ဒေါ်တင်မ၊ သမီး မသောင်းခင် အမရပူရမြို့ ဆံစုတစ်ခု၊ ဘော်ပြားကမ္ဗည်းတစ်ခု၊ ဘော်ပြာသာဒ်ပစ္စည်း၊

၁၂။ ဦးမှတ်ကြီး မင်္ဂလာရိပ်သာ အမရပူရမြို့ ပုဂ္ဂါတစ်ပိုင်။

၁၃။ ကိုချစ်တင် မစံမြို့ ပန်းချီရပ် အမရပူရမြို့ ၄ လက်မ ကျောက်ဆင်းတုတစ်ဆူ။

၁၄။ ဒေါ်စိန် တူမ-မတင်တင်, ပန်းချီရပ် အမရပူရ၊ ငွေဖလား ၄ လုံး၊ ငွေထိုးဘူး တစ်လုံး။

၁၅။ ဦးချစ်တီး-ဒေါ်သန်း အမရပူရမြို့.... ၄ လက်မ ကျောက်ဆင်းတုတစ်ဆူ။

၁၆။ ဒေါ်စိန်ဥ နန်းမတော်ရပ် အမရပူရမြို့ ၆ လက်မ ကျောက်ဆင်းတု တစ်ဆူ၊

၁၇။ ဦးရွှေ ဒေါ်သိန်း သားသမီးတစ်စု မန္တလေးမြို့ ရွှေဆိုင်း ၂ ဆိုင်း၊

၁၈။ ဒေါ်သန်းရွှေ ပန်းဘဲရပ် အမရပူရ ဘော်ပေါက်ပေါက် ၂၇ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၁၉။ ဒေါ်ဂျမ်း အမရပူရမြို့ ဘော်ပေါက်ပေါက် ၁၅ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၂၀။ ဦးစံခဲ ဟသ်ာရပ် အမရပူရမြို့ ၄ လက်မ ကျောက်ဆင်းတု တစ်ဆူ၊
၂၁။ မအေးခင် ဆင်ကာရပ် အမရပူရ ၃/၄ လက်မ ကျောက်ဆင်းတု တစ်ဆူ၊ ဆံစုတစ်ခု၊
၂၂။ ဒေါ်ခေမာ မင်္ဂလာရိပ်သာ ရပ်တော်မှ ကြေးဆင်းတု တစ်ဆူ၊
၂၃။ ဦးလှဖေ ဒေါ်အေးလှိုင် သားသမီးတစ်စု၊ ကျောက်မဲမြို့ ၆ လက်မ ကျောက်ဆင်းတု တစ်ဆူ၊
၂၄။ ဒေါ်စိန်ရင် သားသမီးတစ်စု ကျောက်မဲမြို့ ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊
၂၅။ ဒေါ်တင်ဦး အတီးစုရပ် အမရပူရမြို့ ဘော်ပန်းခိုင်တစ်ခိုင်၊ ဘော်ပြာသာဒ်ပစ္စည်း၊
၂၆။ မမြအေး ဆံစုတစ်ခု၊ ဘော်ပြားကြီး ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊
၂၇။ ဒေါ်ဝံသ မင်္ဂလာရိပ်သာ အမရပူရမြို့ ဓာတ်တော်တစ်ပုလင်း၊ ဘော်ပြားကမ္ပည်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊
၂၈။ ဒေါ်တီ စုံရွှေးရပ် အမရပူရမြို့ ဓာတ်တော်တစ်ပုလင်း၊ ဆံစု တစ်ခု၊ ဘော်ပြားကမ္ပည်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊
၂၉။ ဒေါ်ဒီ စုံရွှေးရပ် အမရပူရမြို့ အရိုးတော်တစ်ပုလင်း၊ ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊
၃၀။ ဒေါ်လှရွှေ ပန်းချီရပ် အမရပူရမြို့ ဓာတ်တော် ၂ပုလင်း၊ ဘော်ကမ္ပည်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊
၃၁။ ဦးဒ မင်္ဂလာရိပ်သာ အမရပူရမြို့ ဓာတ်တော်တစ်ပုလင်း၊ ကြေးဖလား တစ်လုံး၊
၃၂။ ဒေါ်ဖွားရှင်နှင့် သမီး ဒေါ်ချင်း၊ ဈေးချို သံပြာတန်းရပ် မန္တလေး ကြေးဖလားတစ်လုံး၊ဘော်ခေါင်းလောင်း ၁၀ လုံး၊ ဘော်ပြာသာဒ်ပစ္စည်း၊
၃၃။ ရွှေမြင်းပွဲရုံ ဦးထွန်းလှိုင် ဒေါ်သိန်းတင်၊ မန္တလေးမြို့ မိုးကုတ် ပတ္တမြားကြီး ၅ ပွင့်၊ တာ၁လာ၁ပတ္တမြားအသေး ၈၅ ပွင့်၊ နီလာအကြီး တစ်ပွင့်၊ ရွှေလက်စွပ် တစ်ကွင်း၊ ဘော်ကမ္ပည်း တစ်ခု၊ ဘော်ပြာသာဒ်ပစ္စည်း။

၃၄။ ဦးကြူ-ဒေါ်သန်း မြစ်ငယ်မြို့ ၆ လက်မ ကျောက်ဆင်းတု တစ်ဆူ၊
၃၅။ ကိုလှအောင်-မထွေး အိုးတော်ရပ် အမရပူရမြို့ ရှင်သီဝလိ တစ်ဆူ၊
၃၆။ ဦးလှစိန် လေးစုရပ် အမရပူရမြို့ ပန်းပေါင်းဘုရားတစ်ဆူ၊
၃၇။ ဦးကြံ-ဒေါ်သန်း မျက်ဝင်းရပ် ဘော်ခေါင်းလောင်း ၅ လုံး၊ ဘော်ပြာသာဒ်ပစ္စည်း၊
၃၈။ မကြူကြူ အနောက်ဆင်တိုင်ရပ် အမရပူရမြို့ ဥဿဖယား ရွှေလက်စွပ်တစ်ကွင်း၊ ဘော်ဆွဲလဲတစ်ခု၊
၃၉။ ဒေါ်နန္ဒစာရီ သမီး မလှစိန် မင်္ဂလာရိပ်သာ အမရပူရ (ဘော် ပြာသာဒ်ပစ္စည်း)၊
၄၀။ မသန်း ပန်းရံရပ် အမရပူရမြို့ ဘော်ဆွဲလဲတစ်ခု၊ ဘော်ပြာသာဒ် ပစ္စည်း၊
၄၁။ ဦးထွန်းမောင်—ဒေါ်ပု သား မောင်သန်းဦး ဆင်တိုင်ရပ် အမရပူရမြို့ သတ္တဌာနအကြီး ၁၊
၄၂။ မမြကြည် ရွှေခဲရပ် အမရပူရမြို့ ငွေဒင်္ဂါးတစ်ပြား၊ ငွေမတ်စေ့ တစ်စေ့၊
၄၃။ မလှရှင် ဆင်တိုင်ရပ် အမရပူရမြို့ ခေါက်တော် တစ်ပုလင်း၊
၄၄။ မညာဏ မင်္ဂလာတိုက် အမရပူရမြို့ ဘော်ဆွဲလွဲတစ်ခု၊ (ဘော် ပြာသာဒ်ပစ္စည်း)၊
၄၅။ ဦးဇောတိက မင်္ဂလာတိုက်ဟောင်း အမရပူရမြို့ ကျောက်စိမ်း ဆင်းတု တစ်ဆူ၊
၄၆။ ကိုဘရီ-မသီလှ သား ခင်မောင်ညွန့် တောင်ကြခတ်၊ အမရ ပူရမြို့ ဥဿဖယားကျောက်တစ်ပွင့်၊ ပြင်သစ်ကျောက် ၁၊ နီလာ ၁၊ ပတ္တမြားနီ ၁၊ ကျောက်စိမ်း ၁၊ ဥဿဖယားအသေး ၂ ပွင့်၊
၄၇။ မောင်ထွန်းလှိုင်—မမြမြ အုပ်တန်းရပ် မန္တလေးမြို့ ပတ္တမြား ၅၊ နီလာ ၃ ပွင့်၊ ဥဿဖယားတစ်ပွင့်၊ ကြောက်ကျောက် ၁၊ ပြင်သစ်ကျောက် ၁၊

၄၈။ မခင်မြ ကြေးသွန်းရုပ် မြရုပ်ပွားတော်တစ်ဆူ၊
၄၉။ ဒေါ်လှကြူ သမီး မခင်အေး တမာကုန်းရပ် အမရပူရမြို့ ပုလဲ ၂ လုံး၊ ကျောက်စိမ်း ၁၊ ကျောက်ဖြူ ၂၊ ကျောက်နီ ၁၊
၅၀။ ဒေါ်မမှ မင်္ဂလာရိပ်သာ အမရပူရမြို့ ရွှေချပြီး ဘော်ညောင်ရွက် တစ်ရွက်၊ ဘော်ပြာသာဒ်ပစ္စည်း၊
၅၁။ ဒေါ်စန္ဒာ၊ မသုမာလာ အမရပူရမြို့ ဘော်ဆွဲလွဲတစ်လုံး၊ ရွှေချပြီး ဘော်ညောင်ရွက် တစ်ရွက်၊ ဘော်ပြာသာဒ်ပစ္စည်း၊
၅၂။ မသိန်းမေ ဟသ်ာရပ် အမရပူရမြို့ ၅ လက်မ ကျောက်ဆင်းတု တစ်ဆူ၊ ပတ္တမြားကျောက်တစ်လုံး၊
၅၃။ မနန္ဒာရီ မင်္ဂလာရိပ်သာ အမရပူရမြို့ ဘော်ဆွဲလွဲတစ်လုံး။ ဘော်ညောင်ရွက်တစ်ရွက်၊ (ဘော်ပြာသာဒ်ပစ္စည်း)၊
၅၄။ ဒေါ်အောင်၊ မငွေ၊ မတင်ဝင်း၊ မောင်လှဝင်း ပန်းဘဲရပ် အမရပူရမြို့ .... ၅ လက်မ ဆင်းတု တစ်ဆူ၊ ဘော်ပြားကမ္ဗည်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊
၅၅။ အမရပူရမြို့ နန်းမတော်ရပ် အမျိုးကောင်းမှု.... ၆ လက်မ ကျောက်ဆင်းတု တစ်ဆူ၊
၅၆။ ဦးကျင်–ဒေါ်အမုလေး တိုက်တန်း မန္တလေး.... ငွေပဒေသာပင် ၁၊ ငွေပရိက္ခရာတစ်စုံ၊ ၅ လက်မ ကျောက် ဆင်းတု တစ်ဆူ၊ ဘော်ပေါက်ပေါက် ၁၀၀ ပွင့်၊ (ဘော် ပြာသာဒ်ပစ္စည်း)၊
၅၇။ မမလေး၊ မမြသွေး၊ မောင် ကိုလှမောင် အိုးတော်ရပ် အမရ ပူရမြို့....ငွေဒင်္ဂါး ၃ ပြား၊ လိပ်ခွံဘီးတစ်ချောင်း၊ ဘော်ပြား ကမ္ဗည်း ၁၊ (ဘော်ပြာသာဒ်ပစ္စည်း)၊ ဆံစုတစ်ခု၊
၅၈။ ဒေါ်လှိုင်၊ မစန်းရီ ငယ်တိုးတိုက်နယ် အမရပူရမြို့.... ရွှေရင်ထိုး ၁၊
၅၉။ ဒေါ်အေးခ ယင်ပြန်ရပ် အမရပူရ... ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ (ဘော်ပြာသာဒ်ပစ္စည်း)၊

၆၀။ ဒေါ်ချို, ဒေါ်ရွှံ့ အမရပူရမြို့.... ကရမက်ဆင်းတုတော်တစ်ဆူ၊ သီဟိုဠ်စေတီတော်တစ်ဆူ၊ ကြောင်ကျောက်တစ်လုံး၊ ကျောက်စိမ်း တစ်ပွင့်၊ ကျောက်နီ ၁၊ စိန်စွယ်တစ်ပွင့်၊ ဥဿဖယား တစ်ပွင့်၊

၆၁။ ဒေါ်ဖွားသင် ရွှေခဲရပ် အမရပူရမြို့၊ ရွှေရင်ထိုး ၁၊ တွင်းထွက် ကျောက်စိမ်း ၁၊ ငွေဖလားတစ်လုံး၊

၆၂။ ဒေါ်သန်း ရွှေခဲရပ် အမရပူရမြို့၊ နဝရတ် ၉ ပါး ၁၊

၆၃။ ဒေါ်အေး ရုံတော်ကြီး မန္တလေးမြို့ ၅ လက်မကျောက်ဆင်းတု တစ်ဆူ၊ ဘော်ကမ္ပည်း ၁၊ ဘော်ပန်းခိုင် ၁၊ ဘော်ပေါက်ပေါက် ၁၀ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၆၄။ ဦးကြွင်--ဒေါ်မမလေး သားသမီးတစ်စု တိုက်တန်း မန္တလေး တရုတ်ငွေဒင်္ဂါးတစ်ပြား၊ နဝရတ် ၉ ပါး ၁၊ ပုလဲရွှေနားဆွဲ တစ်စုံ၊ ပယင်းစစ် ပုတီးတစ်ကုံး၊ မဟူရာ ကျောက်တစ်လုံး၊ ရောင်စုံကျောက် ၁၀ လုံး၊ ငွေခါးပတ်ခေါင်း တစ်စုံ၊ ဘော် ရုပ်စုံပါသော ကွမ်းအစ် တစ်လုံး၊ ဇဘော်ဇီးကွက်ရုပ် ၁၊ (ဘော်ပြာသာဒ်ပစ္စည်း)၊

၆၅။ ဒေါ်ရန် ကြံတန်းရပ် အမရပူရမြို့ အရိုးတော် တစ်ပုလင်း၊ ဘော်ပေါက်ပေါက် ၂၀ ပွင့်၊ (ဘော်ပြာသာဒ်ပစ္စည်း)၊

၆၆။ ကိုစိန်မောင်-မမြသန်း ပွဲတော်ရပ် အမရပူရမြို့ ငွေဒင်္ဂါး တစ်ပြား၊ ငွေမတ်စေ့တစ်စေ့၊

၆၇။ မမစိန် ပန်းဘဲရပ် အမရပူရမြို့ ကျောက်ဆင်းတု တစ်ဆူ၊ ပန်းပေါင်းဆင်းတု တစ်ဆူ၊

၆၈။ မသိန်း အတ္တိးစုရပ် အမရပူရမြို့ ဆံစုတစ်ခု၊ ဘော်ပေါက် ပေါက် ၁၀ ပွင့်၊(ဘော်ပြာသာဒ်ပစ္စည်း)၊

၆၉။ ဒေါ်သောင်း အိုးတော်ရပ် အမရပူရမြို့ ဘော်ပေါက်ပေါက် ၁၀ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း

၇၀။ မလှလှ ပန်းရံရပ် အမရပူရမြို့ ဘော်ပေါက်ပေါက် ၁၀ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၇၁။ မတင်တင်နွယ် ပန်းရုံရပ် အမရပူရမြို့ ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၇၂။ မသန်းစိန် ဆားချက်ရပ် အမရပူရမြို့ ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၇၃။ ဦးဓမ္မသာမိ တံတားဦး, သူငယ်တော်ရွာ ရေလည်ကျောင်း ခေတ်တော် တစ်ပုလင်း၊ ငွေဒင်္ဂါး ၂ပြား၊ ငွေမတ်စေ့ နှစ်စေ့၊ ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း၊

၇၄။ ဒေါ်အေးစိ တံတားဦးမြို့ သူငယ်တော်ရွာ တွင်းထွက် ကျောက်ပါသော သံဘူးတစ်ဘူး။

၇၅။ ဒေါ်အေးခင် တံတားဦးမြို့ သူငယ်တော်ရွာ ငွေဒင်္ဂါးနှင့် ငွေမတ်စေ့များပါသော ဖလ်ဘူးတစ်ဘူး၊ ရွှေဆိုင်း ၂၅ရွက်၊ ဘော်ပေါက်ပေါက် ၅ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၇၆။ ဒေါ်တင် တံတားဦးမြို့ သူငယ်တော်ရွာ ရွှေဆိုင်း ၁၀ ရွက်။

၇၇။ ကိုဆင်အောင်-မတင်အေး တံတားဦးမြို့ သူငယ်တော်ရွာ ရွှေဆိုင်း ၁၀ ရွက်၊

၇၈။ ကိုခင်အေး-မစန်းစန်း အိုးတော်ရပ် အမရပူရ ဘော်ရုပ်စုံ ၃ ခု၊ ဘော်ပြာသာဒ်ပစ္စည်း၊

၇၉။ ဒေါ်သီတာ, သား မောင်ယု၊ သမီး မနီ(၈)လက်မငွေဆင်းတု တစ်ဆူ၊

၈၀။ ဒေါ်ခန့် အိုးတော်ရပ် အမရပူရမြို့ ဇမ္ဗူပတိချွတ်ခန်း ရုပ် ပွားတော် တစ်ဆူ၊

၈၁။ မောင်အေးကြူ စစ်ကိုင်းစု ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊

၈၂။ ကိုမောင်သိန်း-မသန်းစိန် ရက်ကန်းတော်ရပ် အမရပူရမြို့ ကြောင်ကျောက်တစ်လုံး၊

၈၃။ ဦးမောင်လေး အိုးတော်ရပ် အမရပူရမြို့ တွင်းထွက်ကျောက်စုံ တစ်ပုလင်း၊

၈၄။ ဦးဘခင်-ဒေါ်လှရင် မန္တလေးမြို့ ဘော်ပန်းခိုင် ၁၉၊ ဘော် ပြာသာဒ်ပစ္စည်း၊

၈၅။ ကိုလှမောင် မောင်းတန်းရပ် အမရပူရမြို့ ကျောက်နီ ၅လုံး၊ ကျောက်စိမ်းတစ်လုံး၊ ဥဿဖယား ၉ ပွင့်၊ ကျောက်စိမ်း ဆင်းတု တစ်ဆူ၊ ကျောက်မျိုးစုံပါသော ပုလင်း တစ်လုံး၊

၈၆။ ကိုသိန်းအောင်-မစောတင် ကြံ့တန်းရပ် အမရပူရမြို့ မိုးကုတ်ကျောက်အစုံ ၂၅ ပွင့်၊

၈၇။ ဒေါ်သိန်းမြ သွီး မညွန့်ညွန့် နီလာကျောက် တစ်လုံး၊ ဘော်နယား ၂ ခု၊ ဘော်ပြာသာဒ်ပစ္စည်း၊

၈၈။ ဦးရှန် ဆင်ကာရပ် အမရပူရမြို့ ရွှေဆိုင်း ၁၅ ချက်၊

၈၉။ ဦးမောင်ကို-ဒေါ်သိန်းမြ သားသွီး တစ်စု, အိုးတော်ရပ် အမရပူရမြို့ ၅ လက်မ ကျောက်ဆင်းတုတစ်ဆူ၊ ဘော်ဆွဲလဲ ၂ လုံး၊ ဘော်ပြာသာဒ်ပစ္စည်း၊

၉၀။ မလှလှ အိုးတော်ရပ် အမရပူရမြို့ ၅ လက်မ ကျောက်ဆင်း တု တစ်ဆူ၊

၉၁။ ဦးရှမ်း-ဒေါ်သောင်း, ဆင်ကာရပ် အမရပူရမြို့ ဘော်ဆွဲလဲ တစ်လုံး၊ ဘော်ပန်းခိုင် ၁၊ ဘော်ပြာသာဒ် ပစ္စည်း၊

၉၂။ မောင်မြင့်သူ အိုးတော်ရပ် အမရပူရမြို့ ဘော်ဆွဲလဲ တစ် လုံး၊ ဘော်ပြာသာဒ်ပစ္စည်း၊

၉၃။ ဒေါ်ဥမ္မာရီ မင်္ဂလာရိပ်သာ အမရပူရမြို့ ဓာတ်တော် ထည့် သော ဘော်ကြုတ် ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊

၉၄။ မဝင်းသီ ဟော်ကုန်းရပ် မန္တလေး ပတ္တမြား ၅ လုံး၊ နီလာ တစ်လုံး၊

၉၅။ ဒေါ်သိန်းတင် တရုတ်တန်း နီလာရွှေလက်စွပ်တစ်ကွင်း၊

၉၆။ မအုန်းခင် နန်းမတော်ရပ် အမရပူရမြို့ ငွေဒင်္ဂါး ၅ ပြား ဘော်ဒေါင်းရုပ် ၂ ခု၊ ဘော်ပြာသာဒ်ပစ္စည်း။

၉၇။ ဒေါ်မြရီ ရွှေခဲရပ် အမရပူရမြို့ ကျောက်စိမ်း ၂ လုံး၊
၉၈။ ဒေါ်ညွန့်ညွန့် အိုးတော်ရပ် အမရပူရမြို့ နီလာ ၉ လုံး၊
၉၉။ ဒေါ်ဖွားသင် ရွှေခဲရပ် အမရပူရမြို့ ရွှေဒင်္ဂါးတစ်ပြား၊
၁၀၀။ ကိုမောင်မောင် အိုးတော်ရပ် အမရပူရမြို့ ဘော်ရွှေဆွဲလဲ တစ်လုံး၊ ဘော်ပေါက်ပေါက် ၅၀ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း၊
၁၀၁။ ဒေါ်ဆင် ကိုင်းစုရပ် အမရပူရမြို့ ဘော်ဆွဲလဲ တစ်လုံး၊ ဘော်ပြာသာဒ်ပစ္စည်း။
၁၀၂။ ဒေါ်စိန်ပု အိုးတော်ရပ် အမရပူရမြို့ ၄ လက်မ ကျောက် ဆင်းတု တစ်ဆူ၊
၁၀၃။ ဒေါ်သစ် အိုးတော်ရပ် အမရပူရမြို့ ၄ လက်မ ကျောက်ဆင်း တု တစ်ဆူ၊ ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ် ပစ္စည်း။
၁၀၄။ မခင်လှ အရှေ့ဆင်တိုင်ရပ် ရွှေလက်စွပ် တစ်ကွင်း၊ ရွှေအပ်တစ်ချောင်း၊
၁၀၅။ မခင်သန်းစိန် တရုတ်တန်းရပ် မန္တလေး ဘော်ပေါက် ပေါက်၅၀ ပွင့်၊ ဆော်ဆွဲလဲတစ်လုံး၊ဘော်ညောင်ရွက် တစ် ရွက်၊ ဘော်ပြာသာဒ်ပစ္စည်း။
၁၀၆။ ကိုသိန်းမြင့်-မခင်ခင် သားသမီးတစ်စု ၂၈ လမ်း၊ မန္တလေး ခေါင်းလောင်း ၁၊ ညောင်ရွက် တစ်ရွက်၊ ဘော်ပေါက်ပေါက် ၁၀ ပွင့်၊ ဘော်ပြာသာဒ်ပစ္စည်း၊
၁၀၇။ ဦးညွန့်-ဒေါ်ဆင်၊ ဒေါ်ခင် အိုးတော်ရပ် အမရပူရမြို့ ဘော်ဆွဲလဲတစ်လုံး၊ ညောင်ရွက် တစ်ရွက်၊ ခေါင်းလောင်း ၁၊ ဘော်ပြာသာဒ်ပစ္စည်း၊
၁၀၈။ ဦးညွန့်-ဒေါ်မြသောင်း အရှေ့ဆင်တိုင်ရပ် အမရပူရမြို့ ခေါင်းလောင်း ၁၊ ဘော်ဆွဲလဲတစ်လုံး၊ ဘော်ပြာသာဒ် ပစ္စည်း၊
၁၀၉။ ကိုပေါ် မျက်ပါးရပ် မန္တလေး ဘော်နယားရုပ် ၂ ခု၊ ဘော်ပြာသာဒ်ပစ္စည်း၊

အထက်ဖော်ပြပါ ကုသိုလ်ရှင်များ အမည်ကို ဘော်ပြားကြီးများ ပေါ်တွင် ရေးသား၍ ကုသိုလ်ရှင်များ ကိုယ်တိုင် ဌာပနာပစ္စည်းများကို လက်ဆင့်ကမ်း၍ ဘုရားပေါ်သို့ ရောက်အောင် ကိုယ်တိုင်ကိုယ်ကျ ဌာပနာကြပါသည်၊ ဌာပနာအချိန် မလာရောက်နိုင်သော ကုသိုလ်ရှင်များအတွက် အလှည့်ကျ ကိုယ်စား ဝင်ရောက်ကာ ကူညီဆောင်ရွက်ကြပါသည်၊ နောက်ဆုံး ဌာပနာပိတ်ချိန်တွင် ပစ္စည်းများကို စစ်ဆေးပြီး မှတ်တမ်းတင် ဓာတ်ပုံ ရိုက်ပါသည်၊ ၎င်းဓာတ်ပုံအချို့ကို စာရှုသူများကို တင်ပြအပ်ပါသည်။

ဆရာတော်ဘုရားကြီး၏ အဂ္ဂိစျာပနအတွင်း အများကောင်းမှုဖြစ်သော ဘော်ပြာသာဒ်ကြီး၏ အစိတ်အပိုင်း အမျိုးမျိုးကို ကာလတန်ဘိုးထား၍ အလှူတော်ငွေ ကောက်ခံခဲ့ပါသည်၊ ထိုပစ္စည်းများမှ ရရှိသော အလှူငွေကို စေတီတော် တည်ထားရာ၌ သုံးစွဲခဲ့ပါသည်၊ ဘော်ပြာသာဒ် အစိတ်အပိုင်းများ တွင် ကုသိုလ်ရှင်များ၏ အမည်, လှူဘွယ် ဝတ္ထုပစ္စည်းများ၏အမည်၊ အလှူဝတ္ထုပစ္စည်းများ၏ တန်ဘိုးများကိုဘော်ကမ္ပည်းထိုး၍ ဌာပနာခဲ့ပါသည်၊ သေးငယ်သောဘော်အစအနများကို ဘော်ပေါက်ပေါက်ပြုလုပ်၍ ဌာပနာခဲ့ပါသည်။

ဘော်ပြာသာဒ်ပစ္စည်းများ ဌာပနာခဲ့စဉ်က ဖော်ပြပါ ဓာတ်ပုံများအတိုင်း ဓာတ်ပုံရိုက်ယူ ထားခဲ့ပါသည်၊ အချို့ဘော်များကို အပြားခတ်ပြီး ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ အကျဉ်းချုပ်ကို ဘော်ပြားပေါ်တွင် ရေးသား အက္ခရာ တင်ထားပြီး ဌာပနာခဲ့ပါသည်။

*

## မိတ္ထီလာမြို့ မိုးကုတ် ဝိပဿနာအဖွဲ့မှ
## ကျောက်စာတိုက်လှူဒါန်းခြင်း

ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီး ဟောကြားတော်မူခဲ့သော တရားဒေသနာတော်များကို အရှည်ကြာအောင် မပျောက်မပျက် တည်နေစေရန်နှင့် အများပိုလ်လူ ဖတ်ရှုနာယူနိုင်ရန် စိတ်ထားဖြင့် မိတ္ထီလာမြို့ မိုးကုတ် ဝိပဿနာ ပြန့်ပွားရေးအဖွဲ့မှ ဆရာတော်၏ ဟောစဉ် တရားတော်များကို ကျောက်ထက် အက္ခရာတင်၍ (မင်္ဂလာဓာတုဓမ္မ စေတီတော်၏)အနီး တွင် အဆင့် သုံးထပ်ရှိ အာရုံခံ ကျောက်စာတိုက်ကြီး တစ်လုံးကို ဆောက်လုပ်လှူဒါန်းလျက် ရှိပါကြောင်း။

ထိုကျောက်စာတိုက်တွင်း၌ ကျေးဇူးရှင် မိုးကုတ်ဆရာတော် ဘုရားကြီး၏ ဟောကြားတော်မူသော တရားဒေသနာ အချို့ကို ရေးသွင်း၍ ကျောက်ချပ်ရေ (၃၃) တိတိ ထွင်းထုပူဇော်ထားခြင်း ဖြစ်ပါကြောင်း။

မိတ္ထီလာမြို့ မိုးကုတ်ဝိပဿနာ ပြန့်ပွားရေးအဖွဲ့မှ တည် ဆောက်ဆဲဖြစ်သော မင်္ဂလာ ဓာတုဓမ္မ စေတီတော်အနီး ကျောက် စာတိုက်တော်ကြီးမှာ အလျား ပေ (၇၀)၊ အနံ ပေ (၃၀)၊ အမြင့် ပေ (၃၀) ကျော် အဆင့် သုံးဆင့်ရှိသော အဆောက်အဦကြီးပေါ် တွင် အချိန် ပိဿာ ၁၆၅၀၀ ကျော်ရှိသည့် ကျောက်စာချပ်ရေ (၃၃) တိတိကို အလယ်ထပ်အဆင့်တွင် တင်၍ စိုက်ထူထားနိုင်ရန် အတွက် အလွန်ခိုင်မာသော အခြေခံ သံထည် ကျောက်သေး ကွန် ကရစ်များဖြင့် ပြုလုပ်ရပါသောကြောင့် အကုန်အကျငွေမှာ ယခင် ရထားသည့်ငွေထက် များစွာပို၍ ကုန်ကျနေပါသည်၊ ထို့ပြင် ၎င်း ကျောက်စာတိုက်တော်ကြီး တည်ဆောက်ထည့်နေရာမှာ အမရပူရမြို့ ပွဲတော်အင်းအတွင်း ဖြစ်နေပါ၍ မိုးတွင်းအခါ မြစ်ရေများ ဝင်

ရောက်ပြီး ရေစီးချောင်းနေရာ ဖြစ်သည့်အပြင် ရေအနက် ၁၂ ပေ ကျော်ခန့် ရှိပါသောကြောင့် ယင်းကျောက်စာချပ်များကို ရေလွတ်ရာ အလယ်ထပ်အဆင့်တွင် လူအများ အစဉ်သဖြင့် ပူဇော်နိုင်ရန် တင်၍ စိုက်ထူထားရပါသည်။

မိတ္ထီလာမြို့ မိုးကုတ်ဝိပဿနာ ပြန့်ပွားရေးအဖွဲ့ကြီးမှ ထုတ်ဝေရောင်းချသော မိုးကုတ်ဝိပဿနာ ဒုလ္လဘ ဒေသနာ ပေါစဉ်ကျင့်စဉ် တရားတော်စာအုပ်များမှ အမြတ်ငွေဖြင့် အဆိုပါကျောက်စာတိုက်ကြီးအား တည်ဆောက်ခဲ့ရာ အဆိုပါတရားတော်စာအုပ်များ ရောင်းရသည့်အမြတ်ငွေထက် တကယ်ကုန်ကျသည့်ငွေမှာသုံးဆလောက်ပို၍ နေပါသောကြောင့် အဖွဲ့ဝင်အမှုဆောင် လူကြီးများက စိုက်ထုတ်ကုန်ကျခံခဲ့ကြပါသည်။ သို့ပါ၍ အဆိုပါ အဖွဲ့ဝင် လူကြီးများဖြစ်ကြသော ဦးကျော်မောင်၊ ဦးသစ်၊ ဦးမြင့်ဆွေ အစရှိသော လူကြီးများ၏ စေတနာကိုချီးကျူး၍မကုန်နိုင်အောင် ဖြစ်ပါတော့သည်။



## အမရပူရမြို့ မိုးကုတ်ဝိပဿနာ ပြန့်ပွားရေးအဖွဲ့၏ ဆောင်ရွက်ချက်များ

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချပြီး နောက်၊ ဆရာတော်ဘုရားကြီး၏ တပည့်ရင်များဖြစ်ကြသောမင်္ဂလာ တိုက်ဟောင်းရှိ နာယက ဆရာတော်ကြီးများ ဦးစီး၍ တရားတော် များ ပြန့်ပွားရေးအတွက် ဆောင်ရွက်လျက်ရှိကြရာ၊ ယခုအခါ အနယ်နယ်အရပ်ရပ်တွင် မိုးကုတ်ဝိပဿနာ အဖွဲ့ခွဲ မြောက်မြားစွာ ပေါ်ပေါက်လာပါတော့သည်။

မင်္ဂလာရိပ်သာအတွင်း၌လည်း တရားနာ ပရိသတ်များအား နေ့စဉ် အသံသွင်းကြိုးခွေများဖြင့် နံနက် ၉ နာရီမှ ၁၀ နာရီ၊ နေ့ ၁ နာရီမှ ၂ နာရီ၊ ည ၇ နာရီမှ ၈ နာရီ၊ တစ်နေ့ (၃) ကြိမ် ဖွင့်လှစ်နာကြားစေပြီး၊ ရိပ်သာအတွင်းရှိ သံဃာတော် အရှင်မြတ် များက အလှည့်ကျ ထပ်မံ၍ ညနေ ၃ နာရီမှစ၍ တစ်နာရီတိတိ တရားဟောကြားလျက် ရှိပါသည်၊ ထို့ပြင် ယောဂီသစ်များအတွက် (၁၀)ရက် စခန်း သင်တန်းများကိုလည်း အခါအားလျော်စွာ ဖွင့် လှစ်ပို့ချလျက် ရှိပါသည်၊ နေ့စဉ်နှင့်အမျှ ရိပ်သာတွင်းရှိကမ္မဋ္ဌာန်း ကျောင်းတိုက်များတွင် နေ့ရောညပါ အမြို့မြို့အနယ်နယ်မှလာရောက် အားထုတ်ကြသော ယောဂီများနှင့် ပြည့်ညပ်လျက်ရှိပါသည်။

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီး၏ ခန္ဓာဝန်ချ အထိမ်းအမှတ် ပူဇော်ပွဲကြီးကို နှစ်စဉ်နှစ်တိုင်း ကျင်းပလျက်ရှိပါ သည်။



## မိုးကုတ်မြို့ မိုးကုတ်ဝိပဿနာ ပြန့်ပွားရေးအဖွဲ့၏ ဆောင်ရွက်ချက်များ

ယခင် ကျေးဇူးရှင်မိုးကုတ်ဆရာတော်ဘုရားကြီး၏ မိုးကုတ်မြို့ ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံတို့ ဆောက်လုပ်လှူဒါန်းထားသောမင်္ဂလာ ကျောင်းတိုက်၌ ဆရာတော်ဘုရားကြီး၏တပည့်ရင်းဖြစ်သူ ဆရာတော် ဦးနေရိန္ဒသည် အဆိုပါကျောင်းတိုက်တွင် သီတင်းသုံးတော်မူလျက်၊ မိုးကုတ်ဝိပဿနာ ပြန့်ပွားရေးကို ဆောင်ရွက်တော်မူပါသည်။

ဆရာတော်ဘုရားကြီး၏ ဩဝါဒအတိုင်း ထိုတိုက်အတွင်းရှိ ဆရာတော်များက အလှည့်ကျ ခန္ဓာဉာဏ်ရောက် တရားများကို ဟောပြောခြင်းနှင့် (၁၀)ရက် စခန်း သင်တန်းများ ဖွင့်လှစ်ခြင်း တို့ကို အားသွန်ခွန်စိုက် ကြိုးစား ဆောင်ရွက်တော်မူလျက်ရှိပါသည်။

၁၃၂၇-ခု၊ သီတင်းကျွတ်လဆန်း ၆ ရက်၊ ကြာသပတေးနေ့ နံနက် ၇ နာရီတွင် ဆရာတော် ဦးနေရိန္ဒက ကြီးကျယ် ခမ်းနား လှစွာသော စေတီတော် တည်ဆောက်ရန်အတွက် မင်္ဂလာအခါ ယူလျက် ပန္နက်ချပါသည်။ အဆိုပါစေတီတွင် ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များ၊ အရိုးတော်များနှင့် အဖိုး များစွာ ထိုက်တန်လှသော ဌာပနာရန်ပစ္စည်းများကို ဌာပနာ၍ ၁၃၂၇-ခု၊ တပို့တွဲလဆုတ် (၁၁) ရက် အင်္ဂါနေ့တွင် ဌာပနာတိုက်ကို ပိတ်ပါသည်၊ ၁၃၂၉-ခု၊ သီတင်းကျွတ်လဆန်း (၁၅) ရက်နေ့မှစ၍ (၅) ရက်တိုင်တိုင် ကြီးကျယ်ခမ်းနားသော ပွဲလမ်းသဘင်များဖြင့် ဆင်ယင်ကျင်းပပါသည်၊ ထိုနှစ် သီတင်းကျွတ်လဆုတ် (၄) ရက်နေ့ တွင် နှစ်စဉ်ကျင်းပမြဲဖြစ်သော ဆရာတော်ဘုရားကြီး၏ ခန္ဓာဝန်ချ အထိမ်းအမှတ်ပူဇော်ပွဲကို ခမ်းနားသိုက်မြိုက်စွာ ကျင်းပလျက် စေတီ တော်ကို ထီးတော်တင်ပါသည်၊ ထိုနေ့ထိုရက်၌ပင် အခနာဂတတင်၍ မင်္ဂလာဓာတုမဇ္ဈစေတီတော် အဖြစ်သို့ ရောက်ရှိတော်မူပါသည်။

*

## ရန်ကုန်မြို့ ဦးအောင်ဇံဝေ-ဒေါ်စံသာနု မိသားစုတို့က

## ပေထက်အက္ခရာတင်ခြင်း

ကျေးဇူးရှင် မိုးကုတ် ဆရာတော်ဘုရားကြီး၏ ဟောကြားထားသော တရားတော်များကို အသံသွင်းကြိုးခွေများဖြင့် ထိန်းသိမ်းခြင်း၊ မိတ္ထီလာမြို့၊ ရန်ကုန်မြို့၊ မန္တလေးမြို့တို့မှ တရားစာအုပ်များ ပုံနှိပ်ထုတ်ဝေ၍ ထိန်းသိမ်းခြင်းနှင့်၊ အမရပူရမြို့ ဓာတုစေတီတော် အနီး ကျောက်ထက်အက္ခရာတင်၍ ထိန်းသိမ်းခြင်းတို့ဖြင့် ထိန်းသိမ်းထားရှိပြီး ဖြစ်ပါသော်လည်း ရန်ကုန်မြို့ ဂွတ္တလစ်(ဖ်)လမ်း၊ အမှတ် ၈၄ နေ၊ ဦးအောင်ဇံဝေ-ဒေါ်စံသာနု မိသားစုတို့က အားရတင်းတိမ်ခြင်း မရှိနိုင်ဘဲ ဆရာတော်ဘုရားကြီး၏ တရားတော်များ အဓွန့်ရှည်စွာ တည်တံ့နိုင်ရေးအတွက် တရားတော် (၈၈)ပုဒ်ကို ရွေးမူအတိုင်း နှစ်ပေါင်း (၁၀၀၀) ကျော် မပျက်စီးဘဲ တည်တံ့နိုင်သည့် ပေထက်အက္ခရာတင်ရာတွင် ယခုအချိန် ပညာသည်များ မရှိသလောက် ရှားပါးလှန်းရာ (၃)နှစ် ဘိုင်တိုင် အချိန်ယူ၍ အင်္ဂါပေါင်း (၅၀)ရှိ ပေထက်အက္ခရာကိုတင်ခဲ့ရာ ယခုအခါ အောင်မြင်ပြီးစီးပြီ ဖြစ်ပါကြောင်း။

## ရန်ကုန်မြို့ မိုးကုတ်ဝိပဿနာ တရားစဉ်နှင့် လုပ်ငန်းစဉ် ပြန့်ပွားရေးအဖွဲ့ကြီး၏ ဆောင်ရွက်ချက်များ

ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ခန္ဓာဝန်ချပြီးနောက် ရန်ကုန်မြို့ ဦးဘိုးငြိမ်း ကုမ္ပဏီပိုင်ရှင် ဦးသံဒိုင်က ဦးစီး၍ ရန်ကုန်မြို့ နတ်မောက်လမ်း အမှတ် ၈၂ တွင် မိုးကုတ်ဝိပဿနာ တရားစဉ်နှင့် လုပ်ငန်းစဉ် ပြန့်ပွားရေးအဖွဲ့ကြီးကို ဖွဲ့စည်း၍ နတ်မောက်လမ်းရှိ အဖွဲ့ကြီးတည်ရာတွင် နေ့ရောညပါ တရားအားထုတ်နိုင်ရန် မိုးကုတ်ဝိပဿနာ ရိပ်သာကို ဖွင့်လှစ်ထားရှိပါသည်။

အဆိုပါအဖွဲ့ကြီးမှ ဆရာတော်ဘုရားကြီး ဟောကြားထားသော တရားတော်များကို များပြားလှစွာသော တရားနာပရိသတ်များအား နေ့စဉ်အသံသွင်းကြိုးခွေများဖြင့် ဖွင့်၍နာကြားပြီးနောက် အဆိုပါ တရားတော်များကို အဖွဲ့ဝင်လူကြီးများဖြစ်ကြသော ရတနာပုံ ဆရာချစ်၊ ပါဠိ ဆရာထွန်း အစရှိသော ဆရာကြီးတို့က တစ်လှည့်စီ ထပ်မံရှင်းလင်း ဟောပြောကြပါသည်။

ထို့ပြင် ယောဂီသစ်များအတွက် ၁၀ ရက်စခန်း သင်တန်းများကိုလည်း အခါအားလျော်စွာ ဖွင့်လှစ်ပေးလျက်ရှိပါသည်၊ အဆိုပါ အဖွဲ့ကြီးမှ ဆရာတော်ဘုရားကြီး၏ ခန္ဓာဝန်ချ အထိမ်းအမှတ် ပူဇော်ပွဲကြီးကို ကြီးကျယ်ခမ်းနားစွာ နှစ်စဉ်ကျင်းပလျက်ရှိပြီး ဆရာတော်ဘုရားကြီး၏ ဟောကြားထားသော တရားတော်များကို အသံဖမ်း ကြိုးခွေများမှ ကူး၍ မိုးကုတ်ဝိပဿနာ အလုပ်ပေးတရားစာအုပ် အမှတ်စဉ် ၁ မှ ၃၀ အထိ ပုံနှိပ်ထုတ်ဝေခဲ့ပြီး ဖြစ်ပါသည်။

*

**အမရပူရမြို့ မဂ်လာတိုက်ဟောင်း**
**"အဂ္ဂမဟာပဏ္ဍိတ"**
**ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏**
**ထေရုပ္ပတ္တိ အကျဉ်းချုပ် ကဗျာများ**

၁။ ရတနပူရ မန္တလေးရိုင်၊ မြစ်ငယ်မည်ဆန်း မြို့နန်းအပိုင်၊ ဥယျာဉ်တော်ပ ဂါမစုံမြိုင်၊ သူတော်ကောင်း ခိုအောင်း စဉ်ဆက်တိုင်။

၂။ ထိုသည့်ရွာမြတ် နေလတ်ရှင်ကြည်၊ သမ္မာဇီဝ လုလ္လကိုယ်စီ၊ ရောင်းဝယ်ဖောက်ကား တရားနှင့်[illegible]ညီ၊ လောကကျိုး သည်ပိုး ဆောင်ကြသည်။

၃။ ဦး[illegible]ောင်ထွန်းကို မွေးသဘာ[illegible]င်၊ ဒေါ်ရွှေအိမ်ဘိ ဇမ္ဗူမိဂုဏ်ရှင်၊ သီလမြတ်လေး လှူရေးအစဉ်၊ သူတော်တမ်း စိတ်ဝမ်း ကြည်ကြည်လင်။

၄။ ထောင့်နှစ်ရာလှစ် ခြောက်တစ်ခါသော်၊ သက္ကရာဇ်ထူး လမှူး နတ္တော်၊ ပြည့်ကျော်တုံလစ် ဆယ့်တစ်ဒီနော်၊ နေ့ဗုဒ္ဓ ဖြကာ့ ဟစ်ကြွေးကြော်။

၅။ မင်္ဂလာစုံပြည့် ထိုသည့်ချိန်တွင်၊ လောကကောင်းကျိုး သည်ပိုး ဉာဏ်ယှဉ်၊ ဗြဟ္မာမဟေ့ စုတေခါပင်၊ လူတို့နန်း စက်ပန်း ကွန့်ချီအင်။

၆။ မိုးကုတ် ထေရ အဂ္ဂလောင်းလျာ၊ မင်္ဂလာ ထွန်းမြတ် နက္ခတ် ညီညာ၊ မိခင်အိုင်မြတ် သတပတ်ရွှေကြာ၊ ဖွားမြင်မြောက် ထွန်းတောက် နည်းအာဇာ။

၇။ ခါညီရွယ်တင့် ထူးသင့်ဘုန်းလျှံ၊ ဥယျာဉ်တော်ရွာ ဆရာထေရ်၊ ငွေးပင်တောကျောင်း ခညောင်းအပ်နှံ၊ ပညာများ သင်ကြား စေခဲ့ပြန်။

၈။ အခြေပါဒ သိပ္ပဖြာဖြာ၊ သင်ယူကြိုးကုတ် အားထုတ်လှန်စွာ၊ ပါရမီလျောက် ထက်မြောက်ဉာဏ်ဝါ၊ ဆယ့်နှစ်နှစ် ထွန်းသစ် ရောက်ချိန်ခါ။

၉။ ပါရမီထူးစွ သိသာရွှေစင်၊ ချီးမြှင့်ထိုက်ပြား ရွှေလား ဉာဏ်မြင်၊ သာသနာရေး စစ်ဆေးခြင်းလျှင်၊ ပဗ္ဗဇ္ဇ မင်္ဂလာ ခါတော်ပင်။

၁၀။ ရှင်ဝိမလ နာမသင့်လျော်၊ သန့်စင်ရေး ဘွဲ့ပေးမှည့်ခေါ်၊ သာမဏေရ အင်္ဂလောင်းကျော်၊ ပညာမိုး သောက်ချိုး နေသရော်။

၁၁။ တပည့်ရည်ချင်း မယှဉ်းစေရာ၊ သင့်ရာအပ်နှင်း ကျင့်ခင်း ဆရာ၊ တောင်မြို့ခေါ်ကြ အမရပူရာ၊ လှန်ကောင်းမြတ် တင့်အပ် နဂရာ။

၁၂။ မင်္ဂလာတိုက်ကျောင်း ကျိန်းအောင်း ထေရ်ရှံ၊ ဆရာထံရင်း မယှဉ်းအပ်နှံ၊ ပညာရင်နှီ သောက်စို့စေပြန်၊ ပိဋကတ်သုံးရပ် နည်းနာခံ။

၁၃။ ဆရာကြီးအုန်း တိုင်းလုံးကြေညာ၊ ပိဋကတ်ငြမ်း သင်ခန်းဖြာဖြာ၊ အဘိဓမ္မ အင်္ဂဉာဏ်ဝါ၊ တပည့်ပေါင်း ခိုအောင်း နည်းနာခံ။

၁၄။ မင်္ဂလာတိုက် သမိုက်ဂုဏ်လျှံ၊ ထိုဆရာကြီး ခိုမှီးနေပြန်၊ ရောက်လာသမျှ သိသာတန်တန်၊ သင်ကာပို့ ကတ္တိနိဗ္ဗူတံ။

၁၅။ ထိုဆရာကြီး ထံနည်းမကွာ၊ မိုးကုတ်ထေရ အင်္ဂလောင်းလျှာ၊ အပ်ကျမတ်ကျ နယစုံစွာ၊ ချီပင့်ဆုံး လက်ရုံး တစ်ဆူရာ။

၁၆။ မင်္ဂလာတိုက်တွင်း မှီတင်းနေကာ၊ နှစ်ရှည်များစွာ ကာလမခြား၊ ပိဋကတ်ငြမ်း တတ်စွမ်းရာရာ၊ အားအန်ထုတ် ကြိုးကုတ်နေဆဲခါ။

၁၇။ ထောင့်နှစ်ရာဖွဲ့ ရှစ်ဆယ့်တစ်တွင်၊ ဝါဆိုဆန်းတက် ရှစ်ရက်ခါပင်၊ ဥပဇ္ဈာယ်ချုပ် တိုက်အုပ်ထေရ်ရှင်၊ ပဗ္ဗဇ္ဇ သာမဏခါတော်ယဉ်။

၁၈။ ဇာနည်သားမြတ် ရှယ်မှတ် သင့်တန်၊ သာသနာ့ ဝန်ထမ်း အစွမ်းထက်သန်၊ ပိဋကတ်ငြမ်း ဘက်ကမ်းရောက်ရန်၊ အားအန်ထုတ် ကြိုးကုတ်စွဲမြဲညာဏ်။

၁၉။ မင်္ဂလာတိုက် ယာပိုက်မွေလျှော်၊ ခိုလှုံရောက်ကြ သိဿ သော်မော်၊ ချုပ်သင်ကြား မအားဘယ်သော်၊ သာသနာ့ မျှားစွာ့ကောင်းကျိုးဖော်။

၂၀။ သာသနာကြီး၊ လျှံငြိုးထိန်ဝေ၊ မိုက်မှောင်ပယ်ခွင်း၊ တောက် လင်းပါစေ၊ ကိုယ်တော်စိတ်တွင်း၊ မြော်ကင်း ညာဏ်ဝေ၊ စွမ်းကုန်ထုတ် အဟုတ်ဆောင်ရွက်ချေ။

၂၁။ သာသနာကျိုး သည်ပိုးဆရာ၊ ပရိယတ်ငြမ်း အစွမ်းကုန်သာ၊ ညာဏ်ဝါထွင်းဖောက် ကဲမောက်ရှိန်ဝါ၊ လိုရင်းချုပ် အဟုတ် သိမြင်ကာ။

၂၂။ ပရိယတ်ကျိုး သင့်နိုးချိန်သော်၊ ပဋိပတ္တိ စွမ်းရှိအလျော်၊ ကောစာတမ်း ကျွတ်လမ်းကိုမြော်၊ စွမ်းအန်ထုတ် အဟုတ် ကြိုးပြန်သော်။

၂၃။ ပါရမီပြည့်ပိုး သားကြီးဘုန်းမော်၊ ချိန်ခါမဖင့် လွယ်လင့် ညာဏ်ပေါ်၊ အဋ္ဌာကိုယ်ကျိုး ပြည့်ဖြိုးလေသော်၊ ဝေနေယျ မျှားစွာ့ ကောင်းကျိုးမြော်။

၂၄။ မမ္မစည်ကြီး ရိုက်တီး ဘယ်ညာ၊ မြိမ့်မြိမ့်မစဲ အောင်ပွဲ ဇေယျာ၊ နေ့နေ့ညည ကာလမခြား၊ ပုံထင်ဟီး ပွဲကြီးဆင်တဲ့ ကာ။

၂၅။ ရောက်လာကုန်ငြား အမျှားဝေနေ၊ ကျင့်နည်းကြွံနည်း သိပ် သည်း သေခွေ၊ မမ္မကွန်လျှောက် မွေနှောက်ရှာဖွေ၊ ဟော ညွှန်ပြ အဂ္ဂညာဏ်ကဝေ။

၂၆။ ဘယ်သို့ကျင့်ကြ ဘယ်ကဘယ်ပုံ၊ သတိပဋ္ဌာန်လမ်း ကျင်ခန်း ဖုံဖုံ၊ နိသျှည်းနှင့် စည်းမျဉ်းကုံလုံ၊ ညွှန်ကာပြ နယညာဏ်စွယ်စုံ။

၂၇။ ဒီပုံကျင့်စမ်း ရှစမ်းဒီလို၊ အတ်ကျမှတ်ကျ ဟောပြသကို၊ သစ္စာလေးချက် ခွဲဝက်ညာဏ်ပို၊ သဘာဝမွေ အလျှော်ကို။

၂၀။ ဒုက္ခစက်ကြီး ဘယ်နည်းလက်တွေ့၊ ကိုယ်တွေ့သက်ငင်း ဉာဏ်ရှင်း သိစေ၊ ကြောင်းကျိုးကွင်းဆက် ဖောက်ဖျက်ကာလေ၊ ခန္ဓာဆိုက် အံကိုက်ဖြစ်စဉ်နေ။

၂၉။ ပဋိစ္စစက် မပျက်တန်တန်၊ ကြောင်းကျိုး ဆုံကြိုက် အခိုက်ပေါ်ဟန်၊ ဖြစ်ပြီးလျှင်ပျက် ဖြစ်ပျက်ကြိမ်ဖန်၊ ခန္ဓာစက် ခွဲဝက်ဉာဏ်ကြီးပြန်။

၃၀။ သံဝေဓမ္မ နယ စုံစွာ၊ ပမ္မာ ပမည်း ဆောင်ပြီးလေကာ၊ သက်သေစံပြု ဝတ္ထုဖြာဖြာ၊ တင်ကာပြ ဓမ္မပဒေသာ။

၃၁။ ခန္ဓာအရှိ မှန်သိစေရော်၊ ဖြစ်စဉ်ကိုက်တိုင်း မဆိုင်းထုတ်ဖော်၊ တိကျ-ဂန ဟောပြနိုင်သော်၊ တစ်ထိုင်တွင်း အလင်းဉာဏ်မြတ်ပေါ်။

၃၂။ လူတို့ဖြစ်ခန်း အဆန်းတကြယ်၊ တွင်းပြင်ကိုင ထုတ်ဟ သွယ်သွယ်၊ အံ့ဖွယ်မိုးမောက် ထွင်းဖောက် ဉာဏ်ကျယ်၊ ဟောနိုင်တတ် ရင်သတ်ရှုမောဖွယ်။

၃၃။ ဒုက္ခလက်ငင်း ပက်ပင်းသိစေ၊ တဏှာနှောင်ဖွဲ့ မငွဲ့ပယ်ချေ၊ နိဗ္ဗူဉာဏ်ရောက် မျက်မှောက်ပြုစေ၊ မဂ္ဂင်မြတ် ပွားလတ် ဉာဏ်မြူတေ။

၃၄။ ထက်မြက်ဉာဏ်ကဲ နက်နဲဉာဏ်စုံ၊လျှင်မြန်စူးရှ ကြီးစွာ ဉာဏ်ဟုန်၊ ထုထယ်မြင့်မား ဟောကြား မကုန်၊ လွှန်ကျယ်ပြန့် ပြည်မြန့် တိုင်းလုံးတုန်။

၃၅။ ဟောချွတ်ချေရေး ပဂေးဉာဏ်ပိုင်၊ သတ္တဝါများ သနားစိတ်ခိုင်၊ သာသနာတွင်း နေမင်းဂုဏ်ပြိုင်၊ ကိုယ်တော်စား နောက်ပွား မလွယ်နိုင်။

၃၆။ ဒုက္ခလောင်မီး ဖိစီးငြိုငြင်၊ သတ္တဝါများ သနားဉာဏ်ဝင်၊ ကိုယ်ကျိုးဖက်ထား ချိန်အားမမြင်၊ ကယ်ချွတ်ရေး လေဆေး ကြောင့်ကြအင်။

၃၇။ တစ်ကိုယ်တော်တည်း ကိုယ်ချည်းကျိုးသာ၊ မငဲ့ထောက်အား အများတွက်တာ။၊ ကယ်ချွတ်ဖို့ရေး ကြံတွေးလျက်သာ၊ ကိုယ်တော်မြတ် နှန်းရပ်စံဝင်ရှာ။

၃၇။ တစ်သိုး နှစ်လေး နောင်ရေးမလျော်၊ သိတင်းကျွတ်ပွဲ သိမ့်သဲ့ အုတ်ကျော်၊ လဆုတ်လေးကျ ဗုဒ္ဓနေ့သော်၊ ကိုယ်တော်တည်း မြိုက်ထိး နိဗ္ဗူပျော်။

(က) အနိစ္စာဝတ သင်္ခါရာ၊ ဥပ္ပါဒဝယ ဓမ္မိနော၊
ဥပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ၊ တေသံ ဝူပသမော သုခေါ။

အကြောင်းပြုပြင်, ဖန်စီရင်မှု, ဖြစ်ပေါ်ရသည့်, ငါးဝခန္ဓာ, ရုပ်နာမ်မှာကား, မှန်စွာပကတိ, မြဲမရှိတည့်၊ ဖြစ်ပြီးပျက်ပြန်, ဖေါက်မို့, အမှန်ဓမ္မ, သဘာဝရှင့်၊ ဉာဏချင့်လောင်း, ရှုမြင်ကောင်းသော်၊ အကြောင်းထိုက်ကာ, ဖြစ်ပြန်ပါ၍, လျင်စွာ ခဏ, ချုပ်ပြန်ကြတည့်၊ နှစ်ဝဖြစ်ချုပ်, ငါ-မဟုတ်သည့်, ဤ ရုပ်နာမ်သာ, ဖြစ်ပျက်ပါကြ, ထိုဒုက္ခတို့, လုံးဝငြိမ်းရာ, ကုန်ဆုံးရာဟု, ခေမာအမတ, နိဗ္ဗာနကား, သုခမှန်စွာ, လွန် ချမ်းသာသည်, မြန်စွာရောက်မှ အေးမည်သောဝ်။

၃၉။ မိုးကုတ်ထေရ နာမအကျော်၊ မင်္ဂလာတိုက်ယာပိုက်ရှင်ပျော်၊ ဂန္ထာဝိပဿ် နှစ်ရပ်ဉာဏ်မြော်၊ အားအန်ခံ လွန်ကဲလုလ္လဲတော်။
၄၀။ ဒုက္ခဝဋ္ဋကြီး လောင်ပြီးထိန်ဝေ၊ ထိုထိုဘုံဘဝ နန္တသခေျ်၊ ထပ်ပြန်တလဲ ခံမြဲခံချေ၊ ကရွတ်ကင်း မယှဉ်းပုံအနေ။
၄၁။ ကိုယ်တော်ဉာဏ်အတွင်း ထင်လင်းသိတာ၊ သတ္တဝါများ သနားလွန်စွာ၊ မိဘထက်ကဲ ထန်သဲစေတနာ၊ ဟောညွှန်ပြ ကျနလွန်သချာ။
၄၂။ နေ့နေ့ညည ကာလမရေ၊ ကျွတ်တမ်းလွတ်ခန်း အစွမ်းကုန်ချေ၊ မင်္ဂလမ်းဘက်ကမ်း တက်လှမ်းနိုင်စေ၊ လုလ္လဲကြီး အားသီး ဆောင်ရွက်ပေ။
၄၃။ သတ္တဝါချွတ်ရေး ကြံတွေးကိုယ်တော်၊ အားရနိုင်ဘဲ လွန်ကဲ ဉာဏ်မြော်၊ ဟောတုန်းပြောတုန်း ထေရ်ဘုန်းမပျော်၊ စံကာ ကြွ အမတ ရွှေပြည်တော်။
၄၄။ ဟောချွတ်ချွေရေး စစ်ဆေးကာသာ၊ ကျေနပ်နိုင်ဘဲ လွန်ကဲ သဒ္ဓါ၊ ဟောဆဲပြောဆဲ ဟောဆဲမှာသာ၊ စံဝင်ငြိမ်း အောင်း ကိန်း နိဗ္ဗူတာ။

၄၅။ လူရှင်အလုံး အုံးအုံးဆူညံ၊ လှိုက်လှဲရှိက်ကြဲ ငြိမ့်သဲနဘံ၊ မြင်းမိုရ်တောင်ကြီး ဘယ်နည်းပြိုဟန်၊ ဝမ်းသာဆဲ ဝမ်းနည်းငါတို့ကံ။

၄၆။ ရန်ကုန်တက္ကအမရ ထိလာ၊ မိုးကုတ်-မန္တလေး နီးဝေးရောက်လာ၊ တပည့်အပေါင်း သိန်းသောင်းများစွာ၊ လွန်နှမြောချိန်စောနိဗ္ဗူတာ။

၄၇။ အရှင့်တရား ထောင်နားလွန်ကြည်၊ သဒ္ဓါရှိန်မောက် လာရောက်ကုန်ပြီ၊ ထောင်သောင်းပရိသတ်မပြတ်ဝေစည်၊ တပည့်များ ကဲ့ကားခေလှသည်။

(ခ) ဒုက္ခာဝတ သင်္ခါရာ, ဥပ္ပါဒဝယ ဓမ္မိနော၊
ဥပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ, တေသံ ဝူပသမောသုခေါ။

အကြောင်းပြုမြင်, ဖန်စီရင်မှု, ဖြစ်ပေါ်ရသည့်, ငါးဝခန္ဓာ, ရုပ်နာမ်မှာကား, မှန်စွာပကတိ, ဆင်းရဲဘိတည်း၊ ဖြစ်ဘိပျက်ပြန်, ဝေကံမို့, အမှန်ဓမ္မ, သဘာဝရှင့်၊ ဉာဏချင့်လောင်း, ရှုမြင်တောင်းသော်, အကြောင်းတိုက်ကာ, ဖြစ်ပြန်ပါ၍၊ လျင်စွာတခဏ, ချုပ်မြန်ကြတည့်, နှစ်ဝဖြစ်ချုပ်, ငါမဟုတ်သည့်, ဤရုပ်နာမ်သာ, ဖြစ်ပျက်ပါကြ, ထိုဒုက္ခတို့, လုံးဝငြိမ်းရာ, ကုန်ဆုံးရာဟု, ခေမာအမတ, နိဗ္ဗာနကား, သုခမှန်စွာ, လွန်ချမ်းသာသည်, မြန်စွာရောက်မှအေးမည်သော်။

၄၈။ ခန္ဓာငါးဝ ရကြသူမှန်၊ ငါပဲသူပဲ မှတ်စွဲနေပြန်၊ အနိစ္စကြီး ပျက်စီးကြုံပြန်၊ ပူပန်ကြ ဒုက္ခကိုယ်လုံးလျှံ။

၄၉။ ခန္ဓာသူသတ် ငါမှတ်ထင်နေ၊ အမြတ်တလေး အရေးပြုချေ၊ ကျင်နာနှိပ်စက် ခံခက်ကြုံတွေ့၊ အမယ်တ ဒုက္ခပင်လယ်ဝေ။

၅၀။ ခန္ဓာငါးဝ အတ္တထင်ယောင်၊ ကိုယ့်လိုမလိုက် အကြိုက်မဆောင်၊ သူ့သဘောမို့ ရွှေလျှောခါနေဆောင်၊ ပူပန်ကြ ဒုက္ခမြင်းမိုရ်ခေါင်။

၅၁။ ဖြစ်ပျက်သမျှ အနိစ္စမှန်သည်၊ ဖြစ်ပျက်ချေက ဒုက္ခပြီပြီ၊ ဖြစ်လိုက်ပျက်လိုက် ကိုယ်ကြိုက်မညီ၊ အနတ္တ ကင်းပနှစ်အဆီ။

၅၂။ ဖောက်ပြန်ခံစား မှတ်သားပွဲပြင်၊ သိကြံဖွဲ့ထား ငါးပါး ထင်ထင်၊ ဖြစ်ပျက်ဆင်းရဲ ထူးကဲဉာဏ်ယှဉ်၊ စိတ်အကြိုက် မလိုက်ဘယ်ခါပင်။

(ဂ) အနတ္တာဝတ သစ်ါရာ, ဉပ္ပါဒဝယဓမ္မိနော၊ ဉပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ, တေသံ ဝူပသမော သုခေါ။

အကြောင်းပွဲပြင်, ဖန်စီရင်မှ, ဖြစ်ပေါ်ရသည့်, ငါးဝခန္ဓာ, ရုပ်နာမ်မှာကား, မှန်စွာပကတိ, နှစ်မရှိဘဲ, ကိုယ်၏လိုရာ, ဘယ်မပါတည်း, ဖြစ်လာပျက်ပြန်, ဝေက်မို့, အမှန်ဓမ္မ, သဘာ ဝရှင့်၊ ဉာဏချင့်လောင်း, ရှုမြင်တောင်းသော်, အကြောင်း တိုက်ကာ, ဖြစ်ပြန်ပါ၍, လျင်စွာတခဏ, ချုပ်ပြန်ကြတည့်, နှစ်ဝဖြစ်ချုပ်, ငါမဟုတ်သည့်, ဤရုပ်နာမ်သာ, ဖြစ်ပျက် ပါကြ, ထိုဒုက္ခတို့, လုံးဝငြိမ်းရာ, ကုန်ဆုံးရာဟု, ခေမာအမတ, နိဗ္ဗာနကား, သုခမှန်စွာ, လွန်ချမ်းသာသည်, လျင်စွာရောက်မှ အေးမည်သောဝ်။

၅၃။ ဖြစ်ငယ်ပြစ်ကြီး သီးသီးမြွာမြွာ၊ ကျေပါ စေကြောင်း လျှောက်တောင်းပန်ထွာ၊ ကြိမ်ကြိမ်မြတ်နိုး ရှိခိုးဝန္ဒနာ၊ တပည့်ပေါင်း ဆယ်ချောင်းဦးနှိမ်ကာ။

၅၄။ ဆရာဂုဏ်ထူး ကျေးဇူးကိုမြော်၊ တို့ဆပ်နိုင်ရေး ကြံတွေး ရည်ရော်၊ တပည့်တော်များ မခြားဘယ်သော်၊ မာန်ကုန် လျှော့ ကန်တော့လွန်ပူဇော်။

၅၅။ ဦးမရဏမင်း လက်တွင်းနိုင်ငံ၊ သေပြီး သေဆဲ သေပွဲကြိမ်ဖန်၊ ဘုရားသော်လဲ ရှောင်လွှဲမချန်၊ တို့အတူပဲ ဒို့လဲ သေရမှန်။

၅၆။ ငယ်သော ကြီးသော လိုက်ရောမညှာ၊ လူမိုက်ပဏ္ဍိ မရှိဘယ် ဝါ၊ အားလုံးသတ္တ သေရမည်သာ၊ ကုန်မကြွင်း သေမင်း ခေါင်းဆိုက်ရာ။

၅၇။ သတ္တာမှန်က သေရပေမည်၊ ခုပင်သေဆဲ သေပွဲကြုံပြီ၊ ထိုနည်းတူလဲ ငါလဲ သေမည်၊ သေမည်လား ယုံမှားမရှိပြီ။

(ဃ) သဗ္ဗေသတ္တာ မရိဿန္တိ၊ မရန္တိစ မရိံသုစ၊
တထေဝါဟံ မရိဿာမိ, ဧတ္ထမေ နတ္ထိသံသယော။

ခပ်သိမ်း သတ္တဝါ, အားလုံးမှာကား, မရဏာမင်း, သူ့လက်တွင်းမို့, မယွင်းမှန်စွ, အနိစ္စချည့်, ကာလဘယ်ခါ, ဘယ်နေ့မှာဟု, ချိန်ခါနေ့ရက်, ချိန်းအချက်လျှင်, သက်သက်ဘယ်မှာ, မရှိပါခဲ့, မှန်စွာမုချ, သေကုန်ရလိမ့်, မြင်ကြခုပင်, သေပွဲဝင်ခဲ့, ယခင်ရှေးခါ, ထိုနည်းသာပ, သေလွန်ကြတည့်, ထပ်မျှနည်းတူ, ငါတမူလည်း, မဟူ နေ့ ည, မှန်သေရအံ့, သေရမည်လား, မသေလားဟု, ယုံမှား ဒွိဟ, ကင်းစင်ပ၏, မုချမှန်စွာ, သေရမှာကား, သတ္တဝါထုံးတမ်း, စဉ်လာတမ်းမို့,ဖြောင့်တန်းသေချာ,မလွတ်ပါသည်, လျှင်စွာကိုယ်ကျိုးရှာမှသော်။

၅၈။ သေဘေးကြောက်ပြား အများသူငါ၊ အခွင့်ကြုံတောင်းလွတ်ကြောင်းကိုရှာ၊ အမတာကမ်း တက်လှမ်းနိုင်ရာ၊ ချက်တဖြုတ် ကျင့်ထုတ်ဘာဝနာ။

၅၉။ သေဘေးကြောက်ပြား အများသတ္တဝါ၊ အချိန်မနှောင်းလွတ်ကြောင်းကိုရှာ၊ အမတာပန်း ဆွတ်လှမ်းနိုင်ရာ၊ လျှင်တစ်ခုတ် ကျင့်ထုတ်ဘာဝနာ။

၆၀။ ခနမြတ်ကောင်း ကြုံတောင်းကြုံလာ၊ ကုန်လွန်ကျော်လွှားမသွားစေရာ၊ ကျော်လွန်ချေက နောင်တပူဆာ၊ ကိုယ့်စီးပွားတအားထုတ်၍ရှာ။

၆၁။ ဗုဒ္ဓုပ္ပါဒ နဝမခါလျှင်၊ ကြိုက်ကြုံလက်တွေ့ ယနေ့ ခုပင်၊ နိဗ္ဗူကြွင့်နိုး ဖြောင့်တန်းမဂ္ဂင်၊ လျှင်တစ်သုတ် စွမ်းထုတ်ကျင့်ခန်းဝင်။

၆၂။ ပမာဒလျှပ်ငန်း အစွမ်းထက်သန်၊ ယနေ့လက်ငင်း ချက်ချင်းလုပ်ရန်၊ နက်ဖြန်မရှေ့ သေနေ့ လျှင်မြန်၊ သေမည့်ရက် ချိန်းချက် မရှိပြန်။

၆၃။ ရင်ဝ လှံစူး ထိပ်ဦး မီးလောင်၊ ပမာပုံထား တရားကျင့်ဆောင်၊ သက္ကာရန်မီး ပျက်စီးချေအောင်၊ အားအန်ကြီး ဉာဏ်မီး လူလွဲခေါင်။

(၅) အဇ္ဈေဝကိစ္စံ အာတပ်, ကောဇညာ မရဏံ သုဝေ၊
နဟိနော သင်္ကရံတေန, မဟာသေနေန မစ္စုနာ။

အဇ္ဈေဝ- ဒီ ယနေ့ပင်လျှင်၊ ကိစ္စံ-မလုပ်လျှင် မဖြစ်သည့် ဝိပဿနာဘာဝနာ အလုပ်ကိစ္စကို၊ အာတပ်- ဆောစွာလျှင်စွာ မဆုတ်တန်း ပြုလုပ်ကြရာ၏။ အာတပ်- အရှိုးပင် ကျေပစေ အရေပင် ခန်းစေတော့ တကယ်တမ်း ပြုလုပ်အပ်ပေ၏၊ သုဝေမရဏံ- နက်ဖြန် သဘက် တစ်ရက်ရက်၌ ဆက်ဆက်မုချ သေရမည့် အချိန်ကာလကို၊ ကောဇညာ- အဘယ် သူငါ သိနိုင်ပါအံ့နည်း၊ နော- ငါတို့အား၊ နော- ပုဂ္ဂိုလ် သဘာယမို့၊ အန္တိမပ္ပဇာ - ဤနေရာသို့ စုကာ ဝေးကာ ဆိုက်ရောက်လာကြသား ကျွန်ုပ်တို့အား၊ မဟာသေနေန- စစ်သည်အင်အား အလွန်ပင် များပြားလှပေသော၊ တေန မစ္စုနာ- မရဏစစ်ခင်း ထိုသေမင်းနှင့်၊ နဟိန ဧဝသင်္ကရံ- နေ့ရက် အချိန်နာရီကို ချိန်းဆိုထားခြင်း မရှိသည်မှာ အမှန်ပင်ဖြစ်ပါချေသည်တကား။



**အမရပူရမြို့ မင်္ဂလာတိုက်ဟောင်း**
**အဂ္ဂမဟာပဏ္ဍိတ**
**ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး**
**နိဗ္ဗူတာမြိုက်နန်း ကြွလမ်း စံတော်မူရာ**
**၁၃၂၄-ခု၊ ပြာသိုလဆန်း (၉)ရက်နေ့မှ ( ၁၅)ရက်နေ့အထိ**
**ခုနစ်ရက်တိုင်တိုင် ကျင်းပ ပူဇော်အပ်သော အန္တိမဈာပန**
**သာခုကီဠန သဘင်ပွဲတွင် ဖတ်လျှောက်ပူဇော်အပ်သော**

## "တေဇာတော်ဘွဲ့ မင်္ဂလာ ဩဘာရတုပိုဒ်စုံ"

၁။ မြေမြတ် ပထဗျာ၊ ဇမ္ဗူချာတံည့်၊ တေဇာပဝင်း၊ ဘုန်းရောင်လင်းသား၊ သတင်းတော်ဂုဏ်၊ ကျေးဇူးဟုန်တို့၊ ရိုက်ခြုံဘဝဂ်၊ လွှမ်းကာတက်ရှင့်၊ မြတ်မျက်ရတနာ၊ ထေရ်ဆရာတည့်၊ ပညာကဲလွန်၊ ဇာနည်မွန်မို့၊ ဘဒ္ဒန္တ ဝိမလ၊ နာမ လင့်ကျော်၊ မိုးကုတ်ဆရာတော်ဟု၊ သားတော်ထိပ်တင်၊ ဒို့ဘုန်းရှင်ကား၊ မြန်ခွင့် ကောဇာ၊ ထောင့်နှစ်ရာမှ၊ စွန်းလာ တုံလစ်၊ ခြောက်ဆယ့်တစ်တည့်၊ ထွန်းသစ်ဟံသ၊ နတ်တော်လ၏၊ ပြည့်ဝကျော်တက်၊ဆယ့်တစ်ရက်မို့၊ လျံစက်ရှိန်ငွေ၊ ဆင်မင်းနေ့ဝယ်၊ စုတေကြွကာ၊ထက်ဗြဟ္မာမှ၊ မြတ်စွာသကျ၊ သုံးလူ့ဘ၏၊ နဂ္ဂမိန့်မှာ၊ သာသနာကား၊ဝန်တာချို့ဝက်၊ ငါ့အတွက်ဟု၊ ထမ်းရွက်မည့်အား၊ကြုံးသံ ဝါးလျက်၊လူ့သားရိပ်ဇါ၊ဖွားမြောက်လာရှင့်၊ ချိန်ခါရွယ်သင့်၊ သံဝေဆင့်၍၊ ဉာဏ်မြင့်လောင်းလျာ၊ သူတော်စွာကား၊ ဿရာနှောင်တွင်း၊ ငြိုးငွေ့ပြင်း၍၊ ဇွတ်တင်း ရှုန်းခွာ၊ သာသနာတို့၊ ငယ်စွာ နို့လျက်းထမ်းဆောင်ရွက်ရှင့်၊ နည်းနည်းပညာ၊ အခြေပါအောင်၊ သုံးဖြာပိဋကတ်၊ အဋ္ဌကထာ ဋီကာအနု၊ မဓု ဂဏ္ဌိ၊ နေတ္တိမှုငြိမ်း၊ဆန်း အလင်္ကာ၊အဘိဓာဗျာကရဏ်း၊ကျမ်းအားလုံးကို၊ ထုံးသို့ကြိတ်ချေ၊ ရေသို့မွှေလျက်၊ ကွဲကွဲဝက်မျ၊ အောက်ထက်ဌှန်ဝါ,

သင်ယူကာဖြင့်၊ ဆရာနည်းကျ၊ လက်ထပ်ရဖို့၊ ကာသမြင့်ကြာ၊ ဆည်းပူးရှာခဲ့၊ ဉာဏ်ဝါလောက်လုံ၊ ကယ်ပြည့်စုံသော်၊ ခိုလှုံရောက်ကြ၊ များသိဿအား၊ သာသနာ့အုတ်မြစ်၊ ဖြစ်ကြီးဖြစ်အောင်၊ အားသစ်စိတ်စော ချပို့သောမို့။

ဒုလ္လဘော ပုရိသာဇညော, နသောသဗ္ဗတ္ထ ဇာယတိ၊
ယတ္ထသောဇာယတိ ဓီရော, တံကုလံ သုခမေဓတိ၊

လာရှိဒေသနာ, ဂါထာ မိန့်ခွန်း, ဩဘာညွန်းတည့်, ဥဒါန်းကမ္ဘာ တည်စိမ့်သောဝ်။

၂။ ထေရ်မြတ်ဆရာ, တို့ဘုန်းလျှာတည့်, ရွှန်းကြာ သမယ, ကြီးလို့လသား, အမရပူရ, ဘူနက်သန်မို့, နဝခ်ခုံငဲပြီး,တောင်မြို့ကြီးဝယ်, အုံ့ချီးစသာ, မင်္ဂလာရာမ, ဝိဟာရဌ်, ယာပထညီစွာ, ကျိန်းဝတ်ကာရှင့်, ငယ်ခါကျွန, ဆိုဆုံးမသား, သင်ပြသိပ်သည်း, နိဿျည်းဖြင့်, စည်းမျဉ်းကောင်းစွာ, ငယ်ဆရာမို့, သညာဖွဲ့ထုံး, ဆရာကြီးအုန်း၏, လက်ရုံးတစ်ဆူ, ဖြစ်တော်မူသား, ဝိဒူပါမောက်, ကဝိမြောက်ခဲ့,မုံသောက် အာဇာ, ထေရ်ဆရာကား, သုံးဖြာပိဋကတ်, ငါးရပ်နိကယ်, ပြောကျယ်ဓမ္မကွန်, ကျမ်းဂန်ဂန်ဝယ်, ဖန်ဖန်မွေနှောက်, တုန်ချားချောက်အောင်, ခေါက်ခေါက်ပယ်ချာ, ဉာဏ်ပတျာဖြင့်, ခါခါစေ့ငု, တုံ့ပြန်ရှုလျက်, ဂရုကထ, စိုးကြောင့်ကြသား။

အတ္တာန မေဝ ပဌမံ, ပဋိရူပေနိဝေသယေ၊
အထ ညမနုသာသေယျ, နကိလိဿေယျ ပဏ္ဍိတော။

မိန့်ဟောညီစွာ၊ သင်ပြီးခါတည့်၊ များစွာသိဿ၊ ဝေနေယျတို့၊ ဒုက္ခပတ်ချာ၊ ပဋိစ္စာဝယ်၊ ဖန်ခါဇာတိ၊ ဇရာဗိလျက်၊ ဗျာဓိမရဏ၊ တွင်းဆုံးကျအောင်၊ လေးဝအပါယ်၊ ဝက်ဝက်ကယ်မှု၊ ကြီးကျယ်ဆင်ရဲ၊ ခံရနည်းကို၊ တစ်လဲလဲ့လုံ၊ ဉာဏ်စွမ်းဟုန်ဖြင့်၊ မြင့်တုံလောလော၊ ရင်သတ်မောရှင့်၊ အဟောဒုက္ခ၊ ကြောက်ဖွယ်စွာ့တည့်၊ ကာလဖင့်နှေး၊ လျစ်လျူရှုရေးဖြင့်၊ အေးဆေးခုခါ၊ မသင့်ရာဘူး၊ လျင်စွာကယ်မ၊ ဟောချွတ်ရအံ့၊ ကြောင့်ကြသောထွေ၊ တို့ဘုန်းဝေကား။

ကိံ မေ ဧကေန တိဋ္ဌေန, ပုရိသေနထာမဒဿိနာ၊
အရဟတ္တံ ပါပုဏိတွာ, သံသာရေဃံ ပဇံ ပဇံ။

ကဲလွန် မေတ္တာ၊ ရှိုက်ချိုးကာလျှင်၊ ဒေသနာ ရွှေညွှန်း၊ ဟောဖော်ညွှန်းသည်၊ မြိုက်နန်းအမတာ စည်စိမ်သောင်။

၃။ နေနတ်ပဝရာ၊ မြတ်ဆရာတည့်၊ ဒီပါလေးလီ၊ ကွန့်မြန်း ချိုသို၊ ဇာနည်မြတ်ကျော်၊ တို့ဘုန်းမော်ကား၊ ရှင်တော်မာရဇီ၊ တုမရှိ ၏၊ တရိုသြဝါ၊ သာသနာ့ဝယ်၊ နှစ်ဖြာဓုရ၊ ကျင့်သုံးဝဖြင့်၊ သိက္ခာ များမြောင်၊ စွမ်းကုန်အောင်လျှင်၊ ဘုန်းခေါ် ဇိနေ၊ ကျေးဇူး တော်ကို၊ မျှော်ခေါ် လေးမြတ်၊ ပေးကာ ဆပ်ရှင့်၊ ထူးမြတ်ပဏိ၊ စိတ်တော်ရှိမို့။

ယေကေစိ ဩသဓာလောကေ, ဝိဇ္ဇန္တိဝိဝိဓာ ဗဟုံ၊
ဓမ္မောသဓ သေမံ နတ္ထိ၊ ဧတံ ပိဝထ သာဝေါ။

သောသောရောက်လှာ၊ များသိသာနှင့်၊ ဒါယကာ ဒါယိ ကာမ၊ သာဝကစားစား၊ ဝေနေမျှားကို၊ သနားရွေးရွှ၊ မေတ္တာမှုဖြင့်၊ ကြီးထုပညာ၊ ဖြန့်ကြက်ကာလျှင်၊ မခြာ နေ့ညဉ်၊ ကြိုးလုလ္လသား၊ ဓမ္မ စည်ကြီး၊ ပဲ့တင်ဟီးအောင်၊ ရိုက်တီးခတ်လှဲ၊ ချိမ့်ချိမ့်သဲရှင့်၊ နက်နဲ သစ္စာ၊ ခွဲစိတ်ဖြာလျက်၊ ပဋိစ္စာဓမ္မ၊ သံဝေဂလည်း၊ ကျနတိုက်ဆိုက်၊ ဖြစ်စဉ်ကိုက်လျှင်၊ စရိုက်ခြင်းရာ၊ ဥပမာစုစု၊ ဝတ္ထုထွေထွေ၊ သက် သေသာကေ၊ သဘာဝအရှိ၊ မိမိခန္ဓာ၊ ဉာဏ်ရောက်လာအောင်၊ ကောင်းစွာဝေခွဲ၊ ဟောညွှန်းဆဲတည့်၊ အကဲကွဲမြင်းမိုရ်၊ တောင်ကြီး ပြိုသို၊ မှိုခိုယွင်းမဲ့၊ ကိုးရာမဲ့ရှင့်၊ တွက်ဖွဲ့ဩဇာ၊ ထောင့်သုံးရာမှ၊ စွန်းလာခဲ့ရေး၊ နှစ်ဆယ့်လေးတည့်၊ ပွရေးလက်ငင်း၊ ကျွတ်သီတင်း ရှင့်၊ အလင်းကွယ်ပျက်၊ ဆုတ်လေးရက်မို့၊ မွန်းစက်ချိန်ကျ၊ နေ့ဗုဒ္ဓလျှင်။

ဗျာယာထဘော မာ ပမာဒတ္တု, မာပန္တာ ဝိပ္ပဋိသာရိနော၊
အဟုဝတ္တယံ့ ဝေါအမှံ, အန္တိမ အနုသာသနိ။

[illegible] သာကီဘုန်းဟေ့ ချိန်ခါစေ့သဖြင့်၊ မမွေ့ ခန္ဓာ လူ[illegible]ငြားနေ့ မွှာသား၊ အမတာဟူ နိဗ္ဗူကြွင့်နှန်း အရောက် မြန်းသည့်၊ လူနှန်းဖြဘာ စည်ငြိမ့်သော်ဝ်။

မှတ်ချက်။ ဤ ဘုန်းတော်ဘွဲ့ပူဇော, မင်္ဂလာ ကထာများကို ဆရာတော်ဘုရာကြီး၏ တပည့်တစ်ဦးဖြစ်သူ မိတ္ထီလာ ဦးမြင့်ဆွေက ရေးသား စီကုံး၍ မိတ္ထီလာမြို့ ဦးကျော် မောင်-ဒေါ်စန္ဒီ အမှူးပြုသော တပည့် ဒါယကာ- ဒါယိကာမများ အဖွဲ့က အလှူည့်ကျ ဖတ်လျှောက် ပူဇော်ကြပါသည်။



**အမရပူရမြို့ မဟာ်လာတိုက်ဟောင်း**

**အဂ္ဂမဟာပဏ္ဍိတ**

**ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချတော်မူရာ**

**ထီးဖြူတော်ဖွင့် အခမ်းအနားတွင် ဖတ်ကြား**

ပူဇော်အပ်သော ဘုန်းတွဲပူဇာ ရတနာ ဂါထာ

ဝိမလံ ဝိမလုံ ကာရုံ,
မဂ္ဂံ မဂ္ဂံ သုဒေသကံ၊
လဟု ဆန္ဒာ နုရူပေန
ထေရံ ပူဇေမ ခမ္မိကံ။

ဝိမလံ—ပဋိစ္စစကြာ ဝဋ်သံသာဝယ် ခန္ဓာကိန်းလတ် အရှုပ် ဇာတ်ဖြင့် မြုပ်တတ်မျောစေ ကိလေသာ အယုတ်တွေကို နင်းချေ တိုက်ဖျက် ဉာဏ်လက်နက်စွဲကိုင် ဇွဲခိုင်ခိုင် ကျင့်သုံးသဖြင့် နှလုံးခေါတ် စင်ဖြူ အပူတွေ ငြိမ်းအေးလျက် ညစ်ကြေးကင်းကွာ စင်ကြယ်စွာ လည်း ရှိပေထသော၊ ဝိမလံ–ညစ်ကြေးကင်းကွာ စင်ကြယ်စွာရှိသ ဖြင့် သမုတိဂုဏ်လျှံ ဘဒ္ဒန္တဝိမလ ထေရဘုန်းမော်ဘွဲ့အမည်တော်လည်း ရှိပေထသော၊ ဝိမလံ—ညစ်ကြေးကင်းကွာ စင်ကြယ်စွာရှိသည်၏ အဖြစ်ကြောင့်၊ တပည့်များစွာ ဒါယကာ ဒါယိကာမ သာဝက အစားစား ဝေနေယျ အများတို့အား ဆိုးရွားညစ်ထေ ဆယ်ကိလေမှ စင်စေဆေးကြောနေ့ ညဉ့်သောလျှင်၊ ဓမ္မာသဓ–အနတ္တဝိပဿနာ မြိုက်သြဇာကို ဝေကာတိုက်ကျွေး ဟောချတ်ရေးဖြင့် ညစ်ကြေး လွတ်ကင်း စင်ကြယ်ခြင်းကို၊ (ဝါ) ညစ်ကြေးကင်းပ စင်ကြယ် ခြင်း ရှိကြလေအောင်၊ ကာရုံ— နှစ်ပေါင်းများစွာ သုံးဆယ်ကြာ– ဉာဏ်ဝါ ဆိမ်း မေတ္တာကြီးဖြင့် အားသည်း ကြိုးကုတ် လွန်အား ထုတ်၍ အဟုတ်မြဲခိုင် ပြုစွမ်းတော်မူနိုင်ပေထသော၊ မဂ္ဂံမဂ္ဂံ၊ ၆

အမင်္ဂ—ဘဝများစွာ သံသရာက အဝိဇ္ဇာမှောင်တွင်း မိုက်တသင်းမို့ အလင်းမရ ကြီးဒုက္ခဝယ် ရှမ်းဆ ဝိုးဝါး တီကောင်သွားလျှင် လွဲမှား ကြိမ်ဖန် လမ်းမှန်မရ သံသရာ့ခရီးသွား ဒုက္ခသည်အများတို့အား ဤကား လမ်းလွဲ ရှောင်သွေဖဲသော်၊ ဤသို လမ်းမှန် သွား ကြရန်တည့် ဖန်ဖန်ဆင်းရဲ ဒုက္ခဝဲမှ ခွာရှုလွတ်ကြောင်း မဂ်လမ်း ကောင်းနှင့် မကောင်းပယ်ရန် လမ်းနှစ်တန်ကို၊ သုဒေသကာ— အကြောင်းနှင့်အကျိုး ဆင့်ဆင့်ဖြိုးလျက် ပွားတိုးစဉ်ဆက် ခန္ဓာစက်၌ ဖြစ်ပျက်ဒုက္ခ သဘာဝဖြင့် ကျနသေချာ ဖွင့်ထုတ်ကာလျှင် ခြင်း ရာစေ့စုံ ကိုယ်တွေ့ကြုံလျက် ဉာဏ်ဟုန်တွင်းပေါက်၊ ခရီးရောက်အောင် ပြီးမြောက်ခွဲဝေညွှန်ပြတော်မူနိုင်ပေထသော၊ထေရ်-ပိဋကတ္တယဆောက၊ ဂန္ထကာရက၊ အဂ္ဂမဟာပဏ္ဍိတ၊ ထိုမှတစ်ဖြာ မဂ်လာရာမာဓိပတိ၊ ဝိပဿနာဒေသက၊ မဟာဓမ္မကထိက ပါကဋတစ်ဆူ ဖြစ်တော်မူသည့် ကျေးဇူးတော်ရှင် အရှင်မိုးကုတ်ဆရာတော်ဘုရားကြီးကို၊ ပူဇော်မ— ဖြစ်ကြီး ဖြစ်ငယ် သွယ်သွယ်ဝဝ စိုးစဉ်းမျှကို လုံးဝလျှော်လျှ ဖြစ် မယူဘဲ ကြည်ဖြူကြေအေး ခွင့်လျှင့်ပေးဖို့ မြတ်လေးသဖွါ ဦးညွှတ် ကာဖြင့် ပဏာချင့်မြော် ရှိခိုးပူဇော် ကြပါကုန်၏ဘုရား။

ဆန္ဒာနုရူပေန ဈာယထဘိက္ခဝေ မာပမာဒတ္ထ၊
မာပစ္ဆာဝိပ္ပဋိသာရိနော အာဟုဝတ္ထ
အယံဝေါ အမှာကံ အနုသာသနီ။

ရွှေခွန်းချီလျက်, သာကြည်ဟောဖော်, မိန့်ခွန်းတော်လာ, ဒေသနာ ညွှဝါဒ, ဘုရားရှင်၏ ဆန္ဒတော်အရ, အလိုတော်ကျ ဖြစ်ရ လေအောင်, ဆန္ဒနုရူပေန—

ဘုန်းကြီးတို့ တကာ-တကာ့မတွေ ပေါ့ပေါ့တန်တန် မနေ ကြနဲ့၊ ဝိပဿနာတရား အားထုတ်ကြ၊ မဂ္ဂင်အလုပ် လုပ်ကြ၊ အချိန်က သိပ်မရကြတော့ဘူး၊ ကြိုးစားကြ၊ သောခါနီးမှ နှလုံးမသာမယာ မဖြစ်ကြစေနဲ့၊ နောင်တ ကြီးစွာ မရကြ စေနဲ့၊ အခုနှယ် အချိန်အခါကောင်းတုန်း အခွင့် အခါ ရတုန်းမှာ မဂ်ရအောင် ကြိုးစားလိုက်ကြ၊ မဂ်ကမှ ကယ်နိုင်

ယူနိုင်ကြမယ်၊ မဂ်မရရင် ဒုက္ခကြီး လှလှရောက်တော့မယ် ဆိုတာ မှတ်လိုက်ကြ့ အစရှိသဖြင့် သတိပေးဆုံးမတော်မူအပ်သော အရှင်ဆရာတော်ဘုရားကြီး၏ အလိုတော်ကျ သဘောဆန္ဒနှင့် ညီညွတ်ရ လေအောင်၊ ဓမ္မိကံ-တံရားအား လျော်စွာ၊ ဓမ္မိကံ-ရွှေမှာ ဓမ္မ၊ နောက်က အနုပဋိပတ္တိ ညီဘိအလျော်မြတ်သောပူဇော်ခြင်းမျိုးဖြင့်၊ လဟုံ—ဘာကြောင့်ညာကြောင့် စိုးမနှောင့်စေလျက် ဘာတွက် ညာတွက် မငဲ့ကွက်သဖြင့် နေ့ရက်ရှည်ကြာ ချိန်ဆွဲပါ၍ ကွေ့ကာရှောင်ဖယ် ဆင်ခြင်တွေ မလဲတော့ဘဲ လွန်ကဲသဒ္ဓါ ဆောလျင်စွာဖြင့်၊ ပူဇေမ—ဝိပဿနာ ဆရာချမှတ် လမ်းစဉ်မြတ်ဖြင့် အဟုတ်အဟတ် ပတ်တကုတ်လျှင် မဆုတ်တမ်းသာ ကျင့်ထုတ်ကာ ပူဇော်ခြင်းဖြင့် လျှင်းလျှင်းမကြာ ပူဇော်ကြပါကုန်အံ့ ဘုရား။

မိတ္ထီလာဦးမြင့်ဆွေ
ရေးသားပူဇော်ပါသည်။



## နိဂုံး

ဤကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိစာတမ်းကို စီစဉ်ရေးသားရာတွင် စာရေးသူကိုယ်တိုင် သိသော အချက်အလက်များချည်းမကဘဲ, ဆရာတော်ဘုရားကြီး ဆွေမျိုးများ၊ ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်က အမြဲတမ်း ဝတ်ပြုနေကြရသူ လူကြီးများနှင့် တကာရင်း တပည့်ရင်းတို့ကို မေးမြန်းစုံစမ်းပြီး ရေးသားရပါသောကြောင့် အမှားများပါလိမ့်မည် မထင်ပါ၊ အကယ်၍ အနည်းငယ် ချို့ယွင်းတိမ်းပါးသောအချက်အလက်များ ပါကောင်း ပါပေလိမ့်မည်၊ သို့ပါ၍ အချက်အလက်ကို တိတိကျကျ သိသော ပုဂ္ဂိုလ်များသည် မိမိတို့သိရှိသည့်အတိုင်း ပိုသည်များကို ပယ်ဖျက်၍, လိုသည်များကို ဖြည့်စွက်ပြီး ပြုပြင် ဖတ်ရှုနိုင်ကြပါစေကုန်သတည်း။

ဤ ထေရုပ္ပတ္တိ စာတမ်းကို စီကုံးရေးသားရာ၌ ဆရာတော်ဘုရားကြီး ဟောကြားသော တရားအချို့ကို လုံးဝ ချန်လှပ်ထားခြင်းငှာ မဖြစ်နိုင်သော အကြောင်းကား.... ဆရာတော်နှင့် တရား၊ တရားနှင့်ဆရာတော် ခွဲခြား၍ မရနိုင်ပါ၊ ဆရာတော် ဘုရားကြီး၏ အဓိကအလုပ်မှာ မိမိကိုယ်တိုင် တရားအားထုတ်ခြင်းနှင့် တကာ— တကာမ အပေါင်းတို့အား ခန္ဓာဉာဏ်ရောက် တရားဟောခြင်းမျှသာ ဖြစ်၍ ဆရာတော်ဘုရားကြီး၏ ဘဝဖြစ်စဉ်နှင့် ဟပ်မိသော တရားအချို့ကိုသာ ဖော်ပြရခြင်းဖြစ်ပါသည်။

ဤထေရုပ္ပတ္တိနှင့်ကျင့်စဉ်တွင် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး ဟောကြားတော်မူခဲ့သော တရားတော်များအနက်, တရားအချို့မှာ မိုးကုတ်ဝိပဿနာ ပြန့်ပွားရေး အဖွဲ့ကြီးမှ လည်းကောင်း၊ ရန်ကုန်မြို့မိုးကုတ်ဝိပဿနာ ပြန့်ပွားရေး အဖွဲ့ကြီးမှ လည်းကောင်း၊ မိုးကုတ်ဝိပဿနာ ဒုလ္လဘဒေသနာ ဟောစဉ်ကျင့်စဉ် တရားတော် စာအုပ်များအဖြစ်ဖြင့် ထုတ်ဝေခဲ့ပြီးဖြစ်ပါ၍ ဤထေရုပ္ပတ္တိနှင့်တွဲ၍ ဖတ်ရှုကြပါရန် လေးစားစွာ နှိုးဆော်အပ်ပါသည်။

ပထမအကြိမ်မြောက် ထုတ်ဝေခဲ့သော ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိစာအုပ်မှာ စာမျက်နှာ ရွက်ရေများပြီး စာအုပ်တန်ဖိုး ကြီးလေးမည်ကို စိုးရိမ်မိပါသဖြင့် အချို့ဖြစ်စဉ်နှင့် တရားတော်များကို အကျဉ်းချုံး၍ ရိုက်နှိပ် ထုတ်ဝေခဲ့ပါသည်၊ သို့ပါ၍အများဆန္ဒအရ အကျဉ်းချုံးခဲ့သော ဖြစ်စဉ်နှင့် တရားတော်များကို ဤတတိယ အကြိမ်မြောက် ရိုက်နှိပ် ထုတ်ဝေအပ်သော ထေရုပ္ပတ္တိတွင် ပြန်လည်ဖြည့်စွက် တင်ပြအပ်ပါသည်။

ဤ ထေရုပ္ပတ္တိစာတမ်းကို စီစဉ်ရေးသားရာ၌ အကူအညီပေးကြသော ပုဂ္ဂိုလ်များအား အထူးကျေးဇူးတင်ရှိပါကြောင်း။

ဤထေရုပ္ပတ္တိစာတမ်းဖြင့် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်, ကျေးဇူးတော်များကို အာရုံပြုကာ ပူဇော် ကန်တော့လိုက်ပါသတည်း။

ကျော်သိန်း



ကျေးဇူးတော်ရှင်

အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တဝိမလ မဟာထေရ်မြတ်

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဩဝါဒများ

- ငါသည် မုချသေရမည်၊ အချိန်ပိုင်းသာလိုတော့သည်။
- အသေမဦးမီ၊ ဉာဏ်ဦးစီးပြီး ဝိပဿနာတရား အားထုတ်ပါ။
- ရခဲလှတဲ့ လူ့ဘဝကို အလွဲသုံးစားအချိန်တွေမဖြုန်းပါနဲ့။
- ခန္ဓာကိုယ်ဟာ မွေးကတည်းက အသေဘက်ကို ပြေးနေတယ်။
- မနေ့ကထက်ကနေ့ သေဖို့ တစ်ရက်နီးသွားပြီ။
- အပြေးမရပ်တဲ့ ခန္ဓာကိုယ်၊ သုသာန်မရောက်ခင် မဂ္ဂင်အလုပ် အမြန်လုပ်ပါ။
- ခန္ဓာ၏ဝတ္တရားက အသေရှာတာ၊ ဉာဏ်၏ဝတ္တရားက အသေရှောင်တာ။
- ကိစ္စဟူသရွေ့၊ မဂ်တား-ဖိုလ်တားလို့ မှတ်ပါ။
- တဏှာလောဘနိုင်းတာလုပ်နေလျှင် သေတဲ့အခါ အပါယ်ရောက်မယ်။
- တရားနာနေတဲ့အချိန်ဟာ၊ မတရားအလုပ် မလုပ်တဲ့အချိန်ပဲ။
- နိဗ္ဗာန်သည် ကံ၏အကျိုးမဟုတ်၊ ဉာဏ်၏အကျိုးသာဖြစ်တယ်။
- ရက်ရာဇာ၊ ပြဿဒါးရွေးမနေနဲ့၊ သူတော်ကောင်းအလုပ်လုပ်နေတဲ့အချိန်ဟာ မင်္ဂလာအချိန်လို့ မှတ်ပါ။
- သာသနာနဲ့ ကြုံမှ၊ သစ္စာလေးပါး ထွက်မြောက်ရေးတရားပေါ်မယ်။
- သစ္စာတရားကို နာမှ သိမယ်။ သိမှ ကျင့်မယ်။
- နားက တရားကိုနာပါ။ ဉာဏ်က ခန္ဓာကို လှည့်ပါ။

